

နိကာယ်ငါးရပ် ပိဋကတ်သုံးပုံတို့မှ ရွေးချယ်စီစဉ်ထားသော

# ဗုဒ္ဓ၏ဥပမာတစ်ထောင်

## လေးမြိုင်



သတ္တမ အကြိမ်

**ပုံနှိပ်ခြင်း**

သတ္တမအကြိမ်၊ ၁၉၇၉-ခု၊ ဇန်နဝါရီလ

**အုပ်ရေ**

၁၀၀၀

**အဖုံးပန်းချီ**

စံတိုး

**အဖုံးဘလောက်**

တသစ်နှင့်သားများ

**အဖုံးရိုက်**

လုပ်အား

**စာအုပ်ချုပ်**

ကေရီ

စာမူခွင့်ပြုချက်အမှတ် ၂၇၄/၇၇ (၆)
မျက်နှာဖုံးခွင့်ပြုချက်အမှတ် ၁၉၆

ဦးရွှေထွန်းမကာဝ (၀၁၅၂၂)၊ နှလုံးလှစာပေနှင့် (၀၂၀၇) လုပ်အားပုံနှိပ်တိုက် အမှတ် ၅၊ လမ်း ၁၇၀၊ ကန်ရှေ့တော်ကလေး ရန်ကုန်မြို့က ပုံနှိပ် ထုတ်ဝေသည်။

နိကာယ်ငါးရပ် ပိဋကတ်သုံးပုံတို့မှ ရွေးချယ်စီစဉ်ထားသော

# ဗုဒ္ဓ၏ဥပမာစကားကောင်း

ဓလေးမြှင့်

ဗုဒ္ဓ၏ ဥပမာ စကား ကောင်းများသည်

ပညာရှိတို့၏ ကိုယ်ပိုင်ဥစ္စာ မည်၏

နှလုံးလှစာပေဖြန့်ချိရေး၊ စာတိုက်သေတ္တာအမှတ် ၈၃၊
အမှတ် ၅၊ လမ်း ၁၀၀၊ ကန်တော်ကလေးစာတိုက်၊ ရန်ကုန်မြို့။
ဖုန်း-၉၀၉၈၁

ဒီနေရာက စာမျက်နှာတွေနှိပ်၍ သွားနိုင်ပါသည်...

# မာတိကာ

# မာတိကာ



## သံယုတ္တနိကာယ်

# မာတိကာ



## အင်္ဂုတ္တရနိကာယ်

## မာတိကာ



## ခုဒ္ဒကနိကာယ်

# ဥပမာ တစ်ထောင်ကျော်

မြမိုးဘီဆေး၊ စာပေမိတ်ဆွေ အချို့သည် ဤဗုဒ္ဓ၏ ဥပမာတစ်ထောင်စာအုပ်နှင့် စပ်လျဉ်း၍ ဝေဖန် ဆွေးနွေးမှု ပြုခဲ့ကြ၏။ ယင်းသို့ ဝေဖန်ဆွေးနွေး ကြရာ၌ ဥပမာ အရေအတွက် တစ်ထောင် ရှိ-မရှိ ဟူသော အချက်နှင့် အချို့ဥပမာများမှာ အကျဉ်းချုံးလွန်းသည် ဟူသော အချက် နှစ်ချက် ပါဝင်လေသည်။ ၎င်းတို့အား ပြန်လည် ရှင်းပြချက်မှာ စာဖတ် ပရိသတ် အတွက်လည်း လိုအပ်မည် ဟု သဘောရသဖြင့် ထည့်သွင်းဖော်ပြ လိုက်ရပေသည်။

ပထမ အချက်မှာ ဥပမာ ကောက်ယူ ရေတွက်ပုံ မရှင်းသောကြောင့် တစ်ထောင် မရှိဟု ယူဆဟန်တူပေ၏။ ဤစာအုပ်၌ ဗုဒ္ဓ မြွက်ကြားတော်မူသော ဥပမာ စကားပေါင်း တစ်ထောင်မက ပါရှိကြောင်း သိသာနိုင်ရန် သာဓကအချို့ကို ထုတ်ပြပါမည်။

ဤစာအုပ် စာမျက်နှာ (၃၃)၌ ထင်းတုံးဥပမာ ဟု ပါရှိ၏။ ထို၌ ထင်းတုံး သုံးမျိုး ပါဝင်လေသည်။ အစေးဓာတ်ရှိပြီး ရေစိုနေသော ထင်းတုံး၊ အစေးဓာတ်ကားမရှိ၊ ရေစိုနေသော ထင်းတုံး၊ အစေးဓာတ်လည်း မရှိ၊ ရေလည်းမစိုသော ထင်းတုံးတို့ ဖြစ်သည်။ ထို့ကြောင့် ဤနေရာ၌ ဥပမာ သုံးခုဟု သဘောမန်အားဖြင့် ကောက်ယူ ရေတွက် မိပေလိမ့်မည်။ ဤသို့ ရေတွက်ရန် မဟုတ်ပါပေ။

ထင်းစ နှစ်စကို ပွတ်တိုက်လျှင် မီးဖြစ်ပေါ်လာပုံ ဥပမာပြကွက် ဖြစ်ပေသည်။ ထို့ကြောင့် ဖော်ပြပါ ထင်းတုံးသုံးမျိုး အပြင် ပွတ်တိုက်မှု၊ မီး၊ မီးဖြစ်ပေါ်မှု တို့သည်လည်း ဥပမာပင်ဖြစ်ရာ ဥပမာ ခြောက်ခု ရေတွက်ရန် ဖြစ်၏။

ဤစာအုပ် စာမျက်နှာ (၇၃)၌ ခေါင်းဆောင်ရွေးချယ်ပါ ဟု ပါရှိ၏။ နွားကျောင်းသား နှစ်ဦးတို့သည် မိမိတို့၏ နွားအုပ်ကို မြစ်၏ သည်ဘက်ကမ်းမှ ဟိုဘက်ကမ်းသို့ မောင်းနှင် ပို့ဆောင်ပုံ ဥပမာပြကွက် ဖြစ်ပေသည်။

ထိုဥပမာ ပြကွက်၌ ခေါင်းဆောင်နှင့် နောက်လိုက် ဟူ၍ ဥပမာနှစ်ခု ရေတွက် မိတတ်၏။ သို့မဟုတ် ခေါင်းဆောင်ကောင်း နှင့် ခေါင်းဆောင်ညံ့၊ နောက်လိုက်ကောင်းနှင့် နောက်လိုက်ညံ့ ဟူ၍ ဥပမာ လေးမျိုး ရေတွက်မိတတ်၏။ ဤသို့ ရေတွက်ရန် မဟုတ်ပါပေ။

ထိုဥပမာပြကွက်၌ ပထမ နွားကျောင်းသား၊ သူ၏နွားအုပ်၊ နွားထီး၊ နွားမ၊ နွားကြီး၊ နွားလတ်၊ နွားငယ်၊ မြစ်၊ သည်ဘက်ကမ်း၊ ဟိုဘက်ကမ်း၊ ဆိပ်ကမ်းနေရာ၊ ဝဲဂယက်နှင့် ရေစီးလမ်းကြောင်း၊ ၎င်းတို့ကို သိရှိကျွမ်းကျင်ခြင်း၊ တစ်ဖက်ကမ်းသို့ ကူးမြောက်ရောက်ရှိခြင်း တို့သည်လည်း ဥပမာများ ဖြစ်၏။ ထို့ကြောင့် ပထမ နွားအုပ်ဆိုင်ရာ ဥပမာ အရေအတွက် တစ်ဆယ့်လေးမျိုး ဖြစ်လေသည်။

ဒုတိယ နွားကျောင်းသားနှင့် နွားအုပ်ကိုလည်း အလားတူ ကောက်ယူ ရေတွက်ရမည်ဖြစ်ရာ နှစ်ရပ်ပေါင်း ဥပမာ နှစ်ဆယ့်ရှစ်မျိုး ရရှိပေသည်။

ဤစာအုပ်စာမျက်နှာ (၁၉၅)၌ အဝါကြီးသူ နောက်သို့ ဟု ပါရှိ၏။ လူ တစ်ယောက်သည် မြွေ၊ မိချောင်း၊ ငှက်၊ အိမ်ခွေး၊ တောခွေး၊ မျောက် ဟူသော သတ္တဝါ ခြောက်ကောင်ကို တစ်ပေါင်းတည်း စုပြီး ချည်နှောင်ထားရာ၌ ထိုသတ္တဝါခြောက်ကောင်တို့ ဆာလောင် မွတ်သိပ်သောအခါ မိမိတို့ ကျက်စားရာ နယ်မြေဆီသို့ အသီးသီး ရုန်းဆွဲကြလေ၏။ ၎င်းတို့အထဲမှ အားအကြီးဆုံး အကောင်ဆွဲရာသို့ ကျန်သတ္တဝါ ငါးကောင်က လိုက်ပါသွားရ၏။ ထိုသတ္တဝါ ခြောက်ကောင်တို့ ရုန်းဆွဲ၍ ထွက်မသွားနိုင်ရန် တိုင်ငုတ်မြဲမြဲစိုက်ပြီး ချည်နှောင်ထားရမည် ဟု ဖော်ပြသော ဥပမာပြကွက် ဖြစ်လေသည်။

ထို ဥပမာ ပြကွက်၌ သတ္တဝါ ခြောက်ကောင်ကို အစွဲပြု၍ ဥပမာ ခြောက်မျိုး ရေတွက်မိတတ်၏။ ဤသို့ ရေတွက်ရန် မဟုတ်ပါပေ။

သတ္တဝါခြောက်ကောင်နှင့် တကွ လူ၊ ကြိုးခြောက်ချောင်း၊ ငုတ်တိုင်၊ သတ္တဝါခြောက်ကောင်တို့ ကျက်စားသည့် နေရာ ခြောက်နေရာ၊ အားကြီးသောအကောင်၊ ထို အကောင်ဆွဲရာသို့ လိုက်ပါရခြင်း တို့သည်လည်း ဥပမာများ ဖြစ်၏။ ထို့ကြောင့် ဤဥပမာပြကွက်၌ ဥပမာ နှစ်ဆယ့်နှစ်မျိုး ပါရှိလေသည်။

သက်ဆိုင်ရာ အခန်းတွင် အနှိုင်း၊ ဥပမာနှင့် အနှိုင်းခံ ဥပမေယျများ ပါရှိပေ၏။ ၎င်းတို့ကို သတိပြုမိလျှင် ပို၍ ပေါ်လွင် ပေလိမ့်မည်။ ဓမ္မရသကိုလည်း ပို၍ သိမြင် ခံစား မိပေလိမ့်မည်။

စာအုပ်အမည် ဗုဒ္ဓ၏ ဥပမာ တစ်ထောင် ဟူသည်မှာ ယေဘုယျနည်းအရ ဖြစ်၏။ စင်စစ်အားဖြင့် ဥပမာ အရေအတွက် တစ်ထောင် မက ပါဝင်လေသည်။

"ဥပမာ အချို့ အကျဉ်းချုံးလွန်းသည်" ဟူသော ဝေဖန်ချက်မှာ မှန်ပေသည်။

ဤစာအုပ်သည် ပိဋကတ် မြန်မာပြန် စာအုပ်ကြီးပေါင်း များစွာ (စာမျက်နှာ တစ်သောင်းကျော်) ထဲမှ ရွေးနုတ် စီစဉ် ထားသည့် ဓမ္မနီတိ အိတ်ဆောင်ကျမ်း ဖြစ်၏။ ဗုဒ္ဓ၏ ဒေသနာ-ဓမ္မ ဆိုင်ရာ ဥပမာ ပြကွက် အမြောက်အမြား ပါရှိအောင် ရွေးရှု စီစဉ်ထားပေ၏။ ထို့ကြောင့် စာအုပ် တစ်အုပ်လုံး အကျဉ်းချုံး ထားသည်ဟု ဆိုနိုင်လေသည်။ သို့သော် ဆိုလိုရင်း အဓိပ္ပာယ် မပေါ်လွင်နိုင်သည့် အကျဉ်းချုံးခြင်းမျိုး မဟုတ်ပေ။ လိုရင်း အနှစ်သာရကို ဦးစားပေး တင်ပြခြင်းမျိုး ဖြစ်လေသည်။

သိသာနိုင်ရန် ဖွင့်ပြသင့်သည် တို့ကို ဖွင့်ပြထားချက် များလည်း ပါရှိ၏။ ဤစာအုပ် စာမျက်နှာ (၇၉)၌ ပြဿနာရှင် ဟူ၍ ပါရှိလေသည်။ ထို ဥပမာပြကွက်မျိုးမှာ ထုတ်ဖော်၍မပြလျှင် ရှုတ်တရက် မပေါ်လွင်ပေ။ ထို့ကြောင့် ဥပမာနှင့် ဥပမေယျ ဟပ်မိအောင် ဖော်ပြ ထားလေသည်။

ဤစာအုပ် စာမျက်နှာတိုင်းသည် ဖတ်ရှုလေ့လာသူအား တစ်စုံတစ်ရာ အကျိုးပြုနိုင်စေရန် ရွေးရှု စီစဉ်ပါသည်။ စာဖတ်သူသည် မည်သည့် စာမျက်နှာကိုပင် လှန်၍ ကျော်၍ ဖတ်သည်ဖြစ်စေ ထိုက်လျောက်သော အကျိုးကျေးဇူးကို ရရှိနိုင်ပါလိမ့်မည်။

ယခု မျက်မှောက်ဘဝ၌ ဘဝအခြေမြဲ့ အနေတင့် စေနိုင်ရုံမျှမက၊ သံသရာ တစ်လျှောက်၌ မြင့်ထက်မြင့် တင့်ထက်တင့်ကာ အတုမဲ့ နိဗ္ဗာန်သို့ တိုင်အောင် ပို့ဆောင်ပေးနိုင်သည့် ဗုဒ္ဓ၏ လောက လမ်းညွှန်၊ ဓမ္မ လမ်းညွှန်များကို မြင်အောင်ကြည့်၍ ရအောင် ယူနိုင်ကြပါစေသတည်း။

# ပြင်ဆင်ဖတ်ရှုပါရန်

ဤစာအုပ်၌ စာမျက်နှာ ၇၁ မှ ၈၀ အထိ နံပါတ်များအစား ၈၁ မှ ၉၀ အထိ မှားယွင်းပါရှိနေပါသည်။
စာသားများမှာမူ အစဉ်အတိုင်းပင် မှန်ကန်ပါသည်။
၈၁ မှ ၉၀ အထိ နှစ်ကြိမ် ပါရှိနေသော်လည်း စာဆက်များ မှန်ကန်ပါသည်။

| စာမျက်နှာ | ကြောင်းရေ | အမှား | အမှန် |
|---|---|---|---|
| ၂၁ | ၉ | အမှိုင့်လွှင့်ခြင်း | အမှိုင်လွှင့်ခြင်း |
| ၂၇ | ၃ | ပိုင်ရှင်ဘည် | ပိုင်ရှင်သည် |
| ၃၃ | ၁၁ | ယှူထား | ယှူကာ |
| ၃၃ | ၂၆ | စင်စည်မှ | ပင်စည်မှ |
| ၄၄ | ၁ | နှစ်သက်သော | နှစ်ဘက်သော |
| ၄၉ | ၂၂ | အစသဖြင့် | အစဉ်သဖြင့် |
| ၅၃ | ၁၆ | တီးခတ်တိုက်သော | တီးခတ်လိုက်သော |
| ၅၉ | ၁၁ | သင်သို့ | သစ်တို့ |
| ၆၇ | ၁၀ | မဖျက်စီးရန် | မဖျက်ဆီးစေရန် |
| ၇၀ | ၃ | မကောင်းမှုစိတ်ဖြင့် | ကောင်းမှုစိတ်ဖြင့် |

**ပထမ ၈၁ မှ ၉၀ အတွင်း ပြင်ဆင်ချက်**

| | | | |
|---|---|---|---|
| ၈၆ | ၂၄ | စောင်သဖွယ် | ဖောင်သဖွယ် |
| ၈၉ | ၂၂ | ဖယ်ရှားပမ်ပါ | ဖယ်ရှားပစ်ပါ |

**ဒုတိယ ၈၁ မှ ၉၀ အတွင်း၊ ပြင်ဆင်ချက်**

| | | | |
|---|---|---|---|
| ၈၂ | ၃ | ယှူ၍ဖြစ်၏ | ဟူ၍ဖြစ်၏ |
| ၈၂ | ၆ | မက်ပညာ | မဝ်ပညာ |
| ၈၉ | ၂၂ | လေ့ကျင့်စန်း | လေ့ကျင့်ခန်း |
| ၁၁၀ | ၁ | ရန်နံ့တို့ပင်ဖြစ်စေ | ရနံ့ကိုပင်ဖြစ်စေ |
| ၁၁၂ | ၇ | လွှမ်းစဉ်မှန်ကိုတရား မှန်ကို | လမ်းစဉ်မှန် တရား မှန်ကို |
| ၁၁၅ | ၂၄ | ဖြစ်သော့မည် | ဖြစ်တော့မည် |
| ၁၁၆ | ၉ | ကြားဗုးခဲ့သည့် | ကြားဖူးခဲ့သည့် |
| ၁၁၆ | ၂၅ | ခံရမည်သူမျိုး | ခံရမည့်သူမျိုး |
| ၁၂၇ | ၁၇ | မဝစ်နိုင် | မဝင်နိုင်။ |
| ၁၃၄ | ၂၂ | ပုဂ္ဂိုလ်ကျွးများ | ပုဂ္ဂိုလ်ကြီးများ |
| ၁၃၄ | ၂၃ | အဇိတကေသကုမ္ဗလ | အဇိတကေသကမ္ဗလ |

| စာမျက်နှာ | ကြောင်းရေ | အမှား | အမှန် |
| --- | --- | --- | --- |
| ၁၃၇ | ၁၉ | ရဟန်းတောင်သို့ | ရဟန်းဘောင်သို့ |
| ၁၄၃ | ၇ | အာသဝေါတရားကို | အာသဝေါတရားတို့ |
| ၁၄၃ | ၁၄ | သိလာပြီ | သိသာပြီ |
| ၁၅၀ | ၈ | ပျက်စီးနိုင်သာတည်း | ပျက်စီးနိုင်သည်သာ တည်း |
| ၁၆၆ | ၈ | ဆိုရိုသကဲ့သို့ | ဆိုရသကဲ့သို့ |
| ၁၆၈ | ၂၅ | နိုရောဓသစ္စာ | နိရောဓသစ္စာ |
| ၁၇၀ | ၄ | ဆိုစကားသည် | ထိုစကားသည် |
| ။ | ။ | မဖြစ်နိုင်။ | မဖြစ်နိုင်၊ |
| ၁၇၁ | ၆ | အဘယ်ပုဂ္ဂိုလ်ကား | အဘယ်ပုဂ္ဂိုလ်အား |
| ။ | ၁၃ | ဖြေကြားလော | ဖြေကြားလော့ |
| ။ | ၂၄ | တတ်သူ | တတ်သူကို |
| ၁၇၅ | ၂၄ | သမ္မာသမာဓိယူသော | သမ္မာသမာဓိဟူသော |
| ၁၇၈ | ၂၀ | ပူဇော်အကာ | ပူဇော်သကာ |
| ၁၈၁ | ၄ | မြွေခွေးအိ | မြွေခွေးအို |
| ၁၈၃ | ၂၄ | ထိုင်နေပြီ။ | ထိုင်နေပြီး |
| ။ | ၂၆ | ထားပါသည်။ | ထားပါသည်'' |
| ၁၈၆ | ၂၁ | ခန္ဓာငါးပါးနိမိတ်ယူပုံ | ခန္ဓာငါးပါးနိမိတ်ပုံ |
| ၁၈၇ | ၆ | ထင်ရာ၏ | ထင်လာရာ၏၊ |
| ၁၈၉ | ၃ | တရားအလိုရှိသော | တရားကို အလိုရှိသော |
| ၁၉၁ | ၁၈ | သမုဒ္ဒရာတို့၏မျက်စိ | သတ္တဝါတို့၏မျက်စိ |
| ၁၉၂ | ၁၆ | လျှာသဖူဒ္ဒရာ | လျှာသမုဒ္ဒရာ |
| ၁၉၃ | ၂ | ရောက်မှပြီးသူ | ရောက်ရှိပြီးသူ |
| ။ | ၄ | သမုဒ္ဒရာမည်ပေည်။ | သမုဒ္ဒရာမည်ပေ၏။ |
| ။ | ၇ | ကူးပြောင်းပြီးသူ | ကူးမြောက်ပြီးသူ |
| ။ | ၂၆ | ထိုထွက်လာလေသည်။ | ယိုထွက် လာလေသည် |
| ၁၉၄ | ၁၁ | (စာကျန်) | ကာယိန္ဒြေ၊ |
| ၁၉၅ | ၁၆ | တစ်ပေါင်းတည်းဇုန်း | တစ်ပေါင်းတည်းစုန်း |
| ။ | ။ | ချည်တွတ်ထား၏။ | ချည်တုတ်ထား၏။ |
| ၁၉၇ | ၁ | ထိုငိုတ်၏ | တိုင်ငုတ်၏ |
| ။ | ၃ | ထိုငုတ် | တိုင်ငုတ် |
| ၁၉၈ | ၅ | နေတော်မူမည် | နေတော်မူသည် |
| ။ | ၂၆ | တောင့်တစ်သော ကြောင့် | တောင့်တသော ကြောင့် |
| ၂၀၀ | ၂၀ | အကွ | တကွ |
| ။ | ၂၅ | သမုဒ္ဒရာတစ်ဆင်း | သမုဒ္ဒရာတစ်စင်း |

| စာမျက်နှာ | ကြောင်းရေ | အမှား | အမှန် |
| --- | --- | --- | --- |
| ၂၀၇ | ၈ | မြှုပြင်နိုင်စွမ်း၏ | သိမြင်နိုင်စွမ်း၏။ |
| ၂၁၀ | ၂၃ | များပြားကုနီ၏။ | များပြားကုန်၏။ |
| ၂၁၄ | ၇ | ဘယ်လိုရှိသနည်း | ဘယ်သို့ရှိသနည်း |
| ၂၁၅ | ၂၇ | အလေ့အကောက် | အကျေ့အကောက် |
| ၂၁၆ | ၂၃ | ရိယပင် | ဝိရိယပင် |
| ၂၂၀ | ၁၄ | နှိမ့်၍ | ယုတ်နိမ့်၍ |
| ၂၂၀ | ၄ | ထည်ရှိ | တည်ရှိ |
| ၂၂၂ | ၁၁ | မြစ်လည်းကောင်း | မြစ်ကိုလည်းကောင်း |
| ၂၂၃ | ၁ | ယနေ့ပင် | ယနေ့ အပင် |
| 〃 | ၄ | စသည့်လုစ်ဆောင်အပ် | စသည့်လုပ်ဆောင်အင် |
| ၂၂၅ | ၂၀ | မိုးရွာသွန်းခြင်းတည် | မိုးရွာသွန်းခြင်းသည် |
| 〃 | 〃 | အဆောင်ဆင့် | အဆင့်ဆင့် |
| 〃 | ၂၃ | မြစ်ငယ်မြစ်ကြီးကို | မြစ်ငယ်မြစ်ကြီးတို့ |
| ၂၂၇ | ၂ | စားတစ်ဖွန်း | ဆားတစ်ဖွန်း |
| ၂၂၉ | ၁၆ | စသည်တို့ | စသည်တို့ကို |
| ၂၃၁ | ၉ | မီးဖြင့်မီးတောက် | မီးပြင်းမီးတောက် |
| ၂၃၃ | ၁၁ | လုယက်ဖျက်သီး | လုယက်ဖျက်ဆီး |
| ၂၄၅ | ၂၁ | အနုအကြမ်းအားဖြင့် | အနု-အကြမ်းနည်း<br>အားဖြင့် |
| ၂၅၅ | ၂၀ | မြေပြင်သို့ | စစ်မြေပြင်သို့ |
| ၂၅၇ | ၇ | ရှိုးနှိပ် | ရှိုးနှိမ်နိုင် |
| ၂၅၈ | ၁၁ | တစ်ရုံတစ်ခါ၌ | တစ်ရံခါ၌ . |
| ၂၅၉ | ၃ | အညစ်အကြေးတို့ကို | အညစ်အကြေးတို့ |
| ၂၆၀ | ၁ | အိမ်ရာတည်ထောင်<br>လော | အိမ်ရာတည်ထောင်<br>သော |
| 〃 | ၆ | ၌ရောလာသည် · | ၌ရောလာကြ၌ |
| 〃 | ၂၄ | စားသောက်မှုဆိုင်ရာ | စားသောက်မှုဆိုင်ရာ၌ |
| 〃 | ၂၅ | နံ့နက်ချိန်မှသော | နံနက်ချိန်မှသော |
| ၂၇၄ | ၁၁ | မပြုပျောက်သွား | ပြေပျောက်သွား |
| ၂၇၅ | ၂၀ | မျှထုံလောက် | ထိုမျှလောက် |
| ၂၈၅ | ၂၃ | မြက်သန့် သစ်ခက်တို့ကို | မြက်ညွန့်သစ်ခက်တို့ကို |
| ၂၈၉ | ၂၄ | ရေသောက်ပြီးသည်ကို | ရေသောက်ပြီးသည်<br>မပြီးသည်ကို |
| ၂၉၀ | ၁၉ | မြို့ပြင်ခြင်းမှ | မြို့ပြင်ခြင်းမှ |
| ၂၉၄ | ၂၆ | အညစ်အကြေး<br>ကိစ္စတို့နှင့် | အညစ်အကြေး<br>စိတ်တို့နှင့် |

# BUDDHA'S ONE THOUSAND METAPHORS

Burmese art and culture gained much from the introduction of Buddhism nearly a thousand years ago. Burma has been a prominent Buddhist country with more than ninety percent of its population professing the religion. Most of the Burmese literature of the past drew its thought and inspiration on the Buddhist Scriptures. The ethical import of the writings seldom failed to have a colouring of messages of the Buddha gleaned from the Sutta of Tri-Pitaka, the Buddhist Scriptures.

The Buddha's discourses are rich in similes and metaphors which were of great help in convincing the audience and putting across the Dhamma. These similes and metaphors were employed obviously to bring to the unenlightened audience, especially the laity who were appearently inextricably involved in secular affairs, a quick and effective understanding of the mystery of life. The orginals are, of course, in Pali. They were properly translated and adapted into the writings of the old masters of Burmese prose and poetry,

The students of Burmese literature whose prime interest and duty it is to make a note of them know how most of them are pithy and striking because they relate directly to the doings and conditions of the common people.

The Buddha it may be noted, addressed Himself to an audience composed mostly of peasants and tradesmen. The similes and metaphors He used in His discourses related to the life of the common man to whom He intended to bring enlightenment. The first metaphor He used on attaining enlightenment for Himself was in His declaration: "Oh, Carpenter Tanha, I have now seen you with my eye of wisdom. You shall never more build a new body for me. I have destroyed all the framework of KILESA and the roof of AWIJJA.

Here, the Buddha compared TANHA (attachment) to a carpenter who builds new buidings of physical make-up with the posts and beams of KILESA (defilement) and a roof of AWIJJA (ignorance). The common man in the audience saw at once the significance of relationship between attachment to life and ignorance

This and many other similes and metaphors used by the Buddha are gleaned from the Scriptures and classical literature by U Lay Myaing; Deputy Chief Editor of the Myawaddy Press. His book is titled: BUDDHA EI UPAMA TA HTAUNG (Buddha's One Thousand Metaphors).

The extracts containing the simles and metaphors are grouped in sections according to the sources, such as, the DHAMMPADA and other volumes comprising the Sutta Pitaka, the first category of

the three Pitakas which form the nucleus of the Buddhist literature.

Let me give you a few samplings of random choice.

"The one who wishes to extract cooking oil, and grinds pebbles in a mortar, will never get oil. so also, the one who works for a wrong cause with incorrect views will not achieve the desired goal."

"One cannot see one's face reflected on steaming water. So also, the one who is obsessed with anger and anxiety will not see a course beneficial to oneself or to others.".

"One who talks glibly about the correct path and principles and does nothing to attain the goal will not gain any benefit. He is like a hired cowherd who tends the cattle all day and returns them to the owner before nightfall. The cowherd cannot get the milk."

"Death is like a cowherd. The cowherd frightens the cattle with a stick and drives them to the pasture. Death uses the stick of ailment and old age to drive beings to the grave-yard"

"Horse-dealers pay special attention to the horses for sale, and make their breed good in order to get a better price. Men should also pay special attention to their own physical and mental make-up so that they may be able to work for a better life."

"The cow that is led to the slaughter-house gets nearer and nearer the slaughter-house as she takes one step

after another. Men, too, get nearer the cemetry as they walk out the house of their birth."

Well, if you want more of these and many others, you'd better get the book and keep it at your beside. Of course, the book is in Burmese, and if you know Burmese, you will enjoy reading the similes and metaphors used by the Buddha as He addressed Himself to the common men, and He had set out to save hundreds of thousands of common men, called THATTAWA WENEYA, by preaching words of wisdom in simple idiom.

**TET TOE**

The Working People's Daily [31-8-72]

(Note: This is a revised and updated version for the 6 the printing.)

* ဗုဒ္ဓမြတ်စွာ၏ တန်ဖိုးအနဃ မဂ္ဂရတနာများသည် သုံးစွဲ၍ မကုန်နိုင်၊ ဖြန့်ဝေ ပေးကမ်း၍ မကုန်နိုင်။



# ဥပမာတန်ဆောင်

ဤလူ့ဘောင်၌ လူသားတို့သည် ဖြစ်ခြင်း–ပျက်ခြင်း ဟူသော နိယာမ သဘောတရားအရ ရပ်တည်လျက် ရှိနေကြပေသည်။

ဖြစ်ခြင်း–ပျက်ခြင်း ဟူသည်မှာလည်း အကျိုးအကြောင်း၊ အဆိုး–အကောင်းနှင့် အမှား–အမှန် တို့ကို အခြေခံ၍ ဖြစ်ပေါ်ရပေသည်။

ထို့ကြောင့် လူသားတို့သည် အကျိုးအကြောင်း၊ အဆိုးအကောင်းနှင့် အမှား–အမှန်တို့ကို ပိုင်းပိုင်းခြားခြား သိမြင်ကြရန် လိုအပ်လှပေ၏။ ယင်းသို့ လူ့ဘောင်၏ အခြေခံမူလ ဖြစ်သော သဘောတရားကို ပိုင်ပိုင် သိမြင်မှုလည်း အမှားနှင့်အဆိုးကို ရှောင်ဖယ်နိုင်စွမ်း ရှိပေမည်။ အမှန်နှင့် အကောင်းကို ကျင့်သုံး လုပ်ဆောင်နိုင်စွမ်းအည်း ရှိပေလိမ့်မည်။

လူသားတိုင်းသည် မိမိ၏ ပြုလုပ်ဆောင်ရွက်ချက်တိုင်းကို အမှားနှင့် အဆိုးသို့ မရောက်စေဘဲ အမှန်နှင့် အကောင်းတို့တွင်သာ ရှိနေစေပါမူ ဤလူ့ဘောင်ကြီးသည် သာယာဝပြောသော လောကနိဗ္ဗာန်ကြီး ဖြစ်နေမည်မှာ ယုံမှားဖွယ် မရှိပေ။

သာယာဝပြောသော လောကနိဗ္ဗာန် ဟူသည်မှာ လူတိုင်းသည် စား–ဝတ်–နေရေး လူမှုရေးအရပ်ရပ်၌ ကြောင့်ကြစိုးရိမ်မှုမရှိ၊ ဆင်းရဲပင်ပန်းမှု မရှိ၊ လိုချင်တပ်မက်လွန်းခြင်း မရှိ၊ နှိပ်စက်ညှဉ်းပန်း အနိုင်ကျင့်ခြင်း မရှိ၊ မနာလို ဝန်တိုခြင်း မရှိ၊ ဝင့်ဝါ မော်ကြွားခြင်း မရှိ၊ လူတိုင်းသည် မည်သည့် လူမှုကိစ္စမျိုး၌ပင်ဖြစ်စေ သင့်တင့်လျောက်ပတ်မှု ရှိကြ၏၊ မျှတညီညွတ်မှုရှိကြ၏။ ကျေနပ်ရောင့်ရဲမှုရှိကြ၏။ ဤသည်ကား သာယာဝပြောသော လောကနိဗ္ဗာန်၏ အင်္ဂါရပ်များပေတည်း။

ရှင်တော်ဗုဒ္ဓသည် ဤကမ္ဘာလောကကြီး တစ်ခုလုံးကို သာယာဝပြောသော လောက နိဗ္ဗာန်ကြီး အဖြစ်သို့ ရောက်ရှိစေရန် များစွာ လိုလားတော်မူ၏။

## အမှောင်ခွင်းသော ဗုဒ္ဓ

လောကသားတို့သည် စင်စစ်အားဖြင့် ဆင်းရဲပင်ပန်းလျက်ရှိကြ၏ဟု ဗုဒ္ဓ ရှုမြင် သုံးသပ်မိလေသည်။ ပူပန် ကြောင့်ကြခြင်း၊ ကြောက်ရွံ့ခြင်း တို့နှင့်သာ ကြုံတွေ့နေရသည်ဟု ရှုမြင်သုံးသပ်မိလေသည်။ ထို့ကြောင့် ဗုဒ္ဓသည် ယင်းသို့ မလိုလားအပ်သော လူမှု အနိဋ္ဌာရုံများ ဆင်းပျောက်ရေးအတွက် ကြိုးပမ်း ဆောင်ရွက်တော်မူခဲ့၏။

လူမှုအနိဋ္ဌာရုံများ ဖြစ်ပေါ်ရခြင်း၏ အကြောင်းရင်းကား လိုချင် မက်မောလွန်းခြင်း၊ နှိပ်စက်ညှဉ်းပန်း အနိုင်ကျင့်လိုခြင်း၊ မနာလို ဝန်တိုခြင်း၊ ဝင့်ကြွား မောက်မော်ခြင်း၊ လိမ်လည်ကောက်ကျစ်ခြင်း စသော မကောင်းမှု ဒုစရိုက် တို့ ပေတည်း။ ယင်းသည့် မကောင်းမှု ဒုစရိုက်တို့ ဖြစ်ပေါ်ရခြင်း၏ အကြောင်းရင်းကား လူ့ဘောင်၏အခြေခံ ဖြစ်သော အကျိုးအကြောင်း၊ အဆိုး အကောင်းနှင့် အမှား အမှန်ကို ပိုင်းပိုင်းခြားခြား ပိုင်ပိုင်နိုင်နိုင်သိမြင်မှု ဉာဏ်ပညာ မရှိခြင်းပေတည်း။ ဗုဒ္ဓသည် ယင်းသို့ ဆင်ခြင်တော်မူ၍ လောကသားတို့ သိမြင်မှု ဉာဏ်ပညာ ရရှိရန် အားထုတ်ဆောင်ရွက်ခဲ့၏။ လမ်းညွှန် နည်းပြ ပြုတော်မူခဲ့၏။

ဗုဒ္ဓသည် လောကအား လမ်းညွှန်မှု ပြုရာ၌ ဥပမာဆောင်၍ ပြတော်မူလေ့ ရှိသည်။ ဗုဒ္ဓပိဋကတ်တော်များ၌ ဥပမာပေါင်း များစွာကို

တွေ့နိုင်လေသည်။ လောက ကောင်းကျိုး အတွက် အမှန်တရားကို ညွှန်ပြရာ၌ ဗုဒ္ဓ၏ ဥပမာတို့သည် ဆီမီး တစ်ထောင် သဖွယ် ဖြစ်၏။ နာယူမှတ်သားသူအဖို့ သိသာမြင်သာအောင် ဗုဒ္ဓ၏ ဥပမာတို့က ထွန်းလင်း၍ ပြလေသည်။

လောကလူ့ဘောင်ကို နည်းညွှန် လမ်းပြ ဖြူခဲ့ကြသော အသိပညာရှင် အဆက်ဆက်တို့သည် ဗုဒ္ဓ၏ ဥပမာ များကို ယူ၍ ဆင့်ပွား သုံးနှုန်းကြလေသည်။

ရှေးဟောင်းစာပေ ပျို့လင်္ကာ နီတိ စသည်တို့တွင်လည်း ဗုဒ္ဓ၏ ဥပမာများကို အနှံ့အပြား တွေ့နိုင်ပေသည်။ မျက်မှောက်ခေတ် တိုင်အောင်ပင် စာပေ၊ ဂီတ စသည်တို့တွင် လည်းကောင်း၊ ရုပ်ထဲ ရွာထဲ လူသူထဲ၌ သတိပေး ဆုံးမစကား ပြောကြားရာတွင် လည်းကောင်း၊ ဗုဒ္ဓ၏ ဥပမာများနှင့် မကင်းသည်ကို တွေ့ရပေသည်။ ဗုဒ္ဓ၏ ဥပမာများသည် လူသားတို့ အသိဉာဏ် တိုးပွားရေး အတွက် အစဉ် ထွန်းပလျက် ရှိနေမည်သာ ဖြစ်၏။

## ကျောက်ခဲက ဆီမထွက်

ရှင်မဟာရဋ္ဌသာရသည် ကိုးခန်းပျို့၌ "ကျောက်စစ်သဲကို၊ ရွှဲရွှဲဆီရည်၊ ထွက်စိမ့်သည်ဟု၊ ဆုံကျည်အာဝ၊ ပွတ်မှားကြသို့" ဟု ဖွဲ့ဆို၏။

ယင်းဥပမာ စကားရပ်သည် ဗုဒ္ဓ၏ ဥပရိပဏ္ဏာသ ပါဠိတော် သုညတဝဂ်တွင် ပါရှိလေသည်။

"ဆီကို အလိုရှိသော သူသည် ဆုံခွက်ထဲ၌ ကျောက်စရစ်၊ သဲကို ထည့်၍ ရေဖြင့်ဖျန်းကာ ဖျန်းကာ ကြိတ်ချေညှစ်သော်လည်း ဆီကိုမရရှိနိုင်၊ ထိုနည်းတူပင် မှားယွင်းသော အယူအဆ အမြင်အသိ ရှိနေသူသည် မြတ်သောအကျင့်ကို အားထုတ် ကျင့်သုံးသည် ဆိုသော်လည်း အကျိုး မရှိနိုင်" ဟူ၍ ဗုဒ္ဓ မြွက်ဆိုခဲ့လေသည်။ လောကကြောင်း၌ဖြစ်စေ၊ ဓမ္မကြောင်း၌ ဖြစ်စေ အမြင်မှန်၊ အသိမှန်၊ အယူအဆ မှန်ကန်မှုသည် မည်မျှ အရေးကြီးကြောင်း သိသာ ပေါ်လွင်လှ၏။

## ကြာရွက်ကို ရေမကပ်

သံဝရပျို့၌လည်း 'ရေပေါ်ဆီမွမ်း၊ ရေနှယ် ပြွမ်းလျက်၊ ထမ်းဗွမ်း ကြာချပ်၊ ရေမကပ်သို့'ဟု ဖွဲ့ဆို၏။

ဗုဒ္ဓအာ စတုက္ကနိပါတ်၊ ဒေါနသုတ်တွင် 'ရေ၌ပေါက်သော၊ ရေ၌ ကြီးပွားသော ကြာသည် ရေမှ အထက်သို့တက်၍ ရေဖြင့်မလိမ်းကျံ တည်သကဲ့သို့၊ လောက၌ဖြစ်သော၊ လောက၌ ကြီးပွားသော ငါသည် လောကကို လွှမ်းမိုး၍ ပြုပြင်စီမံခြင်းဟူသော သင်္ခါရလောကနှင့် လိမ်းကျံ တပ်မြဲခြင်း မရှိပြီ'ဟု မြွက်ဆိုတော်မူ၏။

## လေညာသို့ အမှိုက်လွှင့်ခြင်း

အကြွင်သူအား၊ တရားမရှု၊ ပြစ်မှားပြုသော်၊ တန္တုပြမာ၊ လေညာ ရှေးရှု၊ လွှင့်သည့်မှုန်လျှင်၊ တူရှုမျက်နှာ၊ လွှင့်ပြန်လာသို့'ဟူ၍ ဘူရိဒတ် ဇာတ်ပေါင်းပျို့တွင် ဖွဲ့ဆိုထားသည်မှာ သံယုတ်ပါဠိတော်၊ ဖုသတ္တိ သုတ်၌ ဗုဒ္ဓ ညွှန်ပြသော ဥပမာ တစ်ရပ်ပင် ဖြစ်၏။

'အကြွင်သူသည် မပြစ်မှားထိုက်သူကို ပြစ်မှားငြားအံ့၊ ပြစ်မှားသည့် မကောင်းမှုသည် ထိုသူ့ထံသို့သာ ကျရောက်၏၊ လေညာသို့ ပစ်လွှတ်သော မြူမှုန့်သည် လွှင့်သူထံသို့သာ ပြန်ရောက်သကဲ့သို့တည်း' ဟူ၍ ဗုဒ္ဓက မြွက်ဆိုလေသည်။

## ရေပူ၌ အရိပ်မထင်

ဘူရိဒတ် ဇာတ်ပေါင်းပျို့၌ပင် 'ပြင်းလှရှူရှူ၊ ကျိုက်ကျိုက်ဆူသား၊ ရေပူ၌တွင်၊ ရိပ်မမြင်သို့'ဟု ဖွဲ့ဆိုသည်မှာလည်း 'အငွေ့တထောင်းထောင်း ထွက်နေသော ရေပူ၌ကြည့်သော် မိမိမျက်နှာကို ကောင်းစွာ မမြင် နိုင်ပေ။ ထိုနည်းတူပင် ဖျက်ဆီးလိုမှုဟူသော ဒေါသ၊ ဗျာပါဒ ထကြွ သောင်းကျန်းလျက် ရှိသူသည် မိမိအကျိုး၊ သူတစ်ပါးအကျိုးကို မသိ မမြင်နိုင်ပေ' ဟူသော အင်္ဂုတ္တိုရ်ပါဠိတော်ပဉ္စကနိပါတ်၊ သင်္ဂါရဝသုတ်၌ ဗုဒ္ဓညွှန်ပြသော ဥပမာ စကားရပ်ကို ဆင့်ပွားထားခြင်း ဖြစ်၏။

## ကိုယ့်အလုပ် ကိုယ်လေးစားခြင်း

စခလ ဦးပုည၏ တောသလ ပြဇာတ်၌ 'တောမှူး ရန်ခွင်း ခြင်္သေ့မင်းသည် အခင်းမလောက် ယုန်ကိုပင် ဟောက်ကတဲ၊ ခုန်ပေါက်ကွန့်ဝဲ၊ ဇွတ်တရကြမ်း အားကုန်လှမ်း၍ ဖမ်းစမြဲ။ ရွှဲရွှဲ မုန်ယို ဆင်ပြောင်ကိုလည်း၊ ထိုယုန်ငယ်အား၊ ဖမ်းသည့်နည်းနှင့် မကွဲပြား' ဟူ၍ ဖွဲ့ဆိုထား၏။ ယင်း ဖွဲ့ဆိုချက်သည် ဗုဒ္ဓ၏ ဥပမာ စကားရပ်ကို ဆောင်ယူ ဆင့်ပွားထားခြင်းပင် ဖြစ်လေသည်။

ခြင်္သေ့မင်းသည် ဆင်ကို သတ်ပုတ်မှုလည်း လေးလေး စားစား သာလျှင် သတ်ပုတ်၏။ နွားကို သတ်ပုတ်မှုလည်း လေးလေးစားစား သာလျှင် သတ်ပုတ်၏။ ယုန်ကို သတ်ပုတ်မှုလည်း လေးလေး စားစား သာလျှင် သတ်ပုတ်၏။

ထိုသို့ လေးလေးစားစား သာလျှင် သတ်ပုတ်ခြင်းသည် အဘယ့်ကြောင့်နည်းဟူမူ 'ငါ၏ အားထုတ်မှု လမ်းစဉ်သည် မပျက်စီးစေပါနှင့်၊ အချည်းအနှီး မဖြစ်ပါစေနှင့်' ဟု နှလုံးသွင်းသောကြောင့်တည်း။

မြတ်စွာဘုရားသည် ရဟန်းတို့ကို တရားဟောမှုလည်း လေးလေး စားစားသာလျှင် ဟော၏။ ဥပါသကာ ဒါယကာတို့ကို တရားဟောမှုလည်း လေးလေး စားစားသာလျှင် ဟော၏။ ဒွန်းစဏ္ဍားတံငါ မုဆိုးတို့ကို တရားဟောမှုလည်း လေးလေးစားစားသာလျှင် ဟော၏။

ထိုသို့ လေးလေးစားစားသာလျှင် ဟောတော်မူခြင်းသည် အဘယ့်ကြောင့်နည်းဟူမူ 'မြတ်စွာဘုရားသည် တရားတော်ကို လေးစားသောကြောင့် ပင်တည်း'ဟု အင်္ဂုတ္တိုရ် ပါဠိတော်၊ သီလသုတ်၌ ဗုဒ္ဓညွှန်ပြခဲ့လေသည်။

## ခဝါသည်၏ လုပ်ထုံး

ရှင်အဂ္ဂသမာဓိသည် သုဝဏ္ဏသျှံပျို့၌ 'ပိတ်ဖြူထွေဆွေ၊ ခဝါချဝယ်၊ မေ့ာဟ်မြေးထူ၊ ရမ္မက်မြူတည်၊ ညစ်ကျူ တန့်ကျား၊ စွန်းပြောက်ငြားမူ၊ သမားခဝါ၊ စိတ်ပညာလျှင်၊ ဘာဝနာရေဖျန်း၊ ဖွပ်ပြန်လှန်းက' စသည်ဖြင့် ဖွဲ့ဆိုထား၏။

ယင်းသည့် ဥပမာ စကားရပ်သည် ဗုဒ္ဓ၏ ခန္ဓဝဂ္ဂသံသုတ်၊ ခေမက

အဝတ်ညစ်ကို ခဝါသည်ထံ အပ်နှံ၏။ ခဝါသည်က ဆပ်ပြာ အသယ်မှုန့်တို့ဖြင့် စင်ကြယ်အောင် လျှော်ဖွပ်၏။ သို့သော် ထိုအထည်၌ ဆပ်ပြာနံ့၊ ကသယ်မှုန့်နံ့တို့ မကုန်စင်သေးသော် ပိုင်ရှင်တည်း အဝတ် အသစ္စာ ပခြုပ်ထဲတွင် ထည့်၍ ပန်းနံ့သာတို့ဖြင့် ထုံ၍ထား၏။ ထိုအခါတွင်ကား အဝတ်သည် ဆပ်ပြာနံ့၊ ကသယ်မှုန့်နံ့တို့မှ စင်ကြယ် လေ၏။

ထိုနည်းတူပင် အကျင့်သီလနှင့် ပြည့်စုံသဖြင့် အမှန်လမ်းစဉ်၊ အမှန်တရားကို သိမြင်ရရှိထားသော ပုဂ္ဂိုလ်သည် ကိလေသာ အညစ်အကြေး တို့မှ ကင်းစင်ပြီး ဖြစ်သော်လည်း ပြတ်နိုင်ခဲ၊ ကွာနိုင်ခဲလှသော ဝါသနာ အစွဲမှာမူ ကျန်ရှိနေတတ် ပေ၏။ ထိုသို့ ကျန်ရှိနေခဲ့သော် ဖြစ်ပျက် ချုပ်ကြောင်း သဘောတရားတို့ကို အဖန်ဖန် ပွားများ ထည်ဆောက်ရ ပေမည်။ သို့မှသာလျှင် ယင်းသည့် အတွင်းစွဲသည် ရှင်းရှင်း ကွာပေမည် တည်းဟု ညွှန်ပြလေသည်။

## မမှောက်သော အိုး

ရှင်မဟာ သီလဝံသ၏ ပါရမီဒတော်ခန်းပျို့၌ 'ကြိမ်ခက်ဖော်င်းထန်၊ ဖျဉ်းအိုးတန်ကို၊ ပြောင်းပြန်ဦးစောက်၊ သွန်ဘိမှောက်က၊ တစ်စက်အရည်၊ နည်မျှမကြွင်း၊ အောက်ဟင်းလင်းလျှင်' ဟူ၍ ဖွဲ့ဆိုလေသည်။

ဗုဒ္ဓက သံယုတ်ပါဠိဒတော်၊ ကုမ္ဘသုတ်၌ 'ရေအိုးကို မှောက်သည်ရှိသော် ရေသည် အကြွင်းအကျန် မရှိအောင် အန်ထွက်သည်သာ တည်း။ တစ်ဖန် ပြန်၍ ဝင်တော့မည် မဟုတ်ပေ။ ထိုနည်းတူပင် အကြင်ပုဂ္ဂိုလ်သည် အသိအမြင်၌ မှန်ကန်ခြင်း၊ အကြံအစည်၊ အပြောအဆို၊ အပြုအမူတို့၌ မှန်ကန်ခြင်း တည်းဟူသော လမ်းစဉ်မှန်နှင့် ပြည့်စုံပြီး ဖြစ်သော် မကောင်းမှုဟူသမျှကို စွန့်ပယ်ပြီးဖြစ်၏။ တစ်ဖန်ပြန်လည်၍ မကောင်းမှု၌ စိတ်ရောက်ခြင်း မရှိသည်သာတည်း' ဟူ၍ ညွှန်ပြလေသည်။

## သိန်းစွန်နှင့် နှံပြီစုံတိ

ရှင်မဟာရဋ္ဌသာရ၏ ဒုတိယ မင်းခေါင်ထံပေး ရတု၌ 'ကျွဲခြေရာခွက်၊ ပက်စေလက်ကို၊ ခဲခက် ကတုတ်၊ မြေမှုံလုပ်၍၊ နှံစုတ်ငှက်ငယ်၊ သိန်းကို [illegible]

စလေ ဦးပုည၏ ခင်းကြီးရာဇသင်္ကြံထံပေး မေတ္တာစာ၌ 'ဒေသမှာ ထုံးစံ၊ သိန်းငှန်ကို ရန်တုံ့၊ဗီလုံးငှက် အာကာဉာဏ်' ဟူ၍လည်းကောင်း ဖွဲ့ဆို ရေးသားလေသည်။

ယင်းစကားရပ်ကို သံယုတ်ပါဠိတော်၊ သကုဏဂ္ဃိသုတ်၌ ဗုဒ္ဓက ဤသို့ ညွှန်းပြထားပေသည်။

ရှေး၌ ဖြစ်ခဲ့ဖူးသည်ကား သိန်းငှက် တစ်ကောင်သည် အဟုန်ဖြင့် ပျံသန်းလာပြီးလျှင် ဗီလုံး ငှက်ငယ်ကို ဖမ်းယူလေ၏။ ထိုအခါ ဗီလုံး ငှက်ငယ်က–

'ယနေ့ ငါသည် အမှားကြီး မှားခဲ့ချေပြီ တကား၊ မကျက်စား သင့်သော သူတစ်ပါး၏ နယ်မြေ၌ လာရောက် ကျက်စားမိချေပြီတကား၊ ငါ၏ ဘိုးဘွားမိဘတို့ အစဉ်အဆက် နေထိုင်ကျက်စားလာခဲ့သော ရိုးရာ ဒေသကို စွန့်ခွာမိခဲ့သဖြင့် ယခုလို ရန်သူက ဖမ်းဆီးခြင်း ခံရတော့သည်၊ အကယ်၍သာ ငါသည် ငါ့နေရာ ငါ့နယ်မြေ၌ တည်ရှိ နေခဲ့ပါမူ ဤသိန်းငှက်ကို စစ်ဆင်တိုက်ခိုက်ရမည် ဖြစ်၏၊ ယခုလို ဖမ်းဆီးခြင်း ခံရမည် မဟုတ်ချေတကား' ဟူ၍ ညည်းတွား မြည်တမ်းလေ၏။

ထိုအခါ သိန်းငှက်က 'ဤငှက်ငယ်မျှလောက်ကို ဘယ်အရပ်မှာပင် ရှိရှိ မလွှတ်တမ်း ဖမ်းမိနိုင်မည်သာ'ဟု တွေးမိ၍ ဗီလုံးငှက်၏ ဆန္ဒ အတိုင်း လွှတ်ပေးလိုက်၏။

ဗီလုံးငှက်သည် သူ၏နေရာ လယ်ကွက်ဆီသို့ ပျံသွားကာ ထွန်ကြောင်း အတွင်းရှိ ကျွဲခြေရာခွက်တွင် နားနေ၏။ ထွန်ကြောင်း မြေကျစ်စပုံ၌ ရပ်တည်လျက် "သိန်းငှက် လာခဲ့စမ်း၊ ငါ့ကို ဖမ်းလှည့်စမ်း" ဟူ၍ စိန်ခေါ်လေ၏။

သိန်းငှက်သည် အရှိန်ဖြင့် ပျံသန်းလာကာ ဗီလုံးငှက်ကို ထိုးသုတ် လိုက်လေသည်။

ဗီလုံးငှက်သည် သူ့ထံသို့ သိန်းငှက် ရောက်လုလုတွင် ကျွဲခြေရာခွက် ထဲသို့ ငုံ့ဆင်း နေလိုက်၏။ သိန်းငှက်၏ ရင်အုပ်မှာ ထွန်ကြောင်း မြေကျစ်စာပုံနှင့် တိုက်ခိုက်မိလေ၏။ ထိုအခါ သိန်းငှက်သည် ပို၍ ဒေါသမာန်တက်ကာ ထပ်မံ၍ ထိုးသုတ်ပြန်၏။ ဗီလုံးငှက်မှာမူ ကျွဲခြေရာ ခွက်မှ ထွက်လာ၍ သိန်းငှက်ကို စိန်ခေါ်လိုက်၊ ကျွဲခြေရာ ခွက်ထဲသို့

ဆင်း၍ ချောင်တိမ်းလိုက်ဖြင့် မပင်မပန်းရှိနေ၏။ သိန်းငှက်ကား မကြာမီ ရင်ကွဲ၍ သေပွဲဝင်လေသည်။

ထိုနည်းတူစွာပင် သတ္တဝါတို့သည် မိမိနှင့် မသင့်လျော်သော အရပ်ဒေသ၌ မဆည်းကပ် မမွေ့လျော်သင့်ပေ။ အကယ်၍ မိမိနှင့် မလျော်ကန်ရာ၌ မွေ့လျော် ကျက်စားမိငြားအံ့၊ ရာဂ စသော ကိလေသာမာန်၏ ချုပ်ခနှောင် ဖမ်းဆီးခြင်း ခံရမည်သာ ဖြစ်၏။

မိမိနှင့် မသင့်လျော်သော အရပ်ဒေသ၌ မွေ့လျော်ကျက်စားခြင်း ဟူသည်ကား အဆင်း၊ အနံ့၊ အသံ၊ အရသာ၊ အတွေ့အထိတည်းဟူသော ကာမ အာရုံတို့၌ တပ်မက် တွယ်တာခြင်းပေတည်း။

ဤသည်ကား ဗိလုံးငှက်ငယ်ဘက်က တင်စားညွှန်ပြသော လောဘအကြောင်း၊ ဓမ္မကြောင်း ဥပမာရပ် ဖြစ်၏။ ဒေါသ မာန်မာနကြောင့် အသိအမြင် လွဲမှားပြီး သေပွဲဝင်သွားရသော သိန်းငှက်၏ ဖြစ်ရပ်သည်လည်း လောကလူသားတို့ ဆင်ခြင်နိုင်ရန် ညွှန်ပြသော ဥပမာစကား ဖြစ်ချေသည်။

## မိုးနှင့်သရက် အိုးနှင့်ကြွက်

ရှင်မဟာရဋ္ဌသာရသည် ဒုတိယ မင်းခေါင်ထံပေး မေတ္တာစာ၌ 'ပမာဆိုရိုး၊ မိုးနှင့်သရက်၊ အိုးနှင့်ကြွက်သို့၊ သိခက်ခဲစွာ၊ ပညာ တိမ်ညင်၊ ကြံဆင်ခြင်၍' ဟု ဖွဲ့ဆို၏။

မန်လည် ဆရာတော်ကလည်း မဃဒေဝ လင်္ကာ၌ 'မိုးနှင့်သရက်၊ အိုးနှင့်ကြွက်သို့၊ တိမ်နက် ရေတူ၊ လေးမျိုးလူကို၊ မှတ်ယူ ရိပ်မြွက်၊ သိနိုင်ခက်၏-' ဟု ဖွဲ့ဆို၏။

လောက၌ လူ၏သဘာဝကို အမှန်အတိုင်း သိနိုင်ရန် ခဲယဉ်းကြောင်း ညွှန်ပြထားခြင်း ဖြစ်လေသည်။

လူကိုလေ့လာရာ၌ အမျိုးအစား ခွဲခြားကာ ဥပမာ နှိုင်းခိုင်း၍လည်း ဖွဲ့ဆိုသေး၏။

မဃဒေဝ လင်္ကာ၌ 'ချုန်းလျက် မရွာ၊ ရွာလျက် မချုန်း၊ မချုန်း မရွာ၊ ချုန်းရွာ ရွာသား၊ လေးဖြာ မိုးနှယ်၊ လူဝယ်လေးကွဲ

ဥပမာကား အင်္ဂုတ္တိုရ်ပါဠိတော်၊ ဝလာဟကဝဂ်၌ ဗုဒ္ဓမြွက်ဆိုထားသည့် ဥပမာ စကားတစ်ရပ်ပင် ဖြစ်သည်။

## မိုးလေးမျိုး လူလေးမျိုး

ရဟန်းတို့၊ မိုးလေးမျိုးရှိ၏၊ လူလည်း လေးမျိုးရှိ၏။ အဘယ်လေးမျိုး တို့နည်း ဟူမူ—

ချုန်းသာချုန်း၍ မရွာသောမိုး၊ ရွာသာရွာ၍ မချုန်းသောမိုး၊ ချုန်းလည်းမချုန်း ရွာလည်း မရွာသောမိုး၊ ချုန်းလည်း ချုန်း၍ ရွာလည်း ရွာသောမိုး ဟူ၍ မိုးလေးမျိုးတည်း။

ပြောသာပြောတတ်၍ မလုပ်တတ်သောသူ၊ လုပ်သာ လုပ်တတ်၍ မပြောတတ်သောသူ၊ ပြောလည်း မပြောတတ် လုပ်လည်းမလုပ်တတ်သူ၊ ပြောလည်း ပြောတတ်လျက် လုပ်လည်း လုပ်တတ်သူဟူ၍ လူမျိုး လေးမျိုးတည်း။

## အိုးလေးမျိုး လူလေးမျိုး

တစ်ဖန် မဃဒေဝ လင်္ကာ၌ လူကို အိုးနှင့် ဥပမာ တင်စား ဖွဲ့ဆိုပြန် သည်မှာ 'မပြည့်ပဲပိတ်၊ ပြည့် မပိတ်နှင့်၊ မပိတ် မပြည့်၊ ပိတ်ပြည့် ပြည့်သည်၊ အိုး၏ မှတ်ချက်၊ လေးမျိုးထွက်၏' ဟူ၍ ဖြစ်၏။

၎င်းဥပမာ စကားရပ်သည်လည်း အင်္ဂုတ္တိုရ် ပါဠိတော်၊ ကုမ္ဘသုတ်၌ ဗုဒ္ဓ ညွှန်ပြထားသည့် ဥပမာပင် ဖြစ်၏။

ရဟန်းတို့၊ အိုးလေးမျိုးရှိ၏။ လူလည်း လေးမျိုးရှိ၏။ အဘယ် လေးမျိုးတို့နည်း ဟူမူ—

အိုးထဲ၌ ဘာမျှမရှိဘဲ အချည်းနှီးဖြစ်လျက် ပိတ်ထားသော အိုး၊ အိုးထဲ၌ အပြည့်ရှိလျက် ဖွင့်ထားသော အိုး၊ အချည်းနှီး ဖြစ်လျက် ဖွင့်ထားသော အိုး၊ အပြည့်ရှိလျက် ပိတ်ထားသော အိုး ဟူ၍ အိုး လေးမျိုးတည်း။

အချို့သောသူသည် အပြောအဆို၊ အဝတ်အဆင်၊ အနေအထိုင်၊ အသွားအလာ စသည့် ကိုယ်အင်္ဂါ အပြုအမူတို့၌ ကြည်ညိုဖွယ်ရှိ၏။ ယဉ်ကျေး သိမ်မွေ့၏။ ကြည်ညိုဖွယ် တင့်တယ်ခြင်း ရှိ၏။ အမှန်ထရားကိုတား

မသိ။ အကြောင်းအကျိုး၊ အကောင်းအဆိုး၊ အမှား အမှန် ဟူသော သဘော သဘာဝကို ပိုင်းခြား၍ မသိတတ်။ ထိုသူမျိုးသည် အချည်းနှီး ဖြစ်လျက် ပိတ်ထားသော အိုးနှင့်တူ၏။

အချို့သောသူသည် အပြောအဆို၊ အဝတ်အဆင်၊ အနေအထိုင်၊ အသွားအလာ စသည့် ကိုယ်အင်္ဂါ အပြုအမူတို့၌ လှနေမြဲမရှိ။ ယဉ်ကျေး သိမ်မွေ့မှုမရှိ။ ကြည်ညိုဖွယ် တင့်တယ်ခြင်းမရှိ။ အမှန်တရားကိုကား သိ၏။ အကြောင်း အကျိုး၊ အကောင်း အဆိုး၊ အမှား အမှန်ဟူသော သဘောသဘာဝကို ပိုင်းခြား၍ သိတတ်၏။ ထိုသူမျိုးသည် ပြည့်လျက် ဖွင့်ထားသော အိုးနှင့်တူ၏။

အချို့သော သူသည် အပြောအဆို၊ အဝတ်အဆင်၊ အနေအထိုင်၊ အသွားအလာ စသည့် ကိုယ်အင်္ဂါ အပြုအမူ တို့၌လည်း လှနေမြဲမရှိ။ ယဉ်ကျေး သိမ်မွေ့မှုမရှိ။ ကြည်ညိုဖွယ် တင့်တယ်ခြင်းမရှိ။ အမှန် တရားကိုလည်း မသိ။ အကြောင်းအကျိုး၊ အကောင်းအဆိုး၊ အမှား အမှန် ဟူသော သဘော သဘာဝကိုလည်း မသိတတ်။ ထိုသူမျိုးသည် အချည်းနှီးဖြစ်လျက် ဖွင့်ထားသော အိုးနှင့် တူ၏။

အချို့သော သူသည် အပြောအဆို၊ အဝတ်အဆင်၊ အနေအထိုင်၊ အသွားအလာ စသည့် ကိုယ်အင်္ဂါ အပြုအမူတို့၌လည်း လှနေမြဲရှိ၏။ ယဉ်ကျေး သိမ်မွေ့၏။ ကြည်ညိုဖွယ် တင့်တယ်ခြင်းရှိ၏။ အမှန်တရား ကိုလည်း ကောင်းစွာ သိ၏။ အကြောင်းအကျိုး၊ အကောင်းအဆိုး၊ အမှား အမှန် ဟူသော သဘော သဘာဝကိုလည်း ကောင်းစွာ သိတတ်၏။ ထိုသူမျိုးသည် ပြည့်လျက် ပိတ်ထားသော အိုးနှင့်တူ၏။

ယင်းသို့လျှင် ဗုဒ္ဓသည် လူလေးမျိုးကို အိုးလေးမျိုးနှင့် နှိုင်းယှဉ် ထင်ဟပ်၍ ပြတော်မူလေသည်။

## ကြွက်လေးမျိုး လူလေးမျိုး

တစ်ဖန် မဟာဒေဝလင်္ကာ၌ လူနှင့် ကြွက်ကို ဥပမာတင်စား ဖွဲ့ဆိုသည်မှာ 'တစ်ဖြာအတူး၊ တွင်းတူး မနေအောင်း၊ တွင်းနေအောင်း မတူး၊ မတူး မနေအောင်း၊ တူးအောင်း နေအောင်းသား၊ မှတ်ကြောင်း ခေါ်ရိုး၊ ကြွက်လေးမျိုးတည့်' ဟူ၍ ဖြစ်သည်။ ဗုဒ္ဓ၏ ဥပမာ စကားရပ်ကို ဆော်ပြား ဆောင်ယူ ထားခြင်းပင်တည်း။

ရဟန်းတို့၊ ဤလောက၌ ကြွက်လေးမျိုးရှိ၏။ လူလည်းလေးမျိုးရှိ၏။ အဘယ်လေးမျိုးတို့နည်း ဟူမူ—

တွင်းသာဖောက်၍ မအောင်းသောကြွက်၊ အောင်းရုံသာအောင်း၍ တွင်းမဖောက်သောကြွက်၊ တွင်းလည်း မဖောက် အောင်းလည်း မအောင်းသောကြွက်၊ တွင်းလည်းဖောက် အောင်းလည်းအောင်းသော ကြွက်ဟူ၍ ကြွက် လေးမျိုးတို့တည်း။

ဤလောက၌ အချို့သောသူသည် ကျမ်းဂန်စာပေ အထွေထွေသော ပညာကို ဆည်းပူးသင်ကြား၏။ အမှန်တရားကိုကား မသိ။ အကြောင်းအကျိုး၊ အကောင်းအဆိုး၊ အမှားအမှန် ဟူသော သဘောသဘာဝကို ကောင်းစွာ မသိတတ်။ တွင်းသာဖောက်၍ မအောင်းသော ကြွက်နှင့် တူသူတည်း။

အချို့သော သူသည် ကျမ်းဂန်စာပေ အထွေထွေသော ပညာကို ဆည်းပူး သင်ကြားခြင်းကား မရှိ။ အမှန်တရားကိုမူ ကောင်းစွာ သိ၏။ အကြောင်း အကျိုး၊ အကောင်း အဆိုး၊ အမှား အမှန် ဟူသော သဘောသဘာဝကိုမူ ကောင်းစွာ သိတတ်၏။ အောင်း ရုံ သာ အောင်း၍ တွင်းမဖောက်သော ကြွက်နှင့် တူသူတည်း။

အချို့သော သူသည် ကျမ်းဂန်စာပေ အထွေထွေသော ပညာကိုလည်း ဆည်းပူး သင်ကြားခြင်းမရှိ။ အမှန်တရားကိုလည်းကောင်းစွာ မသိ။ အကြောင်းအကျိုး၊ အကောင်းအဆိုး၊ အမှား အမှန် ဟူသော သဘော သဘာဝကိုလည်း ကောင်းစွာမသိ။ တွင်းလည်း မဖောက် တွင်းလည်းမအောင်းသော ကြွက်နှင့်တူသူတည်း။

အချို့သော သူသည် ကျမ်းဂန်စာပေ အထွေထွေသော ပညာကိုလည်း ဆည်းပူးသင်ကြား၏။ အမှန်တရားကိုလည်း ကောင်းစွာ သိ၏။ အကြောင်းအကျိုး၊ အကောင်းအဆိုး၊ အမှား အမှန် ဟူသော သဘောသဘာဝကိုလည်း ကောင်းစွာ သိတတ်၏။ တွင်းလည်းဖောက် တွင်းလည်း အောင်းသော ကြွက်နှင့် တူသူတည်း။

[အင်္ဂုတ္တိုရ် ပါဠိတော်၊ ဝလာဟကဝဂ်၊ မူသိကာသုတ်]

ဤသည်တို့ကား ဗုဒ္ဓ၏ ဥပမာများကို သုံးသပ်ဆင်ခြင် ကြည့်နိုင်ရန် အမြက်မျှလောက်သာ တင်ပြခြင်း ဖြစ်ပေသည်။ စင်စစ်အားဖြင့်

ဗုဒ္ဓသည် လူ့သဘော လူ့သဘာဝကို လည်းကောင်း၊ လောက ဓမ္မ နှစ်ဌာနကိုလည်းကောင်း လူသားတို့ စူးစမ်းဆင်ခြင်နိုင်ရန် ဥပမာပေါင်း များစွာပင် ညွှန်ပြခဲ့ပေသည်။

ဗုဒ္ဓ၏ ကြီးမားသော ရည်ရွယ်ချက်ကား ဤလူ့ဘောင် လောက ကြီးသည် သာယာဝဖြော၍ ငြိမ်းချမ်းသော လောက နိဗ္ဗာန်ကြီး ဖြစ်တည်ရေးပင် ဖြစ်၏။ လောကသားအားလုံးတို့ သံသရာ ဝဋ်ဆင်းရဲမှ လွတ်မြောက်၍ အသာဒ်တမာတ် နိဗ္ဗာန်ရပ်ဆီသို့ ရောက်ရှိရေးပင် ဖြစ်၏။

# ဗုဒ္ဓ၏ လောကအမြင်

ဤလောက၌ လူသားတို့သာ ပဓာန အကျဆုံးဖြစ်၏။ ထို့ကြောင့် လူသားတို့ အတွေးအခေါ် အမြင်အသိ၌ မှန်ကန် တည့်မတ်စေရန် အရေးကြီးလှသည်။ သို့မှသာလျှင် လူသားတို့၏ အကြံအစည်၊ အပြော အဆိုနှင့် ပြုလုပ် ဆောင်ရွက်ချက် ဟူသမျှသည် ကမ္မားမရှိ၊ အဆိုးမရှိ၊ အမှန် အကောင်းချည်း ဖြစ်ပေါ်ပေလိမ့်မည်။ သို့ဖြစ်လျှင် လူသားတို့ အတွက် မလိုလားအပ်သော လူမှုအနိဋ္ဌာရုံများကင်းဝေးကာ ငြိမ်းချမ်း သာယာသော လောကနိဗ္ဗာန် အဖြစ်သို့ မလွဲမသွေ ရောက်ရှိပေမည်။

ဤလောက၌ လူသားတို့သည် စင်စစ်အားဖြင့် ဆင်းရဲပင်ပန်း၍ နေကြကုန်၏။ စိုးရိမ် ကြောင့်ကြ၍ နေကြကုန်၏။

ယင်းသို့လျှင် ဗုဒ္ဓသည်လူ့ဘောင်လောကကြီးကို ရှုမြင်သုံးသပ်တော် မူလေသည်။

လူသားတို့ ဆင်းရဲ ပင်ပန်း နေကြရခြင်း၏ အကြောင်းရင်းကား လောဘ၊ ဒေါသ၊ မာန်မာန စသော တစ်ဖက်စွန်းရောက် အလိုဆိုးများ ပေတည်း ဟူ၍လည်း ဗုဒ္ဓ ရှုမြင် သုံးသပ်တော်မူလေသည်။

### အနိုင်လုံခြင်းအကြောင်းရင်း

ယင်းသည့် တစ်ဖက်စွန်းရောက် အလိုဆိုးများကြောင့်ပင် အချင်းချင်း တစ်ဦးနှင့် တစ်ဦး၊ တစ်စုနှင့်တစ်စု၊ တစ်နိုင်ငံနှင့်တစ်နိုင်ငံ ယှဉ်ပြိုင်အနိုင်

လုံနေကြကုန်၏။ သာလွန် လှမ်းမိုးနိုင်ရေးအတွက် အားထုတ် ကြိုးပမ်းနေကြကုန်၏။ ယင်းသို့ အားထုတ် ကြိုးပမ်းကြရာ၌ မိမိအတွက်ကိုသာ ရှေးရှုလွန်းသဖြင့် မတရားမှု၊ မမှန်ကန်မှုများ ပါဝင်၍ လာကြကုန်သည်။ ထို့ကြောင့်လည်း အချင်းချင်း မယုံကြည်ခြင်း၊ မစာနာ မညှာတာခြင်းများ ပါဝင်လာကြပြန်သည်။ ဤသည်ပင်လျှင် ဆင်းရဲ ပင်ပန်းမှု၊ စိုးရိမ်ကြောက်ကြွမှုများ ဖြစ်ပေါ်ရန် အကြောင်းရင်းပေတည်း ဟူ၍ ဗုဒ္ဓ ရှုမြင် သုံးသပ်တော်မူလေသည်။

တစ်ဖန် ဗုဒ္ဓသည် လူသားတို့ ဆင်းရဲပင်ပန်း၊ ကြောက်ကြွ စိုးရိမ်မှု ကင်းဝေးလျက် ချမ်းမြေ့ သာယာမှု ရှိကြရန်ကို ဆင်ခြင် သုံးသပ်တော်မူပြန်လေသည်။ လောဘ၊ ဒေါသ၊ မာနမာနစသော တစ်ဖက်စွန်းရောက် အလိုဆိုးများ ကင်းရှင်းလျက် အချင်းချင်း စာနာ ညှာတာမှု၊ ကိုယ်ကျိုးကိုယ့်အတွက်ကိုသာ မရှေးရှုမှု ဟူသော ယထာဘူတဉာဏ် အမှန်တရားထွန်းကားရေးကို ဗုဒ္ဓ မြင်တော်မူ၏။

ထို့ကြောင့် ဗုဒ္ဓသည် ထိုအမှန်တရားကို လူသား တကာတို့ သိမြင်ထင်တာပေါက်၍ ကျင့်သုံးကြရန် အားထုတ်တော်မူခဲ့ခြင်း ဖြစ်ပေသည်။

## ဥပမာဖြင့် သိခြင်း

ယထာဘူတဉာဏ် အမှန်တရားကို လူသားတကာတို့ သိမြင် သဘောပေါက်ရန် ဗုဒ္ဓ အားထုတ် ဟောပြောရာ၌ ဥပမာများကို အသုံးပြုတော်မူလေ့ ရှိပေသည်။

လူ့ဘောင် လူ့လောကအတွင်း အမှန်တရားပြန့်ပွား ထွန်းကားရေးအတွက် ဗုဒ္ဓ၏ဥပမာစကားတို့သည် လွန်စွာ ထိရောက်၍ အကျိုးများလှပေသည်။

လူသားတို့အား အမှန်လမ်းကို ညွှန်ပြရာ၌ ဗုဒ္ဓသည် ဥပမာစကားကို လက်သုံးပြုခဲ့သည်။ အလေးအနက် ထားခဲ့သည်။

ဥပမာယ မိဓေ ကစ္စေ၊
အတ္ထံ ဇာနန္တိ ပဏ္ဍိတာ။

ဤလောက၌ အချို့သော သူတို့သည် ဆိုလိုရင်းသဘောကို ဥပမာဖြင့် သိမြင်ကြ၏။

ဟူ၍ပင် အင်္ဂုတ္တရနိကာယ်၊ အဋ္ဌကနိပါတ်၌ ပါရှိလေသည်။

အမှန်နှင့် အမှား၊ အကောင်းနှင့် အဆိုးကို လွယ်လွယ်ကူကူ မပင်မပန်း သိမြင်ရေးတွင် ဥပမာစကားတို့သည် မည်မျှ အရေးပါထိရောက်နိုင်ကြောင်း ဗုဒ္ဓ ကောင်းစွာ သိမြင်တော် မူလေသည်။

## လိုရာကို ယူ၍သုံး

ထို့ကြောင့်ပင် မြောက်မြားစွာသော ဥပမာ စကားရပ်တို့ကို ဗုဒ္ဓ ဖော်ကျူးတော် မူခဲ့၏။ ပညာရှင် အဆက်ဆက်တို့သည် စဉ်းစားခေါ်မြော်မြင်ရေးဆိုင်ရာ ကျိုးကြောင်းဆက် သဘောတရားကို ဖော်ပြရာ၌ ဗုဒ္ဓ၏ ဥပမာ စကားရပ်တို့ကို အသုံးပြုလေ့ ရှိခဲ့ကြ၏။ မည်သည့် အရေးအခင်း အကြောင်းကိစ္စ၌ပင် ဖြစ်စေ၊ တစ်ပါးသူတို့ သဘောပေါက်လွယ်ရန်အတွက်၊ အသိအမြင် ရှင်းလင်းသွားရန်အတွက် ဗုဒ္ဓ၏ ဥပမာစကားရပ်တို့သည် အသင့်ရှိနေသည်သာ ဖြစ်၏။ ယင်းသို့လျှင် ဗုဒ္ဓသည် ဥပမာစကား ကြွယ်ဝ ပြည့်စုံတော်မူပေသည်။

## စပါးပုံကြီး ဥပမာ

လူအများ နေထိုင်ရာ ရပ်ရွာအနီး၌ ကြီးစွာသော စပါးပုံကြီးသည် ရှိလေ၏။ အချို့သော သူသည် ထိုစပါးပုံကြီးမှ စပါးကို တောင်းဖြင့် သယ်ယူ၏။ ဆန်ကောဖြင့် သယ်ယူသူလည်း ရှိ၏။ ဗန်းဖြင့် သယ်ယူသူလည်း ရှိ၏။ အိတ်ဖြင့် သယ်ယူသူလည်း ရှိ၏။ ပုဆိုးဖြင့် ကျုံးထည့်ယူသူလည်း ရှိ၏။

ထိုသူ ထိုသူတို့အား "သင်တို့သည် စပါးကို ဘယ်က သယ်ယူခဲ့ကြသနည်း၊ ဘယ်က ရရှိကြသနည်း" ဟု မေးသော် မည်သို့ ဖြေဆိုကြမည်နည်း။

"ငါတို့သည် စပါးများကို စပါးပုံကြီးမှ သယ်ယူ လာကြကုန်၏၊ စပါးပုံကြီးမှ စပါးကို ရရှိပါကုန်၏" ဟူသော အဖြေမှ တစ်ပါး အခြားဖြေဆိုရန် မရှိပေ။

ထိုနည်းတူစွာပင် "ငါတို့ ပြောဆို ညွှန်းပြသော ဥပမာစကားကောင်းများသည် ဗုဒ္ဓမြတ်စွာ၏ အဆို အမိန့်များ ပေတည်း၊ ဗုဒ္ဓမြတ်စွာ ထံတော်ပါးမှ ရရှိထားသော ဥပမာစကားကောင်းများသာ

မါတည်း''ဟူ၍ ဗုဒ္ဓ၏ တပည့်တစ်ဦး ဖြစ်သော အရှင်ဥတ္တရမဓေထရ်က ထုတ်အသင်း ဖော်ညွှန်းလေသည်။

[အင်္ဂုတ္တိုရ် ပါဠိတော်၊ ဥတ္တရဝိပတ္တိသုတ်]

ဗုဒ္ဓသည် သစ္စာလေးပါး တရားမြတ်ကို မမြင်မသိ မရရှိသေးမီ ကာလ၊ အမှန်တရားကို ရှာဖွေစဉ်ကာလကပင် ဥပမာကို အလေး အနက် သဘောထား ရှိခဲ့ပေ၏။ အမှန်တရား ရှာဖွေရေး အတွက် လမ်းစဉ်ကို ရွေးချယ်ရာ၌လည်း ဥပမာ ထင်ဟပ်ချက်ဖြင့်ပင် လမ်းမှန်ကို သိမြင်ခဲ့ပေ၏။

## ထင်းတုံးဥပမာ

ဗုဒ္ဓ မလောင်းလျာ သိဒ္ဓတ္ထမင်းသားသည် ထီးနန်းစည်းစိမ်ကို စွန့်လွှတ်၍ တောထွက်၏။ ရသေ့ ရဟန်းအသွင်ကို ယူ၍ တရားအားထုတ်လေ၏။ ယင်းသို့ တရားအားထုတ်ရင်းပင် နေရဉ္ဇရာမြစ်အနီး ဥရုဝေလ တော အုပ်သို့ ရောက်ရှိလာလေသည်။ ထိုဥရုဝေလ တောအုပ်ထဲ၌ နေထိုင်၍ တရားအားထုတ်စဉ်မှာပင် ဥပမာ သုံးရပ်တို့ ထင်မြင်လာ၏။

ဥပမာ သုံးရပ်တို့ကား မီးဖြစ်ပေါ်စေရန် အခြေခံ အကြောင်းရင်း များပေတည်း။

မီးဖြစ်ပေါ်ရန် မည်သို့ ပြုလုပ်လေသနည်း။ မီးပြုလုပ်ရန် ဘာကို လိုအပ်လေသနည်း။

မီးကို အလိုရှိသော သူသည် သစ်သားစ ၂ စကို အကြိမ်ကြိမ် ပွတ်တိုက်ရလေသည်။ ယင်းသို့ ပွတ်တိုက်ခြင်းအားဖြင့် မီးကို ရရှိနိုင် လေသည်။

မီးပြုလုပ်သော သစ်သားသည် မည်ကဲ့သို့သော သစ်သားပေနည်း။

သစ်တုံးတစ်ခုသည် ပင်စည်မှ အစေးအဆီလည်း မခန်းခြောက်သေး၊ ရေထဲ၌လည်း နစ်မြော၍ နေ၏၊ ထိုသစ်တုံးမှ သစ်သားစတို့ဖြင့် ပွတ်တိုက်သော် မီးဖြစ်ပေါ်လာနိုင်မည်လော။ မဖြစ်ပေါ်လာနိုင်ပေ။

သစ်တုံးတစ်ခုသည် ရေထဲ၌ နစ်မြော၍ကား မနေ၊ ပင်စည်မှ အစေး အဆီအား လုံးပေလျက် ရှိနေ၏၊ ထိုသစ်တုံးမှ သစ်သားစ ဖြင့်လည်း မီး မဖြစ်ပေါ်လာနိုင်ပေ။

သစ်တုံး တစ်ခုမှာကား ပင်စည်မှ အစေးအဆီလည်း မလူးမပေ၊ ခြောက်သွေ့လျက်ရှိ၏။ ရေထဲ၌ နစ်မျောခြင်းလည်း မရှိ၊ ထိုသစ်တုံးမှ သစ်သားစဖြင့်သာ မီးပွါးလုပ်နိုင် သတည်း။

ယခင်းသို့လျှင် ဗုဒ္ဓ လောင်းလျာသည် ထင်းတုံးကို ဥပမာထင်ဟပ်၍ မြင်လေသည်။

သစ်တုံး သုံးတုံး ဟူသည်မှာ အဘယ်နည်း။

သား သမီး ဇနီးနှင့်တကွ ကာမဂုဏ် စည်းစိမ်တို့ကို မခွဲခွာ မစွန့်လွှတ်ဘဲ အတူ ရောယှက် နေထိုင်ခြင်းလည်းရှိအံ့၊ ထိုသားသမီး ဇနီးနှင့်တကွ ကာမဂုဏ်စည်းစိမ်တို့ကို စုံမက် တွယ်တာခြင်းလည်း ရှိငြားအံ့။ တရားထူး ဉာဏ်အမြင် တည်းဟူသော မီးအလင်းကို မရနိုင်။ ပထမ ထင်းတုံး ဥပမာ။

သား၊ သမီး ဇနီးနှင့်တကွ ကာမဂုဏ်စည်းစိမ်တို့ကို ခွဲခွာစွန့်လွှတ်လျက် အတူရောယှက် နေထိုင်ခြင်းကားမရှိ၊ သို့သော် ထို သားသမီး ဇနီးနှင့်တကွကာမဂုဏ်စည်းစိမ်တို့ကို စွဲလမ်းတွယ်တာခြင်း ရှိနေငြားအံ့၊ တရားထူး ဉာဏ်အမြင် တည်းဟူသော မီးအလင်းကို မရနိုင်သေး။ ဒုတိယ ထင်းတုံး ဥပမာ။

သား သမီး ဇနီးနှင့် တကွ ကာမဂုဏ် စည်းစိမ်တို့ကို ခွဲခွာ စွန့်လွှတ်လျက် အတူရောယှက် နေထိုင်ခြင်းလည်း မရှိငြားအံ့၊ ထိုသား သမီး ဇနီးနှင့်တကွ ကာမဂုဏ်စည်းစိမ်တို့ကို အာရုံကင်ငြိ၍ စွဲလမ်း တွယ်တာခြင်းလည်း မရှိငြားအံ့၊ တရားထူး ဉာဏ်အမြင် တည်းဟူသော မီးအလင်းကို မုချ ရရှိ နိုင်ပေသည်။ တတိယ ထင်းတုံး ဥပမာ။

ငါသည် တတိယ ထင်းတုံးကဲ့သို့ ဖြစ်၏။ ကိလေသာအာရုံ ကာမဂုဏ်စည်းစိမ်တို့နှင့် ရောယှက် နှီးစပ်ခြင်း မရှိ။ စွန့်လွှတ်ခဲ့ပြီ။ ကာမရာဂ ဗျာပါဒ တည်းဟူသော ကိလေသာ အစေး အစေ့ာ်တို့ဖြင့် လိမ်းကျံ ငြိခြင်းလည်း မရှိ။ စင်ကြယ် သန့်ရှင်းခဲ့ပြီ။ ထို့ကြောင့် ငါသည် ထူးမြတ်သော သစ္စာတရားကိုမလွဲမသွေ မြင်နိုင်၏၊ သိနိုင်၏။ မြင်နိုင်ရမည်၊ သိနိုင်ရမည်။

ယင်းသို့လျှင် ဗုဒ္ဓ လောင်းလျာသည် ဥပမာထင်ဟပ်၍အမှန်လမ်းကို မြင်၊ သိခဲ့ပေ၏။ မြင်သိခဲ့သည့် အလျောက်လည်း အမှန်တရားရရှိရေး လမ်းစဉ်ဖြင့် ဆက်သက် ကျင့်သုံး အားထုတ်လေရာ နောက်ဆုံး၌ သစ္စာ သိမြင်သော မြတ်ဗုဒ္ဓ အဖြစ်သို့ ရောက်ရှိလေသည်။

လောကသား တို့သည် ဆင်းရဲ ပင်ပန်း၍ နေကြရကုန်၏- ဟူ၍ လည်းကောင်း၊ ဆင်းရဲပင်ပန်းခြင်း၏ အကြောင်းရင်းကိုလည်းကောင်း၊ ဆင်းရဲပင်ပန်းခြင်းမရှိရာ နိဗ္ဗာန်ကိုလည်းကောင်း ထိုနိဗ္ဗာန်ချမ်းသာကို ရရှိစေမည့် အကျင့်လမ်းစဉ်ကို လည်းကောင်း ကောင်းစွာသိမြင်သော ကြောင့် ဗုဒ္ဓ အမည်ကို ခံယူတော်မူလေသည်။

## ဗုဒ္ဓ၏ ပထမဆုံး ဥပမာ

ဗုဒ္ဓ အဖြစ်သို့ ရောက်တော်မူခါစ ပထမဦးဆုံး ကျူးရင့်သည့် ဗုဒ္ဓ၏ စကားရပ်ကို ကြည့်ပါဦး။

> “ခန္ဓာအိမ်ကို ဆောက်လုပ်တတ်သော ဟယ်....တဏှာ လက်သမား၊ ငါသည် သင့်ကို ပညာမျက်စိဖြင့် မြင်လေပြီ၊ ခန္ဓာအိမ် နောက်တစ်ဖန် သင် ဆောက်လုပ်ရတော့မည်မဟုတ်၊ သင်၏ ကိလေသာတည်းဟူသော အခြင် ရနယ် အားလုံးတို့ကို ငါသည် ချိုးဖျက်အပ်ပြီ၊ အဝိဇ္ဇာ တည်းဟူသော အိမ်အမိုးကို ဖျက်ဆီးအပ်ပြီ”

ဤကား ဗုဒ္ဓ၏ ပထမဆုံး စကားရပ်များပေတည်း။

## လက်သမားတဏှာ ကိုယ်ခန္ဓာအိမ်ကြီး

ထိုစကားရပ်များ၌ ဥပမာထင်ဟပ်လျက် ပါရှိနေပေ၏။ လူ၏ ကိုယ် ခန္ဓာကို အိမ်အဖြစ်လည်းကောင်း၊ တဏှာကို လက်သမား အဖြစ် လည်းကောင်း၊ အိမ်၏ ကိရိယာ အခြင်ရနယ်တို့ကို ကိလေသာ အဖြစ် လည်းကောင်း၊ အိမ်၏ အမိုးကို အဝိဇ္ဇာအဖြစ်လည်းကောင်း နှိုင်းခိုင်း ထားလေသည်။

လောကသားတို့သည် အဝိဇ္ဇာ၊ တဏှာ၊ ကိလေသာတို့ကြောင့် ရှုပ် နှောက် ခန္ဓာ ဖြစ် ပျက် ပြောင်းလဲလျက် ဆင်းရဲ ပင်ပန်းနေကြပုံကို ညွှန်ပြခြင်း ဖြစ်လေသည်။

ဗုဒ္ဓသည် ထူးမြတ်သော သဗ္ဗညုတ အမြင်ကို ရရှိရေး အတွက် အားထုတ်ခဲ့ကလည်း ဥပမာထင်၍ လမ်းစကို မြင်ခဲ့၏။

သဗ္ဗညုတ်အမြင်ကို ရရှိခါစ ပထမဦးဆုံးဟောလည်း ဥပမာ ထင်ဟပ်၍ပင် ဥဒါန်းစကား ကျူးရင့်လေသည်။

ဗုဒ္ဓ အဖြစ်သို့ ရောက်၍ ၄၅ နှစ် တိုင်တိုင် လောကသားတို့အား အမှန်တရားကို ညွှန်ပြရာ၌လည်း ဥပမာ တင်စား၍ပင် မြွက်ကြားလေ့ ရှိတော်မူသည်။

ဗုဒ္ဓ၏ ဥပမာ စကားတို့ကား စုံလင်များပြားလှပေ၏။ မည်သည့် အရေးအခင်း အကြောင်းကိစ္စမျိုး၌ ဖြစ်စေ အမှန်ကို မမြင်၍၊ မသိ၍ အခက်အခဲ ရှိနေပါက ဗုဒ္ဓ၏ ဥပမာများက လွယ်ကူရှင်းလင်းစွာ ညွှန်ပြပေးနိုင်လေသည်။ လူသားတို့ အမြင် အသိ မှန်ကန် တည့်မတ်ရေးနှင့် အတွေးအခေါ် ရင့်သန်ရေးအတွက် ဗုဒ္ဓ၏ ဥပမာများသည် ဆီမီး တန်ဆောင်သဖွယ် ထွန်းလင်း၍ ပြလေသည်။



# ဥပမာ အလင်္ကာ

ကြားနာ သူတို့သည် ဥပမာကို နှစ်လိုကြသည်။ ဥပမာကြောင့်နားလည် သဘောပေါက် လွယ်ကြပေသည်။ ထို့ကြောင့်ပင် နား၏ တန်ဆာ အလင်္ကာဟူ၍ ခေါ်ဆိုရပေသည်။

ဗုဒ္ဓသည် ဥပမာအလင်္ကာ များစွာကို မြွက်ဆိုတော်မူခဲ့လေသည်။ အနီးအဝေး၊ အတို အရှည်၊ အနည်းအများနှင့် အကျဉ်း အကျယ် စသည်ဖြင့် မြောက်မြားစွာ ရှိလေသည်။

## လှမျိုးကြွယ် သီရိမာ

ဗုဒ္ဓမြတ်စွာ ရာဇဂြိုဟ်ပြည် ဝေဠုဝန်ကျောင်း၌ သီတင်းသုံး နေတော်မူစဉ်အခါ ဖြစ်၏။

ထိုခေတ် ထိုအခါဝယ် ရာဇဂြိုဟ်ပြည်၌ လွန်စွာ သတင်းကြီးသော မြို့တန်ဆာမတစ်ဦး ရှိလေသည်။ အမည်နာမအားဖြင့် သီရိမာဟူ၍

တွင်လေသည်။ တစ်စုံတစ်ယောက်သော သူသည် သီရိမာနှင့်အတူ တစ်ည တာမျှ ပျော်မွေ့လိုပါက အသပြာတစ်ထောင် ကြိုတင် ပေးရ၏။

သီရိမာသည် လှပ ကြော့ရှင်း၍ အပြစ်ကင်းစင်သူ ဖြစ်၏။ မြင်သူ တကာတို့ ငေး၍ ကြည့်ရှုရသော အလှပိုင်ရှင် ဖြစ်၏။ ကြည်လင် ချိုအေးသော အသံပိုင်ရှင်လည်း ဖြစ်၏။ ယဉ်ကျေးဖွယ်ရာသော အမူ အရာတို့နှင့်လည်း ပြည့်စုံ၏။ အပြုံးဖြင့် ဝင့်ကြည့်လိုက်သော သီရိမာ၏ မျက်လုံးအစုံသည် ယောကျ်ားသားတစ်ဦးအဖို့ ရင်ဖိုသည်းလှိုက်ဖြစ်သွား စေနိုင်၏။ သီရိမာ၏ လှုပ်ရှား ပြုမူလေသမျှသော အမူအရာတို့သည် နှစ်သက် စွဲမက်ဖွယ်ရာအတိလည်း ဖြစ်လေ၏။ ဤမျှ လှမျိုးကြွယ်သော သီရိမာပေတည်း။ အပြင် အလှ၊ မယှဉ်သာသူ ပေတည်း။

(သီရိမာသည် နောင်သောအခါ၌ ပြည့်တန်ဆာ အလုပ်မှအနားယူ လိုက်သည်၊ သံဃာ ရှစ်ပါးကို နေ့စဉ် ဆွမ်းကပ်လှူဒါန်းသူ ဥပါသိကာမ အဖြစ် ရပ်တည်နေလေသည်။)

## အလှ၌ ယစ်မူးသူ

ရဟန်းတစ်ပါးသည် သီရိမာကို မမြင်ဖူးပေ။ သီရိမာ၏ အချော အလှ သတင်းကိုကား တစ်ဆင့် ကြားသိထားလေသည်။ သီရိမာကို ကြည့်ချင် မြင်ချင်စိတ် ပြင်းပြလျက် ရှိနေသည်။

ထို့ကြောင့်ပင် ထိုရဟန်းငယ်သည် သီရိမာကို မြင်ရရေး အတွက် ရှေးရှုကာ ရာဇဂြိုဟ်ပြည် ဝေဠုဝန်ကျောင်းတော်သို့ ပြောင်းရွှေ့လာခဲ့ လေ၏။ ထိုအခါ၌ သီရိမာသည် ဝေဠုဝန် ကျောင်းတော်မှ သံဃာ ရှစ်ပါးကို အိမ်သို့ပင့်ဖိတ်၍ နေ့စဉ် ဆွမ်းလှူလျက် ရှိလေသည်။ ဝါစဉ် ကြီးငယ်အလိုက် စီစဉ်ထားသည်ဖြစ်ရာ ထိုရဟန်းငယ်သည် သူ့အလှည့်ကို တမျှော်မျှော် ရှိနေလေ၏။

ထိုရဟန်းငယ်၏ ဆန္ဒ ပြည့်ဝသွားလေ၏၊ တစ်နံနက်၌ သီရိမာ၏ အိမ်သို့ ဆွမ်းအလှူခံ သွားရမည့် သံဃာရှစ်ပါးတွင် ထို ရဟန်းငယ်လည်း အလှည့်ကျ ပါသွားလေသည်။

ထိုနေ့၌ သီရိမာသည် ရုတ်တရက် ရောဂါ စွဲကပ်လျက် မမာမကျန်း ဖြစ်နေ၏။

ထို့ကြောင့် သံသာရှစ်ပါးကို ကိုယ်တိုင် ဆွမ်းခံဖွယ်အစုံတို့ဖြင့် ပြုစု လုပ်ကျွေးခြင်း မပြုနိုင်။ အခိုင်းအစေ ရုံရွေများကိုသာလျှင်စီမံညွှန်ကြား နိုင်၏။ သိရိမာ ကိုယ်တိုင်မှာမူ သလွန်ထက်ဝယ် လျောင်းစက်လျက် နေလေ၏။

သံသာရှစ်ပါးသည် ဆွမ်း၊ ဆွမ်းဟင်းများ အပြည့်လောင်းထည့်၍ လှူလိုက်သော သပိတ်များကို အသီးသီး ယူဆောင်ကာ ကျောင်းသို့ ပြန်ကြွကြလေသည်။

သိရိမာကို ကြည့်ချင် မြင်ချင်နေသော ရဟန်းငယ်သည် ကျောင်းသို့ ရောက်သောအခါ သပိတ်ကို ချောင်ထိုးထားလိုက်တော့၏။ ဆက်နိုးကို ခေါင်းမြီးခြုံကာ ခွေအိပ်နေလေတော့၏။ 'မကျန်းမမာ ရောဂါသည် ဖြစ်သော သိရိမာသည် ရိုးရိုး သာမန် အဝတ်အဆင်မျှဖြင့် ပင်လျှင် ဤမျှလောက် လှပ ချောမောပေသေး၏၊ ကျန်းမာ၍ အဆင် တန်ဆာ ကောင်းတို့ဖြင့် ဝတ်ဆင်ထားပါမူ အတိုင်းထက်အလွန် လှပချောမော ပေမည်တည်း၊ ကြည့်ရှု၍ မဝနိုင်အောင် လှပလွန်းလှပေမည်တည်း' ဟု စွဲလမ်းလျက် နေတော့၏။ ရာဂကိလေသာ ထကြွလျက် ဝေဒနာစွဲကပ် လေတော့၏။ ဆွမ်းလည်းမစား၊ အိပ်နေရာမှလည်း မထတော့ဘဲ သိရိမာ ကိုသာလျှင် စွဲသမ်းတမ်းတ၍ နေလေ၏။

ထိုနေ့မှာပင် လှလွန်းဆွ သိရိမာသည် ရုတ်တရက် ကွယ်လွန်သွား လေသည်။

ရာဇဂြိုဟ်ပြည့်ရှင် ဗိမ္ဗိသာရ မင်းကြီးသည် သိရိမာ ကွယ်လွန်သွားပြီ ဖြစ်ကြောင်း ဗုဒ္ဓထံသို့ အကြောင်းကြား လျှောက်ထားလေသည်။

ထိုအခါ ဗုဒ္ဓသည် ''သိရိမာ၏ အလောင်းကို သုသာန်သို့ ပို့ပါ၊ မီးမရှို့ပါနှင့်ဦး၊ ကျီး ခွေး စသည်တို့ မခဲ မစားကြစေရန် ကောင်းစွာ စောင့်ရှောက်ထားပါ'' ဟု ဗိမ္ဗိသာရ မင်းကြီးအား မှာကြားတော်မူ၏။

## သိရိမာကြည့် အခမ်းအနား

၄ ရက်လွန်မြောက် ၄ ရက်သို့ရောက်သောအခါ ဗုဒ္ဓသည် ရဟန်းတို့အား သိရိမာ၏ ရုပ်ကလာပ်ကို ကြည့်ရှုရန် သုသာန်သို့ လိုက်ပါကြရမည်ဟု အကြောင်းကြားတော်မူသည်။

ထိုခဏ ခေါင်းမြီးခြုံလျက် အိပ်နေသော ရဟန်းငယ်အား မိတ်ဆွေ ရဟန်းတစ်ပါးက "အို-ရဟန်းငယ်၊ ထပါလော့၊ မြတ်စွာဘုရားသည် သီရိမာ၏ ရုပ်ကလာပ်ကို ကြည့်ရှုရန် သွားတော့မည်၊ ရဟန်းအားလုံး လိုက်ပါကြရမည်" ဟု ပြောကြားလေသည်။

ရဟန်းငယ်သည် 'သီရိမာ' ဟူသော အသံကို ကြားလိုက်ရသဖြင့် ရုတ်တရက် ဖြုန်းကနဲ ထ,ထိုင်လေ၏။

"အရှင်ဘုရား၊ ဘာပြောလိုက်တာလဲ၊ သီရိမာကို သွားကြည့်ရမယ်၊ ဟုတ်ပါသလား အရှင်ဘုရား" ဟုလည်း ကယောင်ကတမ်း ပြောကြား လိုက်လေ၏။

ရဟန်းငယ်သည် အစာမစားဘဲ ခေါင်းအိပ်လာ ဆာဂမီးတောက်လောင် လျက်ရှိသဖြင့် မိတ်ဆွေရဟန်း၏ စကားကို ရှင်းလင်းစွာ မကြားရပေ။ 'သီရိမာကို သွားကြည့်ရမည်' ဟူသော အသံသာ သူ့နား၌ စွဲနေ၏။

"ဟုတ်ပါသည် ရဟန်းငယ်၊ ယခုပဲ သွားကြပါတော့မည်၊ သီရိမာကို သွားကြည့်ကြရမည်ဟု မြတ်စွာဘုရား မိန့်ကြားတော်မူပါသည်" ဟု ထပ်မံ ပြောကြားလေသည်။

ရဟန်းငယ်သည် အလွန်စိတ်ထက်သန်လာက၍ သူ၏သပိတ်ကိုသွားယူ လေ၏။ သပိတ်သည် ယခင် သီရိမာလှူဒါန်းလိုက်သော ဆွမ်းဟင်းတို့ဖြင့် ပုပ်သိုးနံစော်လျက် ရှိနေ၏။ ရဟန်းငယ်သည် သပိတ်ကို အလျင်အမြန် ဆေးကြော သုတ်သင်ကာ အခြား ရဟန်းများနှင့် အတူ လိုက်ပါလာ ခဲ့လေ၏။

သုသာန်၌ ဗိမ္ဗိသာရမင်းကြီးနှင့် တကွ လူပရိသတ်များငွာ ရောက်ရှိ နေလေပြီ။

သီရိမာ၏ ရုပ်ကလာပ်သည် ဖူးဖူးရောင်လျက် ရှိ၏။ ပုပ်ပွ ကွဲအက် လျက် ရှိ၏။ မျက်စိ၊ နား၊ နှာခေါင်း၊ ပါးစပ်နှင့်တကွ ဒွါရကိုးပေါက် တို့မှ ပိုးလောက်ကောင်များ တရွရွ ထွက်နေကြ၏။

ဗုဒ္ဓနှင့် တကွ ရဟန်းတို့လည်း သုသာန်သို့ ရောက်ရှိ လာကြလေပြီ။ ရဟန်း ရှင် လူ အပေါင်းတို့သည် 'မည်သို့သော အကြောင်းထူးများ ရှိလိမ့်မည်နည်း' ဟူ၍ သိလိုမှု၊ စူးစမ်းလိုမှုဖြင့် တိတ်ဆိတ်လျက်ရှိနေကြ လေကုန်၏။

## သီရိမာကို အလကားယူကြလော့

ထိုအခါ ဗုဒ္ဓမြတ်စွာသည် "မင်းကြီး၊ ဤသူမကား အဘယ်သူမနည်း" ဟု မေးတော်မူ၏။

"အရှင် ဘုရား၊ သီရိမာ ဖြစ်ပါသည်" ဟု ဗိမ္ဗိသာရ မင်းကြီးက လျှောက်ကြား၏။

ဗုဒ္ဓ မြတ်စွာသည် ပရိသတ်အပေါင်းအား လေးနက်မှု ရှိစေရန် သုံးကြိမ်တိုင်တိုင် မေးတော်မူ၏။ ဗိမ္ဗိသာရ မင်းကြီးကလည်း သုံးကြိမ်တိုင်တိုင်ပင် သီရိမာ ဖြစ်ကြောင်း လျှောက်ကြားပြီးသောအခါ—

"မင်းကြီး၊ ဤသူမသည် သီရိမာ ဖြစ်ခဲ့လျှင် 'အသပြာတစ်ထောင် ပေး၍ သီရိမာကို ယူကြကုန်' ဟု ကြွေးကြော်စေလော့" ဟု မိန့်ကြားလေသည်။

ထိုအခါ ဗိမ္ဗိသာရ မင်းကြီးသည် ဗုဒ္ဓ မြောကြားသည့်အတိုင်း ဆင့်ဆိုစေရာ တစ်ဦးတစ်ယောက်မျှ ထွက်မပေါ်မလာပေ။

"တစ်ထောင်ဖြင့် ယူမည့်သူမရှိလျှင် ဈေးလျှော့ချ၍ ယူစေလော့" ဟု ဗုဒ္ဓက မိန့်ကြားသဖြင့် မင်းကြီးလည်း ငါးရာ၊ သုံးရာ၊ တစ်ရာ၊ ငါးဆယ်၊ ငါးကျပ်၊ နောက်ဆုံး၌ အဖိုးအခ မပါသော်မျှ သီရိမာကို ယူမည့်သူ မပေါ်ပေါက်ကြောင်း လျှောက်ထားလေ၏။

ဤတွင် ဗုဒ္ဓသည် ရည်ရွယ်ထားသည့်အတိုင်း တရားကို ဆက်လက် ဟောကြားတော်မူ၏။

## ခန္ဓာကိုယ်ကို ကြည့်ပါ

"ရဟန်းတို့ မင်းကြီး နှစ်သက်အပ်သော သီရိမာကို ကြည့်ကြကုန်လော့၊ ဤ သူမ ကိုယ်ပြည့်၌ ရှေးအခါကဆိုလျှင် အသပြာ တစ်ထောင် ပေးမှသာ လျှင် တစ်ညနေတာ မြူးတူး ပျော်ပါးခွင့်ကိုရနိုင်ခဲ့၏၊ အလှည့်ကျ စောင့်ဆိုင်း၍ သာလျှင် ခဲယဉ်းစွာ ရနိုင်၏၊ ယခုအခါ၌မူ အလကားဖြင့်ပင် ယူမည့်သူ မရှိတော့ချေ၊ ဤမျှလောက်အထိ လှပတင့်တယ်ပြီး တန်ဖိုးကြီးခဲ့သော ရုပ်အဆင်းသည် ကုန်ခြင်း ပျက်ခြင်းသို့ရောက်ခဲ့လေပြီ၊ အစဉ်အမြဲနာကျင်

ကိုက်ခဲလျက်ရှိသော ခန္ဓာကိုယ် အတ္တဘောကို ဉာဏ်မျက်စိဖြင့်ကြည့်ရှု ဆင်ခြင်ကြကုန်လော့”ဟု ဟောကြားတော်မူ၏။

“အကြင်သို့သော ခန္ဓာကိုယ် အတ္တဘောကို ရှုကြည့်ကြကုန်လော့၊ မယိုင်မလဲ ခိုင်မြဲ တည်တံ့ခြင်းလက္ခဏာ ရှိလေသလော၊ အဝတ်တန်ဆာ ပန်းနံ့သာတို့ဖြင့် ဆင်ယင် မွမ်းမံထားသဖြင့် သာယာ ခုံမင်ဖွယ်ရာဟု ထင်မှတ်ခနကြသည် မဟုတ်လော၊ ခြေလက် ဦးခေါင်း စသော အင်္ဂါကြီးငယ်အသွယ်သွယ်တို့ဖြင့်လည်းကောင်း၊ အသား၊ အရေ၊ အကြော၊ အရိုး စသည်တို့ဖြင့် လည်းကောင်း၊ ရှည်သင့်ရာရှည်၊ တိုသင့်ရာတို၊ ပိန်သင့်ရာပိန်၊ ဖောင်းသင့်ရာ ဖောင်းလျက် ထူထိုက် တည်ရှိနေသော ကြောင့်သာလျှင် ဉာဏ်ပညာ မရသူတို့သည် ခုံမင် နှစ်သက်နေကြ၏၊ တင့်တယ်လှပသည်၊ ကျက်သရေရှိသည်ဟု ထင်မှတ်နေကြ၏၊ စင်စစ် အားဖြင့် ဤကိုယ်အတ္တဘောသည် ကိုးပေါက်ဒွါရ အမာဝတို့မှ အစဉ် မပြတ် ယိုစီးကျလျက် စက်ဆုပ်ရွံရှာဖွယ်အတိ ဖြစ်သည်သာလျှင်တည်း” ဟူ၍လည်း ဆက်လက် ဟောကြားတော်မူလေ၏။

ထိုအခါ များစွာသော ရဟန်း၊ ရှင်၊ လူတို့သည် ဗုဒ္ဓဟောကြား တော်မူသော တရား၌ ထင်မြင် သဘောပေါက်ကာ အမှန်တရား အမှန် လမ်းကို ရရှိကြလေသည်။

သီရိမာကို စွဲလမ်း တပ်မက်၍နေသော ရဟန်းငယ်သည်လည်း ဗုဒ္ဓ၏ တရားကို ကြားနာပြီးသည်၏ အဆုံး၌ အစွဲကျွတ်ကာ အမြင်မှန် လမ်း မှန်သို့ ရောက်ရှိသွားလေသည်။

## ရေလုပွဲကြီး

ကပိလဝတ်ပြည်နှင့် ကောလိယပြည် အကြား၌ ရောဟိဏီ အမည်ရှိသော မြစ်ငယ်တစ်ခုရှိ၏။ ထိုမြစ်ငယ်မှ စီးဆင်းသော ရေကို ကန့်ပေါင်ဖို့လျက် လှောင်ထားသော ဆည်ကြီးတစ်ခုလည်း ရှိလေ၏။

ကပိလပြည်သား လယ်သမားများသည် လည်းကောင်း၊ ကောလိယ ပြည်သား လယ်သမားတို့သည်လည်းကောင်း ထိုဆည်မှ ရေကို အလျဉ်း သင့်သလို ထုတ်ယူသုံးစွဲကြမြဲဖြစ်၏။

ထိုနှစ်တွင်မူ မိုးခေါင်သောကြောင့် လယ်ရေ မလုံမလောက် ဖြစ်နေ ကြသည်။ ထို့ကြောင့် နှစ်ဖက်သော လယ်သမားတို့သည် ထိုဆည်မှ

ရေကို သူ့ဘက် ရထိုက်သည်။ ကိုယ့်ဘက် ရထိုက်သည်ဟု အငြင်းပွားကြကုန်၏။

လယ်သမားအချင်းချင်း အငြင်းပွားရာမှတစ်ဆင့် အုပ်ချုပ်သောမင်းတို့တိုင်အောင် ပြဿနာ ဆိုက်ရောက်သွားလေသည်။

လယ်ရေဝေငှမှုကိစ္စသည် မပြီးပြေသေးပေ။ နောက်ဆုံး၌ ကောလိယမင်းနှင့် ကပိလမင်းတို့ စစ်ကြေငြာသည့်အဆင့်သို့ ရောက်ရှိသွားလေသည်။

ရောဟိဏီမြစ်အနီးရှိ ကွင်းပြင်ကြီးတစ်ဝိုက်၌ နှစ်ဖက်သော စစ်တပ်ကြီးများ ချီတက်ရောက်ရှိနေကြလေပြီ။ တစ်ဖက်နှင့်တစ်ဖက် အလျှော့မပေး၊ ပြေငြိမ်းရေးစကားကို မဆိုတော့ပေ။ ဓားလှံဖွေးဖွေး စစ်ရေးပြ၍သာ နေကြလေပြီ။

## ငြိမ်းချမ်းရေးတရား

ထိုအကြောင်းကို သိတော်မူသော ဗုဒ္ဓသည် စစ်မြေပြင်သို့ တစ်ပါးတည်းကြွရောက်လာလေ၏။

ရဲရင့်ခြင်း၊ တည်ကြည်ခြင်း၊ အေးချမ်းခြင်း အသရေတို့နှင့် ပြည့်စုံသော ဗုဒ္ဓကို ဖူးမြင်ရသောအခါ စစ်သွေးစစ်မာန် တက်ကြွလျက်ရှိသော မင်း၊ မှူးမတ်၊ သေနာပတိ၊ စစ်သည်ဗိုလ်ပါတို့သည် လက်နက်အသီးသီးကို ပစ်ချကာ ဗုဒ္ဓထံသို့ အာရုံ စူးစိုက်မိကြလေ၏။ ဗုဒ္ဓကို လက်စုံမြှောက်၍ ရှိခိုးဦးတင်မိကြလေ၏။

"ကပိလမင်း– ကောလိယမင်းတို့၊ သင်တို့၏ ဤစစ်ပွဲသည် အဘယ်အရာကို အကြောင်းပြု၍ ဖြစ်ပွားကြသနည်း" ဟု ဗုဒ္ဓက တည်ငြိမ်စွာမေးမြန်းတော်မူသည်။

"ရောဟိဏီမြစ်၏ ဆည်ရေကို အကြောင်းပြု၍ ဖြစ်ပွားကြ ပါသည်ဘုရား" ဟု နှစ်ဖက်စလုံးက လျှောက်ထားကြလေသည်။

"မင်းအပေါင်းတို့၊ ဤရေသည် မည်မျှလောက် အဖိုး ထိုက်တန်ပါသနည်း၊ အတိုင်းမသိ အဖိုးထိုက်တန်ပါသလား"

"အရှင်ဘုရား၊ အတန်အသင့်မျှ အဖိုးထိုက်တန်ပါသည်၊ အတိုင်းမသိ အဖိုးထိုက်တန်သည်ကား မဟုတ်ပါဘုရား"

"မင်းအပေါင်းတို့၊ သင်တို့ နှစ်သက်သော ခတ္တိယ နွယ်ဝင် မင်း အပေါင်းတို့၏ အသက် စည်းစိမ်သည် မည်မျှလောက် အဖိုးထိုက်တန် ပါသနည်း"

"အရှင်ဘုရား၊ များစွာ အဖိုးထိုက်တန်ပါသည်၊ အတိုင်းအဆ မရှိ နိုင်ပါဘုရား"

"မင်းအပေါင်းတို့၊ အဖိုး အနည်းငယ်မျှသာလျှင် ထိုက်တန်သော ရောဟိဏီဆည် ရေချောင်းရေကို အကြောင်းပြု၍ အတိုင်းအဆမရှိ အဖိုး ထိုက်တန်သော သင်တို့၏ အသက်စည်းစိမ်ကို အဘယ်ကြောင့် ဖျက်ဆီး ပစ်ချင်ကြကုန်သနည်း၊ ခိုက်ရန် ဖြစ်ပွားခြင်းသည် စိုးစဉ်းမျှ အကျိုး မရှိပေ" ဟု ဟောကြားတော်မူလေသည်။

## ပုံပြ ၅ ဇာတ်

ထို့နောက် တစ်ဆက်တည်းပင် ဖန္ဒနဇာတ်ကို ဟောကြားတော်မူ၏။ ဒုဒ္ဒုဘဇာတ်ကိုလည်း ဆက်လက်ဟောကြားတော်မူ၏။ လဋုကိကဇာတ် ကိုလည်း ဟောကြားတော်မူ၏။ ရုက္ခဓမ္မဇာတ်၊ ဝဋ္ဋကဇာတ်တို့ကိုလည်း ဟောကြားတော်မူ၏။

ဖန္ဒန ဇာတ်သည် ဝက်ဝံတစ်ကောင်နှင့် ကြို့ပင်စောင့်နတ်တို့ အချင်း ချင်း ခိုက်ရန်ဖြစ် အငြင်းပွား အချင်းများသဖြင့် နောက်ဆုံး၌ နှစ်ဦး စလုံးပင် ဆုံးရှုံးပျက်စီးရသော ဇာတ် ဖြစ်လေသည်။

ဒုဒ္ဒုဘဇာတ်သည် ဥသျှစ်သီး ကြွေကျသံကို မြေပြိုပြီဟု ဖော်ဟစ် သော ယုန်ငယ်တစ်ကောင်၏ စကားကို ယုံကြည်မိ၍ တောတွင်းတိရစ္ဆာန် များစွာတို့ ပြေးလွှား ပျက်စီးရသော ဇာတ်ဖြစ်လေသည်။

လဋုကိကဇာတ်သည် ဗီလုံငှက်ငယ်ကို ရန်ပြု နှိပ်စက်သော ဆင်ရိုင်း ကြီးသည် ထိုဗီလုံငှက်ငယ်၏ ထပ်မံ၍ ကြံစည် ရန်ပြုမှုကြောင့် ပျက်စီး သေဆုံးရသော ဇာတ်ဖြစ်လေသည်။

ရုက္ခဓမ္မ ဇာတ်သည် တောအုပ်၌ အခြားသော သစ်ပင်များနှင့် မရောနှောဘဲ သီးသန့်ထီးတည်းရှိနေသော သစ်ပင်ကြီးကို ဗိမာန်အဖြစ် လိုချင် တောင်တမိသူ ရုက္ခစိုးသည် လေပြင်းတိုက်ခတ်သောအခါ အကာ အကွယ် အဖွဲ့အစည်းမရှိ ပျက်စီးဆုံးရှုံးရသော ဇာတ်ဖြစ်လေသည်။

ဝဋ္ဋကဇာတ်သည် ငှက်မုဆိုး၏ ပိုက်ကွန်တွင်း၌ မိကုန်သော ငုံးငှက်တို့သည် စည်းလုံးညီညွတ်မှုဖြင့် အားထုတ်ကြသဖြင့် အသက်ဘေးမှ လွတ်ခြောက်ရသော ဇာတ် ဖြစ်လေသည်။

ယင်းသို့ဖြင့် ဗုဒ္ဓသည် ငြိမ်းချမ်းရေး ညီညွတ်ရေးလျှင် ဦးတည်ရည်ညွှန်းချက်ရှိသော ဇာတ်ဝတ္ထုများကို ဟောကြားတော်မူသော အခါ ကပိလနှင့် ကောလိယ နှစ်ပြည်ထောင်မင်းတို့သည်လည်းကောင်း၊ မှူးမတ် သေနာပတိ စစ်သည်ဗိုလ်ပါတို့သည် လည်းကောင်း ရန်ပြု စစ်ခင်းခြင်းကို စွန့်လွှတ်ကြကုန်၏။ ချစ်ကြည်ရေး၊ ညီညွတ်ရေးနှင့် ငြိမ်းချမ်းရေးကိုသာလျှင် လိုလား တောင့်တကြကုန်၏။

အမြင်မှားဖြစ်၍ လမ်းမှားအတိုင်း ခရီးလှမ်းဝင်၍ လာရောက်ခဲ့ကြသူတို့သည် အမြင်မှန်ရရှိကာ လမ်းမှန်အတိုင်း ခရီးလှမ်းရုပ်သိမ်း၍ ပြန်လည် ဆုတ်ခွာသွားကြလေသည်။

ဗုဒ္ဓသည် ဖြစ်ပေါ်လာသော အကြောင်းရပ်အားလျော်စွာ ပုံခင်း၍ ပြတော်မူလေ့ရှိသည်။ ယင်းသို့ ခင်းပြသော ဗုဒ္ဓ၏ ပုံများသည် လွန်စွာ ထိရောက်လေသည်။ သက်ဆိုင်သူတို့အား များစွာအကျိုးရှိစေလေသည်။

ဗုဒ္ဓ၏ ဥပမာ အသက်ပတ္တိသည်ကား မြောက်မြားစွာ ရှိနေပေသေးသည်သာတည်း။

* ပညာရှိသောသူ၌ သီလရှိ၏။
သီလရှိသောသူ၌ ပညာရှိ၏။

* သီလကို ပညာဖြင့် စင်ကြယ်စေ၏။
ပညာကို သီလဖြင့် စင်ကြယ်စေ၏။

* လူတစ်ယောက်၏ လက်တစ်ဖက်၌ ပေကျံသော
အခြား လက်တစ်ဖက်ဖြင့် ဆေးကြော
စင်ကြယ် စေသကဲ့သို့တည်း။



# ဒီဃနိကာယ်

## ကွန်ချက်မိနေသော ငါးများ

ဤလောက၌ အချို့သော သူတို့သည် မိစ္ဆာအယူ ပြစကားအမျိုးမျိုးကို တဖောင်ဖောင် ပြောဟော၍ နေကြကုန်၏။

သတ္တဝါသည် သေပြီးသည်၏ နောက်၌ ပြတ်စဲ၏၊ မရှိတော့ဟူ၍လည်းကောင်း၊ ပေးလှူခြင်း၏အကျိုးသည် မရှိ၊ ကောင်းမှု မကောင်းမှုတို့၏ အကျိုးသည်မရှိ၊ အမိ အဖ တို့ကို ပြုစုခြင်းဖြင့် အကျိုးမရှိ၊ သတ္တဝါတို့ ညစ်ညူးရန် အကြောင်းအထောက်အပံ့သည် မရှိ၊ စင်ကြယ်စေရန် အကြောင်းအထောက်အပံ့သည်မရှိ စသည်ဖြင့် လည်းကောင်း၊ ရှေ့အဖို့ နောက်အဖို့၊ ရှေ့နောက်အဖို့ ကြံဆစွဲယူ၍ လည်းကောင်း တဖောင်ဖောင် ပြောဟော နေကြကုန်၏။

ဤသို့သော မိစ္ဆာအယူ ဟောပြောမှုကွန်ရက်အတွင်း၌ အုပ်မိကုန်သူတို့သည် ထို မိစ္ဆာအယူ ဟောပြောမှု ကွန်ကရက်အတွင်း၌ အကျုံးဝင်

ကုန်သည်ဖြစ်၍ ပေါ်လျှင်သော် လည်းကောင်း၊ တည်လျက် ရှိသည် ဖြစ်လျှင်သော်လည်းကောင်း ထို မိစ္ဆာအယူ ဟောပြောမှု ကွန်ရက် အတွင်း၌သာလျှင် ပေါ်ကြကုန်၏၊ တည်ကြကုန်၏။ ဥပမာအားဖြင့်-

တံငါသည် တစ်ဦးသည် ပိုက်ကွန်ဖြင့် ရေအိုင်ငယ်တစ်ခုကို လွှမ်းအုပ်ထားလေ၏။ ထို ရေအိုင်၌ ရှိကုန်သော ငါးတို့သည် မည်သို့ ရှိကြလေမည်နည်း။

ထိုငါးတို့တည်း လွှမ်းအုပ်ထားသော ပိုက်ကွန်အတွင်း၌ သာလျှင် အကျုံးဝင်လျက် ရှိကြကုန်သည် မဟုတ်လော။

ထို့ကြောင့်ပင်လျှင် ထို အိုင်ငယ်အတွင်း၌ ရှိနေကုန်သော ငါးတို့သည် ရေပေါ်သို့ ပေါ်လာသည် ဖြစ်စေ၊ ရေထဲ၌ ရပ်တည်နေသည်ဖြစ်စေ၊ လွှမ်းအုပ်ထားသော ပိုက်ကွန်၏ အတွင်း၌သာလျှင် ပေါ်လာရခြင်း၊ ရပ်တည် ရခြင်း ဖြစ်သကဲ့သို့တည်း။

[သီလက္ခန္ဓဝဂ္ဂ ပါဠိတော်၊ ဗြဟ္မဇာလသုတ်]

## အညာခနောက် အသီးပါ

ရဟန်းတို့၊ မြတ်စွာဘုရား၏ ကိုယ်တော် တည်နေသမျှ ကာလအတွင်း၌ သာလျှင် မြတ်စွာဘုရားကို ဖူးမြင်နိုင်ကြပေလိမ့်မည်။ အသက်တော် ကုန်ဆုံး၍ ကိုယ်တော် ပျက်စီးလေသော် မြတ်စွာဘုရားကို မဖူးမြင်နိုင်ကြတော့ပေ။

အကြောင်းမူကား မြတ်စွာဘုရား၏ ကိုယ်တော်သည် ဘဝတဏှာ ပြတ်စဲပြီးလျက်သာ တည်နေဘော်မူခသာကြောင့်တည်း။

သရက်ခိုင်သည် အညာကြေ ပြတ်လေသော် အညာ၌ တွယ်နေသော သရက်သီးအားလုံးသည် ထိုအညာသို့သာ လိုက်ပါကြမြဲတည်း။

[ဗြဟ္မဇာလသုတ်]

# လွတ်မြောက်ခြင်း၏ရလဒ်

အကျင့်သီလနှင့် ပြည့်စုံသော ပုဂ္ဂိုလ်သည် ဆိတ်ငြိမ်ရာအရပ်၌ထိုင်လျက် အောက်ဒမ္မဆင်ခြင်ခြင်း တည်းဟူသော သတိ သမ္ပဇဉ်ဖြင့် ကမ္မဋ္ဌာန်း ရှု၏။

ထိုသို့ကမ္မဋ္ဌာန်းရှု ဆင်ခြင်သောပုဂ္ဂိုလ်သည် လောက၌ မက်မောခြင်း ဟူသော အဘိဇ္ဈာကို ပယ်၏။ စိတ်ကိုအဘိဇ္ဈာမှ ကင်းရှင်း စင်ကြယ် စေ၏။

ပျက်စီးစေလိုခြင်း ဟူသော ဗျာပါဒကို ပယ်၏။ စိတ်ကို ဗျာပါဒမှ ကင်းရှင်း စင်ကြယ်စေ၏။

လေးလံထိုင်းမှိုင်းခြင်း ဟူသော ထိနမိဒ္ဓကို ပယ်၏။ စိတ်ကို ထိနမိဒ္ဓမှ ကင်းရှင်း စင်ကြယ်စေ၏။

ပျံ့လွင့်ခြင်း၊ နောင်တ ပူပန်ခြင်း ဟူသော ဥဒ္ဓစ္စ ကုက္ကုစ္စကိုပယ်၏။ စိတ်ကို ဥဒ္ဓစ္စ ကုက္ကုစ္စမှ ကင်းရှင်း စင်ကြယ်စေ၏။

ယုံမှားခြင်း ဟူသော ဝိစိကိစ္ဆာကို ပယ်၏။ စိတ်ကို ဝိစိကိစ္ဆာမှ ကင်းရှင်း စင်ကြယ်စေ၏။

ထိုသို့သော နီဝရဏတရား ငါးပါးမှ ကင်းရှင်း စင်ကြယ်အောင် ကမ္မဋ္ဌာန်းရှု ဆင်ခြင်သော ပုဂ္ဂိုလ်သည် ဝမ်းမြောက် ဝမ်းသာဖြစ်ရလေ၏။ အလွန်လျှင် ချမ်းမြေ့ရလေ၏။

ဥပမာအားဖြင့်-

လူတစ်ယောက်သည် သူတစ်ပါးထံမှ ချေးယူထားသော ကြွေးဖြင့် ကုန်သွယ်လယ်လုပ်၏။ ထိုသူသည် ကြွေးဆပ်ရဦးမည် ဟူသော ကြောင့်ကြမှုကြောင့် အစ သဖြင့် ပူပန်နေရ၏။ ဆင်းရဲပင်ပန်းနေရ၏။ ထို့နောက် ထိုသူသည် ကြွေးများကို ပြန်လည် ပေးဆပ်ပြီးသောအခါ "ငါသည် သူတစ်ပါး၏ ကြွေးကို ကျေလည်အောင် ပေးဆပ်ပြီးပြီ၊ သားသမီး ဇနီး တို့အတွက်လည်း ငွေကြေး ကျန်ရှိနေပေသေး၏၊ အရင်းအနှီး အတွက် လည်း ငါ့ထံ၌ ငွေကြေးရှိနေသေးသည် တကား" ဟူ၍ ဝမ်းမြောက် ဝမ်းသာ ဖြစ်ရသကဲ့သို့တည်း။

ထို့ပြင်-

အနာရောဂါ ပြင်းထန်စွာ နှိပ်စက်ခြင်း ခံနေရသူသည် အစာမစားနိုင်ဘဲ အားအင် ကုန်ခန်းနေ၏။ ရောဂါကြောင့် ဆင်းရဲပင်ပန်းခြင်းကြီးစွာ ခံစားနေရ၏။ ထိုသူသည် သမားကောင်း၏ ဆေးကို မှီဝဲရသဖြင့် အနာ ရောဂါမှ လွတ်မြောက်ကာ ဝမ်းမြောက် ရွှင်လန်းခြင်းဖြစ်ရသကဲ့သို့တည်း။

ထို့ပြင်-

ဖြစ်မှုကျူးလွန်မိသူ တစ်ဦးသည် ထောင်သွင်း အကျဉ်းချခြင်းခံနေရ၏။ အိမ်သူအိမ်သား ဆွေမျိုးများနှင့်လည်း တွေ့ဆုံခွင့် မရှိ။ အစားအသောက် အနေအထိုင်မှစ၍ ဆင်းရဲငြိုငြင်လှ၏။ ထိုသူသည် ထောင်မှလွတ်မြောက်သောအခါ ဝမ်းမြောက် ရွှင်လန်းခြင်း ဖြစ်ရသကဲ့သို့တည်း။

ထို့ပြင်-

သူတစ်ပါးထံ၌ ကျွန်အဖြစ် ရောက်ရှိ နေသူသည် ရှိ၏။ ထိုသူသည် အိပ်ခြင်း၊ စားခြင်း၊ သွားလာခြင်း၊ အလုပ်လုပ်ကိုင်ခြင်းတို့၌ မိမိ၏ဆန္ဒအတိုင်း လုပ်ပိုင်ခွင့် မရှိပေ။ ပိုင်ရှင်၏ ဆန္ဒအတိုင်းသာလျှင် အရာရာ၌ ဆောင်ရွက်ပေးရ၏။ လွတ်လပ်ခွင့်မရှိ။ စိတ်ရော ကိုယ်ပါ ကျဉ်းကျပ်လျက်သာ ရှိနေရ၏။ ထိုသူသည် ကျွန်အဖြစ်မှ လွတ်မြောက်ခွင့် ရရှိသောအခါ ရွှင်လန်း ဝမ်းမြောက်ရသကဲ့သို့တည်း။

ထို့ပြင်-

ခရီးသွားတစ်ဦးသည် ပစ္စည်း ဥစ္စာများကို ယူဆောင်ကာ အရပ်တစ်ပါးသို့ သွားနေ၏၊ လမ်းခရီးသည် ကြမ်းတမ်း၏၊ လုယက်တိုက်ခိုက်မည်ကိုလည်း စိုးရိမ်ရ၏၊ ကျားဆိုး မြွေဆိုးများ၏ အန္တရာယ်လည်းရှိ၏။ ထိုသူသည် ကြောက်မက်ဖွယ်ရာ ခရီးလမ်းကို စိုးရိမ် ကြောက်ရွံ့စွာဖြင့် လျှောက်ခဲ့ရာမှ မိမိလိုရာ အရပ်သို့ ချောမောစွာ ရောက်ရှိသွားသောအခါ ဝမ်းမြောက် ရွှင်လန်းခြင်း ဖြစ်ရသကဲ့သို့တည်း။

ယင်းသို့လျှင် နီဝရဏငါးပါး ပိတ်ပင်မှုတရားဆိုးတို့ကို ထိန်းချုပ်ပြီး၊ ပယ်စွန့်ပြီး၊ ကင်းစင်ပြီးဖြစ်သော ပုဂ္ဂိုလ်သည်-

## ရေချိုးကသယ်မှုန့်

ကြေးမုံ ကောင်းရှင်းပြီးသူကဲ့သို့၊ အနာရောဂါ ပျောက်ကင်းပြီးသူကဲ့သို့၊ အကျဉ်းထောင်မှ လွတ်မြောက်ပြီးသူကဲ့သို့၊ ကန္တာရ ခရီးကြမ်းကို ကျော်လွန်ခဲ့ပြီးသူကဲ့သို့ ဝမ်းမြောက်ခြင်း ဖြစ်ရလေ၏။

နီဝရဏ ငါးပါး ပိတ်ပင်မှု တရားဆိုးတို့ကို နှိမ်နင်း အနိုင်ယူပြီး ပယ်စွန့်ပြီး ဖြစ်၍ ဝမ်းမြောက်သော ပုဂ္ဂိုလ်သည် နှစ်သိမ့်ခြင်းပီတိဖြစ်ရ၏။ နှစ်သိမ့်သော စိတ်ရှိသည့် ပုဂ္ဂိုလ်၏ ကိုယ်သည် ငြိမ်းအေး၏။ ငြိမ်းအေးသော ကိုယ်ရှိသည့် ပုဂ္ဂိုလ်သည် ချမ်းသာ၏။ ချမ်းသာသော ပုဂ္ဂိုလ်၏ စိတ်သည် တည်ကြည်၏။

ထိုပုဂ္ဂိုလ်အား နှစ်သိမ့်ခြင်း၊ ချမ်းသာခြင်းသည် ကိုယ်လုံးအနှံ့ပျံ့၍ သာလျှင် တည်လေ၏။ မပျံ့နှံ့ဘဲ လပ်နေသည့် နေရာဟူ၍ စိုးစဉ်းမျှ မရှိပေ။

ဥပမာအားဖြင့်—

ဆပ်ပြာ ပြုလုပ်ရာ၌ ကျွမ်းကျင်သူသည် ရေချိုးကသယ်မှုန့်(ဆပ်ပြာမှုန့်)ကို ကြေးခွက်တွင် ထည့်၍ ရေဖြင့်ဖျန်းကာ ဖျန်းကာ အကြိမ်ကြိမ် နယ်ခြင်း ဆုပ်ခြင်း ပြုလုပ်၏။ ထိုအခါ အခဲဖြစ်လာ၏။ ထိုအခဲ၌ ဆပ်ပြာမှုန့် (ကသယ်မှုန့်) အစေးတို့သည် တစ်ခဲလုံး တစ်ပြင်လုံး ပျံ့နှံ့ ထုံမွမ်း တည်နေသည်သာ ဖြစ်သကဲ့သို့တည်း။

## ဝိပဿနာဉာဏ်အမြင်

ထိုသို့လျှင် တရားကို ရှုမှတ်ဆင်ခြင်သော အကြောင် ပုဂ္ဂိုလ်သည် အကျင့်သီလ၌ စင်ကြယ်သန့်ရှင်းပြီး ဖြစ်ကြောအံ့၊ ထိုပုဂ္ဂိုလ်၏ စိတ်သည် အညစ်အကြေး ကင်းရှင်း၍ ကြည်လင်သန့်ရှင်းပြီး ဖြစ်ကြောအံ့၊ တည်ကြည်ခြင်း၊ ခိုင်ခံ့ခြင်း ရှိကြောအံ့၊ ထိုပုဂ္ဂိုလ်သည် ဝိပဿနာဉာဏ် အမြင်အားဖြင့်—

ငါ၏ ဤ ကိုယ်ခန္ဓာအား မဟာဘုတ်လေးပါး အစုအဝေးဖြစ်၏ ဟူ၍ သိ၏။ မိဘတို့မှ ပေါက်ဖွားလာပြီး ကျွေးမွေးပြုစုခြင်းများကြောင့် ကြီးပွားလာရသည်ဟု သိ၏၊ ဤခန္ဓာကိုယ်သည် မမြဲခြင်း၊ ပြိုကွဲပျက်စီး

ခြင်း သဘောရှိသည်ဟု ကောင်းစွာ သိမြင်၏။ ငါ၏ ဝိညာဉ်သည် ဤခန္ဓာကိုယ်၌ မှီတွယ် ဆက်စပ်၍ နေသည်ဟူ၍ ကောင်းစွာ သိမြင်၏။ ဥပမာအားဖြင့်—

## သန့်စင်သော ပတ္တမြားကဲ့သို့

အမျိုးမွန်သော ဝေဠုရိယ ကျောက်မျက်ရွဲကို ကျောက်သွေးဆရာသည် ကောင်းစွာ သွေးပြီးဖြစ်၏။ လိုအပ်သော ပုံသဏ္ဌာန်သို့ ရောက်အောင် ပြုပြင်ထားပြီး ဖြစ်၏။ ထိုဝေဠုရိယ ပတ္တမြားကို လှပသော ပိုးချည်ဖြင့် တပ်ဆင်ထား၏။ မျက်စိကောင်းသော သူသည် ထိုဝေဠုရိယ ပတ္တမြား မျက်ရွဲကို အနောက်အကျ မရှိ၊ ကြည်လင် တောက်ပသည် ဟူ၍လည်း ကောင်း၊ တပ်ဆင်ထားသော ပိုးကြိုးသည် အညိုရောင်၊ သို့မဟုတ် အဝါ၊ အဖြူ စသည် ဟူ၍ လည်းကောင်း ထင်ရှားစွာ ကြည်လင်စွာ ရှုမြင်ရသကဲ့သို့တည်း။

## ဓားသည်တစ်ခု ဓားအိမ်သည်တစ်ခု

ယင်းကဲ့သို့ ဝိပဿနာ ဉာဏ်အမြင်သို့ ရောက်ပြီးသော၊ စိတ်ကို စေစားနိုင်သည့် အဖြစ်သို့ ရောက်ရှိသော ပုဂ္ဂိုလ်သည် မနောမယိဒ္ဓိ ဉာဏ်ကို ရရှိသူ မည်၏။ ထိုပုဂ္ဂိုလ်သည် မိမိခန္ဓာကိုယ်ပုံသဏ္ဌာန်နှင့်ခြားကိုယ်ပွား ရုပ်ပွားပုံသဏ္ဌာန်များကို ဖန်ဆင်း၍ ပြနိုင်၏။ ဥပမာအားဖြင့်—

ယောကျ်ား တစ်ယောက်သည် ဓားအိမ်နှင့် တကွ သန်လျက်ကို ကိုင်ဆောင်ပြီးလျှင် 'ဤသည်ကား သန်လျက်တည်း၊ ဤသည်ကား သန်လျက် အိမ်တည်း၊ သန်လျက်နှင့် သန်လျက်အိမ်သည် တခြားစီပေတည်း' ဟု ဆွဲနှုတ်၍ ပြနိုင်သကဲ့သို့တည်း။ ခွဲခြား၍ သိမြင်နိုင်သကဲ့သို့တည်း။

## အိုးထိန်းသည်ကဲ့သို့

ယင်းကဲ့သို့ သီလစင်ကြယ်၍ စိတ်အစဉ် ကြည်လင် သန့်ရှင်းပြီးသော ဝိပဿနာဉာဏ်အမြင်သို့ ရောက်ရှိပြီးသူသည် တန်ခိုးဖန်ဆင်းခြင်း ဣဒ္ဓိဝိဓ ဉာဏ် ရရှိသူ ဖြစ်ပေ၏။

တစ်ယောက်တည်းဖြစ်လျက် အများအပြား ပုံသဏ္ဌာန်ကို ဖန်ဆင်းပြနိုင်သည်။ အများအပြားကို တစ်ယောက်တည်းကဲ့သို့ ဖန်ဆင်းပြနိုင်သည်။ နံရံကို ဖောက်ထွင်း၍လည်းကောင်း၊ မြေ၊ ရေတို့ကို ငုပ်လျှိုး၍လည်းကောင်း၊ ကောင်းကင်၌ ငှက်ကဲ့သို့ ပျံသန်း၍ လည်းကောင်း ပြသနိုင်စွမ်း ရှိပေ၏။ ဥပမာအားဖြင့်–

အိုးထိန်းသည်သည် မြေကိုညက်စွာ ပြုလုပ်ပြီးသော် အိုးကြီးအိုးလတ်၊ အိုးငယ် အမျိုးမျိုးကို ပြုလုပ်ပြနိုင်သကဲ့သို့တည်း။

ပန်းပုသမားသည် ဆင်စွယ် သစ်သားတို့ဖြင့် ရုပ်ပုံ အမျိုးမျိုးကို ထုလုပ်၍ ပြနိုင်သကဲ့သို့တည်း။

## စည်ကြီးသံလား ခရုသင်းသံလား

ယင်းကဲ့သို့ သီလစင်ကြယ်၍ စိတ်အစဉ် ကြည်လင် သန့်ရှင်း၊ ပြီးသော ဝိပဿနာဉာဏ်အမြင့်သို့ ရောက်ရှိပြီးသူသည် ဒိဗ္ဗသောတဉာဏ်ကို ရရှိနိုင်၏။ သာမန်လူတို့ထက် သာလွန်၍ ကြားသိနိုင်၏။ ရပ်နီးရပ်ဝေးမှ အသံမျိုးစုံကို ကြားသိနိုင်စွမ်း ရှိပေ၏။ ဥပမာအားဖြင့်–

ခရီးသွား ယောကျ်ားတစ်ယောက်သည် မင်းနေပြည် မြို့တော်ဆီမှ တီးခတ်ထိုက်သော စည်ကြီးသံ၊ ခရုသင်းသံ၊ ပတ်သာသံ စသည်ကို ကောင်းစွာ ခွဲခြား၍ ကြားသိနိုင်သကဲ့သို့တည်း။

## ရေခွက်ထဲက မျက်နှာ

ယင်းကဲ့သို့ သီလစင်ကြယ်၍ စိတ်အစဉ် ကြည်လင် သန့်ရှင်း၊ ပြီးသော ဝိပဿနာဉာဏ်အမြင့်သို့ ရောက်ရှိပြီးသူသည် သူတစ်ပါး၏ စိတ်အစဉ်ကို သိမြင်သော စေတောပရိယဉာဏ်ကို ရရှိနိုင်ပေ၏၊

ဤသူ ထိုသူတို့သည် စိတ်ဆင်းရဲနေ၏၊ စိတ်ချမ်းသာနေ၏၊ မကောင်းမှုကို ကြံစည်နေ၏၊ စိတ်ညစ်ညူးနေ၏၊ စိတ်ကြည်လင် သန့်ရှင်းနေ၏ စသည်ကို သိမြင်နိုင်စွမ်း ရှိပေ၏၊ ဥပမာအားဖြင့်–

မျက်စိကောင်းသော သူသည် ကြည်လင်သည့် ရေခွက်ကို ကြည့်သည် ရှိသော် မိမိ၏မျက်နှာကို ကောင်းစွာ သိမြင်နိုင်သကဲ့သို့တည်း။ မိမိ၏

မျက်နှာ၌ မည်ကဲ့သို့သော အစွန်းအထင်းများရှိသည်၊ မရှိသည်ကို မြင်နိုင်သကဲ့သို့တည်း။

## မှတ်မိသော ၌ာနေပြန်

ယင်းကဲ့သို့ သီလ စင်ကြယ်၍ ကြည်လင် သန့်ရှင်းပြီးသော ဝိပဿနာ ဉာဏ်အမြင်သို့ရောက်ရှိပြီးသူသည် ပုဗ္ဗေနိဝါသာနုဿတိဉာဏ်ကို ရရှိနိုင်၏။ ရှေး၌ ဖြစ်ခဲ့ဖူးသည်တို့ကို သိနိုင်ပေ၏။

"ငါသည် ရှေးရှေးသော ဘဝတော့တွင်းက လူဖြစ်ခဲ့သည်၊ ခွေးဖြစ်ခဲ့သည်၊ နတ်ဖြစ်ခဲ့သည်၊ ဆင်၊ မြင်း၊ ကျွဲ၊ စသည် ဖြစ်ခဲ့သည်၊ ဘယ်လိုရုပ်ဆင်းသဏ္ဍာန်မျိုး ဖြစ်ခဲ့သည်၊ ဆင်းရဲသည်၊ ချမ်းသာသည်" စသည်ကို ပြန်လည် နှလုံးသွင်း၍ သိမြင်နိုင်၏။ တစ်ဘဝ၊ နှစ်ဘဝ၊ ဧဘဝ၊ ဘဝ ၂၀ စသည်ကို ပြန်လည်၍ သိမြင်နိုင်ပေ၏။ ဥပမာအားဖြင့်—

လူတစ်ယောက်သည် မိမိနေထိုင်ရာရွာမှ အခြားတစ်ရွာသို့ သွား၏။ ထိုရွာမှလည်း အခြားရွာသို့ သွားပြန်၏။ ဆက်လက်၍ အခြားရွာ၊ နိဂုံး၊ မြို့ကြီးများသို့လည်း သွားလေ၏။ ထိုသူသည် ဒေသအသီးသီးသို့ သွားရောက်ပြီးလျှင်မိမိနေထိုင်ရာ ရပ်ရွာသို့ပြန်လည် ရောက်ရှိလာလေ၏။

ထိုအခါ ထိုသူသည် မိမိရောက်ခဲ့သမျှသော မြို့၊ ရွာ၊ နိဂုံးတို့ကို ပြန်လည်၍ သိမြင်နိုင်သကဲ့သို့တည်း။ မည်သို့သော လမ်းသို့ဝင်၍မည်သူနှင့်တွေ့ဆုံကာ မည်ကဲ့သို့သော စကားကို ပြောဆိုခဲ့ပုံ စသည်ကို ပြန်လည်၍ သိမြင်နိုင်သကဲ့သို့တည်း။

## လမ်းပေါ်က လူများ

ယင်းကဲ့သို့ သီလစင်ကြယ်၍ စိတ်အစဉ် ကြည်လင် သန့်ရှင်းပြီးသော ဝိပဿနာ ဉာဏ်အမြင်သို့ ရောက်ရှိပြီးသူသည် ဒိဗ္ဗစက္ခုဉာဏ်ကို ရရှိနိုင်ပေ၏။

ဤသတ္တဝါ ထိုသတ္တဝါတို့သည် မည်သည့်ဘုံဘဝသို့ ရောက်ရှိမည်၊ မည်သည့် အမျိုးအနွယ်တွင် ဖြစ်၍ မည်သို့သော ရုပ်လက္ခဏာ ရှိမည်၊ မြင့်မြတ်သူ ဖြစ်မည်၊ ဆင်းရဲမည်၊ ချမ်းသာမည် စသည်ကို သိမြင်နိုင်စွမ်း ရှိပေ၏။ ဥပမာအားဖြင့်—

လမ်းလျှောက်ခွင့်ရှိသူ အဖို့ဆိုလျှင် ... (see below)

ထို့ပြင် ထိုအယူဝါဒသမားတို့အား "သင်တို့သည် ချမ်းသာခြင်း အစစ်ကို ရရှိရန် အကျင့်လမ်းစဉ်ကို သိကြသလား၊ ပြောနိုင်ကြသလား" ဟူ၍ မေးလျှင်လည်း ကောင်းစွာ မပြောကြားနိုင်ကြပေ။ ဥပမာ အားဖြင့်—

ယောကျ်ားတစ်ယောက်သည် အလွန်လှပတင့်တယ်သည်ဟု ကျော်ကြား နေသော အလှမယ်တစ်ဦးအား ချစ်ကြိုက်၍ နေ၏။ စွဲလမ်းတသ၍လည်း နေ၏။ ထိုအလှမယ်၏ ဂုဏ်သတင်းကိုလည်း တဖောင်ဖောင် ပြောဆို၍ နေ၏။

ထိုယောကျ်ားအား "သင် ချစ်ကြိုက်စွဲလမ်းနေသော အလှမယ်သည် ဘယ်မှာ ရှိသနည်း၊ အသက် မည်မျှရှိပြီနည်း၊ အရပ်ပုသလား ရှည်သလား၊ အသားဖြူသလား ညိုသလား" စသည်ဖြင့် မေးမြန်းလေသော် ဘာတစ်ခုကိုမျှ မဖြေတတ်ပေ။ ကိုယ်တိုင် မြင်ဖူး တွေ့ဖူးခြင်း မရှိဘဲ ပြောသံကြားသဖြင့် ချစ်ကြိုက်စွဲလမ်း၍ နေသကဲ့သို့တည်း။

## မတွေ့ဖူးသော ပြာသာဒ်

ထိုအယူဝါဒ သမားတို့သည် "အတ္တသည် စင်စစ်အားဖြင့် ချမ်းသာ၏။ သေပြီးသည့်နောက်၌ ပျက်စီးခြင်းမရှိ" ဟူ၍ သာလျှင် တဖောင်ဖောင် ပြောကြား နေကြကုန်၏။

"ချမ်းသာသော လောကကို မျက်မှောက်ပြုရန် လမ်းစဉ်သည်ကား ဤသို့တည်း၊ ကျင့်စဉ်သည်ကား ဤသို့တည်း" ဟူ၍ကား မဟောပြောနိုင်ကြကုန်။

"ဤသို့သော လမ်းစဉ်ဖြင့် ဤသို့ ကျင့်သုံး ဆောက်တည် ခဲ့ လျှင် ချမ်းသာသော လောကကို မျက်မှောက်ပြုနိုင်သည် သာတည်း" ဟူ၍လည်း မဟောပြော နိုင်ကြလေကုန်။ ကျိုးကြောင်း ဆက်၍ ကျေနပ်လက်ခံဖွယ်ရာကိုလည်း သက်သေ မပြနိုင်ကြကုန်။ ဥပမာအားဖြင့်—

ယောကျ်ားတစ်ယောက်သည် ပြာသာဒ်သို့ တက်ရန် လှေကားတစ်ခုကို လုပ်ဆောင်နေ၏။ ထိုယောကျ်ားအား—

"သင်၏ လှေကားကို တပ်ဆင်မည့် ပြာသာဒ်သည် ဘယ်အရပ်မှာ ရှိသနည်း၊ ပြာသာဒ်သည် နိမ့်သလား မြင့်သလား၊ ဘယ်အရပ်သို့ မျက်နှာ

မှုသနည်း" စသည်ဖြင့် မေးလေသော် ထိုသူသည် ပြာသာဒ်ကို မတွေ့ မမြင်ရဘူးဘဲ လှေကား ပြုလုပ်နေသူသာ ဖြစ်သောကြောင့် ဘာတစ်ခုမျှ မဖြေကြားနိုင်သကဲ့သို့တည်း။

[ပေါဋ္ဌပါဒသုတ်]

## အယူမှား၌ စွဲလမ်းသူ

အခါတစ်ပါး၌ ဗုဒ္ဓမြတ်စွာသည် ကောသလတိုင်းသို့ ဒေသစာရီလှည့်လည်တော် မူလေရာ သာလဝတိကာရွာသို့ဆိုက်ရောက်လေသည်။ ထိုစဉ်အခါ၌ သာလဝတိကာ ရွာကို ကြီးမှူးအုပ်ချုပ်ရသူ ရွာစားမှာ လောဟိစ္စ ပုဏ္ဏား ဖြစ်လေသည်။

လောဟိစ္စ ပုဏ္ဏားသည် လွဲမှားသော အယူဝါဒတစ်ရပ်ကို စွဲကိုင်လျက် ရှိနေသူဖြစ်၏။

> ဤလောက၌ ရဟန်းသမဏ ပြုခြင်းဖြင့် ကုသိုလ်ကောင်းမှုကို ရရှိနိုင်ပါ၏။ သို့သော် ရရှိပြီးသော ကုသိုလ်တရားကို သူတစ်ပါးအား မဟောပြောသင့်ပေ။ ဤသို့ သူတစ်ပါးအား ဟောပြောခြင်းသည် အနှောင်အဖွဲ့ဟောင်းကို ဖြတ်တောက်ပြီး အနှောင်အဖွဲ့ အသစ်ကို ပြုလုပ်ခြင်းနှင့်တူ၏။ ဤသို့ဟောပြောခြင်းသည် ယုတ်မာသော လောဘတရားသာဖြစ်၏။ တစ်ဦးတစ်ယောက်သော သူသည် အခြား တစ်ဦးတစ်ယောက်သော သူအဖို့ အချည်းအနှီး ဖြစ်၏။ ဘာမျှ မဖြစ်နိုင်ပေ။

ဤကား လောဟိစ္စ ပုဏ္ဏား၏ အယူဝါဒပေတည်း။

သာလဝတိကာရွာသို့ ဗုဒ္ဓမြတ်စွာ ဆိုက်ရောက်တော်မူလာကြောင်းကို လောဟိစ္စ ပုဏ္ဏား ကြားသိရလျှင် 'ရဟန်းဂေါတမသည် ကျော်စောသတင်းကြီးလှသူဖြစ်၏' ဟု ကြံစည်အောက်မေ့လျက် ဗုဒ္ဓမြတ်စွာအား ပင့်ဖိတ်ရန် လူလွှတ်၍ လျှောက်ကြားလေ၏။ နက်ဖြန်နံနက်၌ နောက်ပါ ရဟန်းတော်များနှင့် တကွ ဆွမ်းဘုဉ်းပေး ကြွရောက်ပါရန် ဖိတ်ကြားလိုက်လေ၏။

နောက်တစ်နေ့ နံနက်၌ ဗုဒ္ဓနှင့် ရဟန်းတော်များသည် လောဟိစ္စ ပုဏ္ဏား ပင့်ဖိတ်ရာသို့ကြွရောက်ကာ ဆွမ်းဘောဇဉ် ဘုဉ်းပေးသုံးဆောင်တော်မူလေသည်။

ထို့နောက် ဆွမ်းကိစ္စပြီးသောအခါ မုဒ္ဒသည်ပုဏ္ဏားအား "လောဟိစ္စ၊ သင်သည် ဤသို့သော အယူဝါဒ၌ စွဲမြဲလျက် ရှိသည်ဟု ကြားသိရသည်မှာ ဟုတ်သလား" ဟု မေးတော်မူ၏။ (အထက်တွင် ဖော်ပြထားသော အယူဝါဒအတိုင်းပင် ပြန်လည်ဖော်ပြ၍ မေးတော်မူ၏။)

"မှန်ပါသည် အရှင်ဘုရား၊ ဤအတိုင်းပဲ အယူရှိပါသည်" ဟု လောဟိစ္စပုဏ္ဏားက ပြန်လည် ဖြေကြားလေသည်။

## ရန်သူလား မိတ်ဆွေလား

"လောဟိစ္စ၊ သင့်ကို ငါမေးဦးအံ့၊ သင်သည်ဤသာလဝတိကာရွာကို အုပ်ချုပ်နေသူ မဟုတ်လား"

"ဟုတ်ပါသည် အရှင်ဘုရား"

"ကောင်းပြီ လောဟိစ္စ၊ သာလဝတိကာရွာမှ ထွက်ရှိသော အခွန်အတုတ်အားလုံးကို လောဟိစ္စ တစ်ဦးတည်းသာ ရရှိခံစားပါစေ၊ အခြားသူတို့အား မပေးပါစေနှင့်ဟု တစ်စုံတစ်ယောက်သော သူသည် ဆိုငြားအံ့။

"ယင်းကဲ့သို့ ဆိုသောသူသည် သင့်ကိုမှီ၍ အသက်မွေးဝမ်းကျောင်းပြုနေသူများအား လာဘ်တိတ်စေသူ၊ လာဘ်အန္တရာယ်ပြုသူ မဖြစ်ပေဘူးလား"

"အရှင်ဂေါတမ၊ ဤသို့ဆိုလျှင် လာဘ်တိတ်စေသူ၊ လာဘ်အန္တရာယ်ပြုသူ ဖြစ်ပါသည်"

"အန္တရာယ်ပြုသူ ဖြစ်ခဲ့သော် ထိုသူသည် သင့်အား အမှီပြုနေကြသူအပေါင်း၏ အကျိုးစီးပွားကို လိုလားသူ ဖြစ်သလား၊ မလိုလားသူ ဖြစ်သလား"

"မလိုလားသူ ဖြစ်ပါသည် အရှင်ဂေါတမ"

"အကျိုးမလိုလားသူသည် ထိုသူများ အပေါ်တွင် မေတ္တာစိတ် ဖြစ်ပေါ်သလား၊ ရန်သူစိတ် ဖြစ်ပေါ်သလား"

"ရန်သူစိတ် ဖြစ်ပေါ်ရပါသည် အရှင်ဘုရား"

"ရန်သူစိတ်ဖြစ်ပေါ်ခြင်းသည် အယူမှားလား၊ အယူမှန်လား"

"အယူမှားဖြစ်ပါသည် အရှင်ဂေါတမ"

"လောဟိစ္စ၊ အယူမှားရှိသူသည် ကောင်းရာ သုဂတိသို့ မလားနိုင်၊ မကောင်းသော ဒုဂ္ဂတိသို့သာလျှင် လားရာရှိ၏ဟု ငါဘုရားဟောကြားပေသည်"

## မိန်းမပျိုကို ပွေ့ဖက်ခြင်း

"လောဟိစ္စ၊ ဆက်၍နာဦးလော့၊ ငါဘုရား ဟောကြားပေဦးမည်။

"ဤလောက၌ အချို့သောသူသည် လူ့ဘောင်မှ ရဟန်းဘောင်သို့ ကူးပြောင်းလာ၏၊ ရဟန်းတို့ ရသင့်ရထိုက်သော တရားကို မရရှိသေး၊ ထိုတရားထူး၏ ချမ်းသာသုခကိုလည်း မခံစားရသေး၊ သို့သော်ထိုသူသည် အခြားသူများအား တရားဟော၏၊ 'ဤတရား သင်တို့ အကျိုးဖြစ်စေကြောင်း၊ ချမ်းသာများစေကြောင်းတည်း'ဟု ဟောပြော၏။

"အခြားသော သူတို့သည် ထိုသူ ဟောပြောသည်ကို နားမထောင်ကြကုန်၊ စိတ်မဝင်စားကြကုန်၊ ရှောင်ဖယ်ကြကုန်၏။

"ထိုသို့သော ဟောပြောခြင်းမျိုးသည် အလိုမရှိသဖြင့် ရှောင်သွားသော မိန်းမပျိုကို လိုက်၍ ချဉ်းကပ်သည်နှင့် တူ၏၊ မကြည့်ချင်သဖြင့် မျက်နှာလွှဲနေသော မိန်းမပျိုကို နောက်မှနေ၍ ပွေ့ဖက်သည်နှင့်လည်း တူပေ၏။

"ထို့ကြောင့် ယင်းသို့သော ဟောပြောခြင်းမျိုးကို 'ယုတ်မာသော လောဘတရား'ဟု ဆိုသင့်၏၊ တစ်စုံတစ်ယောက်သောသူသည် အခြားတစ်စုံတစ်ယောက်သော သူအဖို့ အချည်းအနှီးဖြစ်၏၊ ဘာမျှ မဖြစ်နိုင်'ဟု အပြစ် ဆိုထိုက်ပေ၏"

## လယ်ထဲက ပေါင်းမြက်

"လောဟိစ္စ၊ ဒုတိယ အပြစ်ဆိုထိုက်သော ဟောပြောခြင်းမျိုးကို ဟောကြားဦးအံ့။

"အချို့သော သူတို့သည် လူ့ဘောင်မှ ရဟန်းဘောင်သို့ ကူးပြောင်းလာ၏၊ ရဟန်းတို့ ရသင့်ရထိုက်သော တရားထူးကိုမရရှိသေး၊ ထိုတရားထူး၏ ချမ်းသာ သုခကိုလည်း မခံစားရသေး၊ သို့သော် ထိုသူသည်

အခြားသူများကို တရားဟော၏၊ 'ဤကား သင်တို့ အကျိုး ဖြစ်စေကြောင်း၊ ချမ်းသာများစေကြောင်းတည်း'ဟု ဟောပြော၏။

"အခြားသူတို့သည် ထိုသူ ဟောပြောသည်ကို နားထောင်ကုန်၏၊ စိတ် ဝင်စားခြင်း ရှိကုန်၏၊ လိုက်နာကျင့်သုံးကြကုန်၏။

"ထိုသို့သော ဟောပြောခြင်းမျိုးသည် မိမိ၏ လယ်၌ ပေါင်းမြက် မသုတ်သင်မူဘဲ သူတစ်ပါး၏ လယ်ကွက်၌ ပေါင်းမြက်သုတ်သင်သင့်သည်ဟု ထင်မှတ်ခြင်းနှင့် တူပေ၏။

"ထို့ကြောင့် ယင်းသို့သော ဟောပြောခြင်းမျိုးကို 'ယုတ်မာသော လောဘတရား'ဟု ဆိုထိုက်၏၊ 'တစ်စုံတစ်ယောက်သောသူသည် အခြား တစ်စုံတစ်ယောက်သော သူအဖို့ အချည်းအနှီးဖြစ်၏၊ ဘာမျှ မဖြစ်နိုင်'ဟု အပြစ်ဆိုထိုက်ပေ၏"

## အဟောင်းဖျက် အသစ်တည်ခြင်း

"လောဟိစ္စ၊ တတိယ ဟောပြောခြင်းမျိုးကို ဆက်၍ နားကြားဦးလော့။

"အချို့သောသူသည် လူ့ဘောင်မှ ရဟန်းဘောင်သို့ ကူးပြောင်းလာ၏၊ ရဟန်းတို့ ရသင့်ရထိုက်သော တရားထူးကိုလည်း ရရှိပြီးဖြစ်၏၊ ထိုတရားထူး ချမ်းသာသုခကိုလည်း ခံစားရပြီး ဖြစ်၏၊ ထိုသူသည်အခြားသူများကို တရားဟော၏၊ 'ဤကား သင်တို့ အကျိုးဖြစ်စေကြောင်း၊ ချမ်းသာ များစေကြောင်းတည်း'ဟု ဟောပြော၏။

"အခြားသူတို့သည် ထိုသူဟောပြောသည်ကို နားမထောင်ကြကုန်၊ စိတ်ဝင်စားခြင်း မရှိကြကုန်၊ ရှောင်ဖယ်ကြကုန်၏။

"ထိုသို့သော ဟောပြောခြင်းမျိုးသည် အနှောင်အဖွဲ့ ဟောင်းကို ဖြတ်တောက်၍ အနှောင်အဖွဲ့သစ်ကို ပြုလုပ်သည်နှင့် တူ၏။

"ထို့ကြောင့် ယင်းသို့သော ဟောပြောခြင်းမျိုးကိုလည်း 'ယုတ်မာသော လောဘတရား'ဟု ဆိုထိုက်၏၊ 'တစ်စုံတစ်ယောက်သောသူသည် အခြား တစ်စုံတစ်ယောက်သော သူအဖို့ အချည်းနှီးတည်း၊ ဘာမျှမဖြစ်နိုင်'ဟု အပြစ်ဆိုထိုက်ပေ၏"

ထိုအခါ လောဟိစ္စ ပုဏ္ဏားသည် ဗုဒ္ဓအား ''အရှင် ဂေါတမ၊ဤ လောက၌ အပြစ်မဆိုထိုက်သော ဟောပြောခြင်းမျိုး ရှိပါသေးသလား'' ဟု မေးလျှောက်လေသည်။

## အပြစ်မရှိသော ဟောပြောခြင်း

''လောဟိစ္စ၊ ရှိပေ၏၊ အပြစ်မဆိုထိုက်သော ဟောပြောခြင်းမျိုးသည် စင်စစ်အားဖြင့် ရှိသည်သာ ဖြစ်၏၊ ထိုသို့သော ဟောပြောခြင်းမျိုး ဖြင့်လည်း လမ်းညွှန် နည်းပြ ပြုနိုင်သော ဆရာသည်လည်း ရှိသည်သာ ဖြစ်ပေ၏။

''လောဟိစ္စ၊ ဤလောက၌ အချို့သောသူတို့သည် လူ့ဘောင်မှ ရဟန်းဘောင်သို့ ကူးပြောင်းလာ၏၊ ထိုသူသည် ယုံကြည်ခြင်း သဒ္ဓါ တရားနှင့် ပြည့်စုံ၏၊ အကျင့်သီလအားဖြင့် သန့်ရှင်း စင်ကြယ်၏၊ ရဟန်းတို့ ကျင့်သုံး ဆောက်တည်သင့်သည့် တရားလမ်းစဉ် အတိုင်း ကျင့်သုံး ဆောက်တည်၏၊ ထိုတရားလမ်းစဉ်၏ ချမ်းသာ သုခကိုလည်း ကိုယ်တိုင် ခံစားရလေ၏။

''ထိုပုဂ္ဂိုလ်သည် ကျင့်သုံး ဆောက်တည်မှုအားလျော်စွာ ပဌမ စျာန်သို့ ရောက်၍ နေ၏။

''ဒုတိယစျာန်၊ တတိယစျာန်၊ စတုတ္ထစျာန်သို့ ရောက်၍နေ၏။

''ဝိပဿနာ ဉာဏ်အမြင် ရရှိရေးအတွက် စိတ်ကို ရှေးရှု ပို့ဆောင် ထား၏။

''မဂ်ကိစ္စအတွက် အခြားသော ပြုဖွယ် မရှိတော့ပြီ၊ မဂ်တရားကို မျက်မှောက်ပြုလျက် ရှိပြီ။

''လောဟိစ္စ၊ထိုကဲ့သို့သော ပုဂ္ဂိုလ်မျိုး၏ တရားဟောပြောခြင်းမျိုးကို အပြစ်မဆိုထိုက်ပေ၊ 'ယုတ်မာသော လောဘတရား'ဟု မဆိုထိုက်ပေ၊ တစ်စုံတစ်ယောက်သော သူသည် အခြား တစ်စုံတစ်ယောက်သောသူအဖို့ အချည်းနှီးတည်း၊ ဘာမျှ မဖြစ်နိုင်'ဟု မဆိုထိုက်ပေ''

လောဟိစ္စ ပုဏ္ဏားသည် ဗုဒ္ဓ၏ ရှင်းလင်းဟောပြောချက်ကို သဘော ပေါက်သဖြင့် နှစ်သက် ဝမ်းမြောက်ခြင်း ဖြစ်သွားလေသည်။

"အရှင်ဂေါတမ၊ နက်စွာသော ချောက်ထဲသို့ ကျလေသည့် သူကို ဆံပင်ဆွဲ၍ ကုန်းပေါ် တင်ယူလိုက်သကဲ့သို့ ပါတည်း၊ တရားတော်သည် အလွန် နှစ်သက်ဖွယ် ရှိပါပေ၏ဘုရား၊ မျက်စိလည် လမ်းမှားနေသူအား လမ်းမှန်ကို ညွှန်ပြလိုက်သကဲ့သို့ပါတည်း၊ အမိုက်မှောင်၌ ဆီမီးတန်ဆောင်ကို ညှိထွန်းပြလိုက် သကဲ့သို့ပါတည်း၊ အရှင် ဂေါတမသည် များစွာသော အကြောင်းတို့ဖြင့် တရားတော်ကို ဟောပြတော် မူပါပေ၏၊ အရှင် ဂေါတမကိုလည်းကောင်း၊ တရားတော်၊ သံဃာတော်တို့ကိုလည်းကောင်း ကိုးကွယ်ရာဟူ၍ ဆည်းကပ်ပါ၏၊ ယနေ့မှ စ၍ တပည့်တော်ကို ဥပါသကာ တပည့်ဟူ၍ မှတ်ယူတော်မူပါဘုရား"ဟု လျှောက်ကြားလေသည်။

[=လောဟိစ္စသုတ်]



# မဇ္ဈိမနိကာယ်

## ပုဆိုး နှစ်ထည်

ဗုဒ္ဓမြတ်စွာသည် ဇေတဝန်ကျောင်းတော်၌ သီတင်းသုံးနေတော်မူစဉ် ရဟန်းတို့အား စိတ်ညစ်နွမ်းခြင်းနှင့် စိတ်ဖြူစင်ခြင်း၊ အကြောင်းကို ဟောကြားတော်မူ၏။

ရဟန်းတို့၊ ဤဥပမာကို နားကြားကြကုန်လော့။

ဆေးဆိုးသမား တစ်ယောက်သည် အဝတ်စကို အရောင်ဆိုး၏။ အပြာ၊ အနီ၊ အစိမ်း စသည်ကို ဆိုး၏။ သို့သော် အပြာ၊ အနီ၊ အစိမ်း စသော အရောင်သည် ထိုအဝတ်၌ ကြည်လင် ပီသစွာ မထင်ပေ။ အဘယ့်ကြောင့်ဆိုသော် ထိုအဝတ်သည် ဖြူစင်ခြင်း မရှိသောကြောင့်တည်း။ ညစ်ထေးလျက် ရှိသောကြောင့်တည်း။

ထိုဆေးဆိုးသမားသည်ပင် အဝတ်စကို အရောင်ဆိုးပြန်၏။ အပြာ၊ အနီ၊ အစိမ်း စသည်ကို ဆိုး၏။ ထို အဝတ်စ၌ အပြာ၊ အနီ၊ အစိမ်း

စသော အရောင်သည် ကြည်လင်ပီသစွာ ထင်လာ၏။ အဘယ့်ကြောင့်နည်း၊ ဆိုသော် ထိုအဝတ်စသည် ဖြူစင်သောကြောင့်တည်း။ မညစ်ထေးသောကြောင့်တည်း။

ရဟန်းတို့၊ စိတ်မဖြူစင်ခြင်း ညစ်ထေးခြင်းသည် ညစ်ထေးသော အဝတ်စနှင့် တူ၏။ စိတ်ဖြူစင်ခြင်း မညစ်ထေးခြင်းသည် ဖြူဖွေးစင်ကြယ်သော အဝတ်စနှင့် တူ၏။

စိတ်မဖြူစင် ညစ်ထေးခြင်းသည် မကောင်းသော လားရာ ဒုဂ္ဂတိအကြောင်းပေတည်း။ စိတ်ဖြူစင် သန့်ရှင်းခြင်းသည် ကောင်းသော လားရာ သုဂတိအကြောင်းပေတည်း။

## သုတ်ကြောင့်

စိတ်မဖြူစင် ညစ်ညူးစေတတ်သည့် တရားတို့ကား—

(၁) သူတစ်ပါး၏ စည်းစိမ်ကို ရေးရှုကြံစည်၍ အလိုရှိခြင်း 'အဘိဇ္ဈာ'၊ (၂) မသင့်မလျော်ရာ၌လိုချင်တပ်မက်ခြင်း 'ဝိသမလောဘ'၊ (၃) သူတစ်ပါးတို့အား ပျက်စီးစေလိုခြင်း 'ဗျာပါဒ'၊ (၄) အမျက် ထွက်ခြင်း 'ကောဓ'၊ (၅) ရန်ငြိုးဖွဲ့ခြင်း 'ဥပနာဟ'၊ (၆) ဂုဏ်ကျေးဇူးကို ချေဖျက်ခြင်း 'မက္ခ'၊ (၇) ဂုဏ်ပြိုင်ခြင်း 'ပဠာသ'၊ (၈) ငြူစူခြင်း 'ဣဿာ' (၉) ဝန်တိုခြင်း 'မစ္ဆရိယ'၊ (၁၀) လှည့်ပတ်ခြင်း 'မာယာ'၊ (၁၁) စဉ်းလဲခြင်း 'သာဌေယျ'၊ (၁၂) စိတ်ခက်ထန်ခြင်း 'ထမ္ဘ'၊ (၁၃) ချုပ်ချယ်ခြင်း 'သာရမ္ဘ'၊ (၁၄) မောက်မော်ခြင်း 'မာန'၊ (၁၅) အလွန် မောက်မော်ခြင်း 'အတိမာန'၊ (၁၆) မာန်ယစ်ခြင်း 'မဒ'၊ (၁၇) သတိမေ့လျော့ခြင်း 'ပမာဒ'တို့ပေတည်း။

ရဟန်းတို့ ဤတရားတို ကိန်းအောင်းလျှင်၊ ဤတရားတို့နှင့်ယှဉ်လျှင် စိတ်ညစ်ညူး၏၊ စိတ် မဖြူစင်ခြင်း ဖြစ်၏။

ဤတရားတို့သည် စိတ် ညစ်ညူးကြောင်း ပေတကား၊ စိတ်မဖြူစင်စေကြောင်းပေတကား ဟု သိမြင်၍ ပယ်စွန့်သည် ရှိသော် စိတ်မညစ်ညူးပေ၊ စိတ်ဖြူစင်ခြင်း ဖြစ်ရ၏။

[မူလပဏ္ဏာသ ပါဠိတော်၊ မူလပရိယာယဝဂ်၊ ဝတ္ထသုတ်]

## လမ်းနှစ်သွယ်

ညီညာပြေပြစ်သော ခရီးလမ်းသည် မညီညာ မပြေပြစ်သောခရီးလမ်းကို ရှောင်လွှဲရန် ဖြစ်၏။ သာယာ ပျံ့ပျူးသော ဆိပ်ကမ်းကောင်းသည် မသာယာ မပျံ့ပျူးသော အခြား ဆိပ်ကမ်းညံ့ကို ရှောင်လွှဲရန်ဖြစ်၏။

လမ်းစဉ်မှားသို့ လိုက်ပါနေမိသူအဖို့ ထိုလမ်းစဉ်မှားကို စွန့်လွှတ်ရန် အခြား လမ်းစဉ်မှန်သည် ရှိနေသည်သာ ဖြစ်၏။

မကောင်းသော အပြုအမူတို့ကို ပြုလုပ် ကျင့်သုံးမိသူတို့ အဖို့ ထိုမကောင်းသော အပြုအမူကို စွန့်လွှတ်ရန် အခြား ကောင်းသော အပြုအမူသည် ရှိနေသည်သာ ဖြစ်၏။

[-သလ္လေခသုတ်]

## မြင်အောင် ကြည့်ပါ

ပန်းပွတ်သမားသည် ပွတ်ကြိုးကို ဆွဲငင်ရာ၌ တိုတို ဆွဲသည်၊ ရှည်ရှည်ဆွဲသည်ဟု သိရာ၏။ မြန်မြန်ဆွဲသည်၊ ဖြည်းဖြည်းဆွဲသည်ဟုလည်း သိရာ၏။ မိမိ၏ ပစ္စည်းသည် လိုအပ်သလို ကောင်းမွန်ခြင်းသို့ ရောက်စေရန် အာရုံပြုနေသောကြောင့် ပေတည်း။

ထွက်သက် ဝင်သက်ကို ရှုမှတ်သော ပုဂ္ဂိုလ်သည် ဝင်လေ ထွက်လေကို ရှူရှိုက်ရာ၌ မြန်သည် နှေးသည်၊ တိုသည် ရှည်သည်ကို ကောင်းစွာ သိရာ၏။ ရုပ်တရား၏ ဖြစ်စဉ် ပျက်စဉ်ကို အမှန်အတိုင်း ရှုမြင်သုံးသပ်မိစေရန် အာရုံ စူးစိုက်သောကြောင့် ပေတည်း။

[-မဟာသတိပဋ္ဌာနသုတ်]

## ထိုလမ်းနှင့် ထိုစခန်း

သစ်ပင်ရိပ်၌ ယောကျ်ားတစ်ယောက် ထိုင်နေ၏။ ထိုသူ၏ မျက်စိများသည် ကောင်းစွာ ကြည်လင်၍ စိတ်အာရုံလည်း မှန်ကန်တည့်မတ်သောကြောင့် ကောင်းစွာ မြင်နိုင်သူ ဖြစ်လေသည်။

ထိုယောကျ်ားသည် အခြား လူလေးယောက်တို့ လာနေသည်ကို ထင်ထင်ရှားရှားပင် မြင်ရလေသည်။

ပဌမလူသည် အစာရေစာ ပြတ်လပ်ခဲ့သူ ဖြစ်၍ ပင်ပန်းနွမ်းနယ် လှန်းသဖြင့် ခြေလက်ကို ကောင်းစွာ မသယ်နိုင်ပေ။ ထိုသူသည် တစ်ခု တည်းသော လမ်းကြောင်းဖြင့် မစင်တွင်းကြီးဆီသို့ လျှောက်သွားနေ၏။ မစင်တွင်းကြီးသည် ကျယ်လည်း ကျယ်၏။ နက်လည်းနက်၏။ မစင် တွင်းကြီးဆီသို့သာလျှင် တိုး၍တိုး၍ လှမ်းသွားနေသော ထိုသူသည် မကြာမီပင် မစင်တွင်းထဲသို့ကျပြီး မစင်များ နစ်မွန်းကာ သေဆုံးသွား လေသတည်း။

ဒုတိယလူသည်လည်း ဆာလောင်မွတ်သိပ်၍ ပင်ပန်း နွမ်းနယ်လျက် ရှိ၏။ ထိုသူကား သစ်ပင်တစ်ပင်ဆီသို့ တစ်ခုတည်းသော လမ်းကြောင်း ဖြင့် လှမ်းသွားနေ၏။ ထိုသူ လှမ်းသွားနေသော သစ်ပင်မှာ အခက် အလက်ကောင်းစွာ မရှိပေ။ အရိပ်ကျဲကျဲမျှသာ ရှိ၏။ မကြာမီ ထိုသူ သည် အရိပ်ကျဲကျဲမျှသာ ရှိသော သစ်ပင်အောက်သို့ ရောက်သွားကာ မချမ်းမသာ ထိုင်နေလေသည်။

တတိယလူသည်လည်း ဆာလောင်မွတ်သိပ်လျက် ပင်ပန်းနွမ်းနယ်စွာ လျှောက်သွားနေ၏။ တစ်ခုတည်းသောလမ်းကြောင်းဖြင့် သစ်ပင်တစ်ပင် ဆီသို့ ရှေးရှုလှမ်းသွားနေ၏။ ထိုသစ်ပင်မှာမူ အခက်အလက် ဝေဆာ လျက် ရှိလေသည်။ မကြာမီပင် ထိုသူသည် သစ်ပင်ရိပ်သို့ ရောက်ကာ အပန်းဖြေ အနားယူလျက်ရှိ၏။ ကျေနပ်နှစ်သက်၍လည်း နေ၏။

စတုတ္ထလူသည်လည်း ဆာလောင် မွတ်သိပ်လျက် ပင်ပန်းနွမ်းနယ်စွာ လျှောက်သွားနေ၏။ တစ်ခုတည်းသော လမ်းကြောင်းဖြင့် သစ်ပင်ကြီး တစ်ပင်ဆီသို့ တိုး၍ တိုး၍ လျှောက်သွားနေ၏။ ထိုသစ်ပင်ကြီးသည်ကား အခက်အလက် ဝေဆာလျက် အလွန် အရိပ်ကောင်းသည့်အပြင် အနီး၌ လည်း ကြည်လင် အေးမြသော ရေကန်ရှိနေလေ၏။ ထိုစတုတ္ထလူသည် ရေကန်မှရေကို သောက်၍ ချိုး၍ ပင်ပန်းနွမ်းနယ်မှုကို ငြိမ်းအေးစေ၏။ ထို့နောက် သစ်ပင်ရိပ်၌ အိပ်စက်လျက် ကောင်းစွာ အနားယူလေသည်။

သစ်ပင်ရိပ်၌ ထိုင်လျက် ကြည့်နေသော ယောကျ်ားသည် ထိုခရီးသည် လေးယောက်တို့၏ ဖြစ်ပျက်ခြင်းရာ အားလုံးကို ကောင်းစွာ မြင်နိုင် သိနိုင်သည့်သာ ဖြစ်၏။

ဤလောက၌ ပုဂ္ဂိုလ် အသီးသီးတို့သည် အမှုကိစ္စ အမျိုးမျိုးတို့ကို လုပ်ဆောင်၍ နေကြသည်။ ပြုမူကျင့်သုံး၍ နေကြသည်။

ယင်းသို့ ရှိရာ၌ မိမိတို့၏ ပြုလုပ်ချက်အတိုင်းသာလျှင် အကျိုးဖြစ်ပေါ်လာမြဲ ဖြစ်၏။ ပြုလုပ်ချက်သည်အကြောင်း၊ ဖြစ်ပေါ်လာချက်သည် အကျိုး။

အကြောင်းအားလျော်စွာ အကျိုးဖြစ်ပေါ်လာမြဲ။

ပြုလုပ်ချက် အကြောင်းသည် မှားသလား၊ မှန်သလား၊ မည်မျှလောက် မှားသနည်း၊ မည်မျှလောက်မှန်သနည်းဟူ၍ သုံးသပ် ရှုမြင်တတ်လျှင် ဖြစ်ပေါ်လာမည့် အကျိုးကို သိနိုင်ပေ၏။ ထို အကျိုးသည် အကောင်းဖြစ်မည်လော၊ အဆိုးဖြစ်မည်လော၊ မည်မျှကောင်းမည်နည်း၊ မည်မျှ ဆိုးမည်နည်းဟူ၍ သိနိုင်သည်သာ ဖြစ်၏။

[သီဟနာဒဝဂ်၊ မဟာသီဟနာဒသုတ်]

## မတိမ်းမစောင်းစေနှင့်

ရွာ၏ အနီးအနား တလင်းပြင်၌ ကောက်လှိုင်းပုံများ ရှိနေ၏၊ စပါးပုံများလည်း ရှိနေ၏။ ထိုအနီးအနား၌လည်း နွားကျောင်းသားသည် သူ၏ နွားများကို ထိန်းကျောင်းလျက် ရှိနေ၏။ ထို နွားကျောင်းသားသည် သစ်ပင်ရိပ်၌ ထိုင်နေသည် ဖြစ်စေ၊ လွင်တီးခေါင်၌ ရပ်နေသည် ဖြစ်စေ၊ အခြား မည်သည့်အရပ်၌ပင် ရှိနေသည်ဖြစ်စေ၊ သူ၏ နွားများကို ကြည့်ရှုရမည်သာ ဖြစ်သည်။ သတိပြုနေရမည်သာ ဖြစ်သည်။

ကောက်လှိုင်းပုံ၊ စပါးပုံကို မဖျက်စီးရန် စောင့်ရှောက်ရသောကြောင့်တည်း။

အမှန်တရား၊ အမှန်လမ်းစဉ်ကို ကျင့်သုံးဆောက်တည် သူသည် မည်သည့် နေရာဌာနမျိုး၌ ရှိနေသည် ဖြစ်စေ၊ မည်သည့် အဖြစ်မျိုး၌ ရှိနေသည် ဖြစ်စေ၊ အမှန်လမ်း၊ အမှန်တရားကို ကြည့်မြင်ရမည်သာ ဖြစ်၏။ သတိ ပြုနေရမည်သာ ဖြစ်၏။

လမ်းမှား အမြင်မှားဘက်သို့ တိမ်းစောင်းမသွားစေရန် စောင့်ထိန်းရသောကြောင့်တည်း။

[—ဒွေဓာဝိတက္ကသုတ်]

# ကယ်တင်သူနှင့် နှစ်မြှုပ်သူ

သစ်ပင်ကြီးငယ်စုံတို့ ထူထပ်စွာ ပေါက်ရောက်လျက် ရှိသော တောအုပ်ကြီးအတွင်း၌ နက်ရှိုင်းလှသော ရွှံ့ညွန်အိုင်ကြီး တည်ရှိနေပေ၏။ သားသမင်ပေါင်း များစွာတို့သည် ထိုအိုင်ကြီးကို အမှီပြု၍ ပျော်မွေ့ကျက်စား နေကြလေသည်။ ထို သားသမင်တို့အတွက် လမ်း နှစ်သွယ် ရှိလေသည်။ ဘေးအန္တရာယ်ရှိသော လမ်းဆိုးနှင့် ဘေးရန်ကင်းသော လမ်းကောင်းတို့ ဖြစ်၏။

သား သမင် အပေါင်းတို့ ဆင်းရဲ ပင်ပန်းကာ ပျက်စီးစေလိုသူ တစ်ယောက်သည် ဘေးရန်ကင်းသော လမ်းကောင်းကို ပိတ်ဆို့ထား လေ၏။ ဘေးရန်ရှိသော လမ်းဆိုးကို ဖွင့်ထားလေ၏။ တည်သမင်မနှင့် တည်သမင်ဖိုကိုလည်း ထိုလမ်းဆိုးဘက်တွင် ထားရှိလေ၏။

ထို အခြင်းအရာကို ရှုဆင်ခြင်ပါကုန်လော့။ မည်သို့သော ဖြစ်ရပ်မျိုး ပေါ်ပေါက်လာလေမည်နည်း။ သား သမင် အပေါင်းတို့ မည်ကဲ့သို့ ကြုံတွေ့ကြရလေမည်နည်း။ ဆင်းရဲပင်ပန်းကြီးစွာဖြင့် ဆုံးရှုံးပျက်စီးကြရ တော့မည် မဟုတ်လော။

နောက် တစ်ယောက်ကား သား သမင် အပေါင်းတို့ ဆင်းရဲပင်ပန်း ခြင်းမှ လွတ်မြောက်၍ ချမ်းသာခြင်း ရှိစေလိုသူ ဖြစ်၏။

ထိုသူသည် သားသမင်တို့အတွက် ဘေးအန္တရာယ်ရှိသော လမ်းဆိုးကို ပိတ်ထားလေ၏။ ဘေးရန်ကင်းသော လမ်းကောင်းကို ဖွင့်ထားလေ၏။ တည်သမင်မနှင့် တည်သမင်ဖိုကိုလည်း မောင်းထုတ် ဖယ်ရှားပစ်လေ၏။

ထိုအခြင်းအရာကို ရှုဆင်ခြင်ပါကုန်လော့။ မည်သို့သော ဖြစ်ရပ်မျိုး ပေါ်ပေါက်လာလေမည်နည်း။ သား သမင် အပေါင်းတို့ မည်ကဲ့သို့ ကြုံတွေ့ကြရလေမည်နည်း။ သူတို့သည် ဆင်းရဲ ပင်ပန်းခြင်းတို့မှ လွတ်မြောက်၍ စည်ပင်ပြန့်ပွား ချမ်းသာများကြရတော့မည် မဟုတ်လား။

ဤသည်တို့ကား မြတ်စွာဘုရား ညွှန်ပြသော ဥပမာစကားရပ်များ ဖြစ်ကြ၏။

ထို ဥပမာ စကားရပ်၏ အနက်သဘောမှာ—

## အမည်သညာ

နက်ရှိုင်းလှသော ရွှံ့ညွန်အိုင်ကြီး ဟူသည်မှာ ကိလေသာ ကာမတို့၏ အမည်တည်း။ သား၊ သမင်ပေါင်း များစွာတို့ ဟူသည်မှာ သတ္တဝါတို့၏ အမည်တည်း။ သား၊ သမင်အပေါင်းတို့ ဆင်းရဲ ပင်ပန်းကာ ပျက်စီးစေလိုသူ ဟူသည်မှာ ယုတ်မာသော မာရ်နတ်၏ အမည်ပေတည်း။ ဘေးအန္တရာယ်ရှိသော လမ်းဆိုး ဟူသည်မှာ မိစ္ဆာမဂ် ရှစ်ပါးတို့၏ အမည်တည်း။

တည် သမင်ဖို ဟူသည်မှာ နှစ်သက်တပ်စွန်းခြင်း နန္ဒီရာဂ၏ အမည်ပေတည်း။ တည် သမင်မ ဟူသည်မှာ အဝိဇ္ဇာ၏ အမည်တည်း။

သား၊ သမင်အပေါင်းတို့ ဆင်းရဲကင်း၍ ကောင်းကျိုးချမ်းသာ ရရှိစေလိုသူ ဟူသည်မှာ ဗုဒ္ဓမြတ်စွာ၏ အမည်ပေတည်း။ ဘေးရန်ကင်းသော လမ်းကောင်းဟူသည်မှာ အရိယမဂ်ရှစ်ပါး၏ အမည်တည်း။

ဗုဒ္ဓမြတ်စွာသည် ဘေးရန်ကင်း၍ ကောင်းကျိုး ချမ်းသာ ဖြစ်စေတတ်သော လမ်းကောင်း (အရိယာမဂ်) ကို ဖွင့်ပေးတော် မူခဲ့ပြီ။ ဘေးရန် ထူပြော၍ ပင်ပန်း ဆင်းရဲခြင်း ကြီးစွာ ဖြစ်စေတတ်သော လမ်းဆိုး (မိစ္ဆာမဂ်) ကိုလည်း ပိတ်ပေးတော်မူခဲ့ပြီ။

မိစ္ဆာမဂ် ဟူသည်မှာ (၁) မှားသော အမြင်၊ (၂) မှားသော အကြံအစည်၊ (၃) မှားသော စကား၊ (၄) မှားသော ပြုလုပ်မှု၊ (၅) မှားသော အသက်မွေးမှု၊ (၆) မှားသော အားထုတ်ခြင်းလုံ့လ၊ (၇) မှားသော အောက်မေ့ခြင်း၊ (၈) မှားသော တည်ကြည်ခြင်းတို့ ဖြစ်၏။

အရိယမဂ် ဟူသည်မှာ (၁) မှန်ကန်သော ဉာဏ်အမြင်၊ (၂) မှန်ကန်သော အကြံအစည်၊ (၃) မှန်ကန်သော ပြောဆိုမှု၊ (၄) မှန်ကန်သော ပြုလုပ်မှု၊ (၅) မှန်ကန်သော အသက်မွေးမှု၊ (၆) မှန်ကန်သော အားထုတ်ခြင်းလုံ့လ၊ (၇) မှန်ကန်သော အောက်မေ့ခြင်း၊ (၈) မှန်ကန်သော တည်ကြည်ခြင်းတို့ ဖြစ်၏။

[-ဝိတက္ကသဏ္ဌာနသုတ်]

## ငြောင့်ကို ထွင်ပစ်ပါ

တစ်စုံတစ်ယောက်သော သူသည် ရာဂ၊ ဒေါသ၊ မာနနှင့် ယှဉ်သော မကောင်းမှုစိတ် ကိန်းအောင်း ဖွဲ့စည်းလျက်ရှိသော် သတိပညာဟူသော မကောင်းမှုစိတ်ဖြင့် ပယ်ထုတ် ရှင်းလင်းပစ်နိုင်၏။

ကျွမ်းကျင်သော လက်သမားသည် ကြီးမားသော သပ်စို့ ငြောင့် တံသင်းကို သေးငယ်သော သပ်စို့ဖြင့် ထုတ်ပယ် ရှင်းလင်းပစ်နိုင်သည် သာတည်း။

[—ဝိတက္ကသဏ္ဌာနသုတ်]

## အဆင့်ဆင့် စူးစမ်းခြင်း

လျင်မြန်စွာ ပြေးသွားနေသော ယောကျ်ားသည် ''ငါသည် ဘာ့ကြောင့် ပြေးသွားရမည်နည်း၊ ဖြည်းဖြည်းပဲ သွားရလျှင် ကောင်းပေမည်'' ဟု တွေးတောလျက် ဖြည်းဖြည်းသွားလေ၏။

တစ်ဖန် ထိုယောကျ်ားသည် ''ဘာ့ကြောင့် ဖြည်းဖြည်းသွားရမည်နည်း၊ ရပ်နေရလျှင် ကောင်းပေမည်''ဟု တွေးတောကာ ရပ်နေလေ၏။

တစ်ဖန် ထိုသူသည် ''ဘာ့ကြောင့် ရပ်နေရမည်နည်း၊ ထိုင်နေရလျှင် ကောင်းပေမည်''ဟု တွေးမိကာ ထိုင်နေလေ၏။

တစ်ဖန် ''ဘာ့ကြောင့် ထိုင်နေရမည်နည်း၊ အိပ်နေရလျှင်ကောင်းပေမည်''ဟု တွေးတောကာ အိပ်နေလေ၏။

ယင်းသို့လျှင် ထိုယောကျ်ားသည် သူ၏ ခန္ဓာကိုယ် ဣရိယာပုထ်ကို ပိုမို၍ သက်သာမှုရှိရန် တွေးတောမှု ပြုလေသည်။ ပြုပြင်ပြောင်းလဲမှု ပြုလေသည်။

မိမိ၏ စိတ်သန္တာန်၌ ရာဂ၊ ဒေါသ၊ မာနနှင့်ယှဉ်သော မကောင်းမှုများ ဖြစ်ပေါ်၍လာသော် ''ဘာကြောင့် ဖြစ်ပေါ်လာရသနည်း''ဟူ၍ အဖန်ဖန် ဆင်ခြင် သုံးသပ်ရာ၏။ ပြုပြင် ပြောင်းလဲပစ်ရာ၏။ ထိုအခါ မကောင်းမှုအာရုံသည် တစ်စတစ်စ ချုပ်ငြိမ်း ပျောက်ကွယ်၍ ကောင်းမှုအာရုံသည် အစားထိုး ရောက်လာရာ၏။

[—ဝိတက္ကသဏ္ဌာနသုတ်]

## အကာပစ်မှ အနှစ်ရ၏

ရွာနိဂုံး၏ မနီးမဝေးအရပ်၌ အင်ကြင်းတောတစ်ခု ရှိသည် ဆိုပါစို့။ ထို အင်ကြင်းတော၏ စိုပြည်လှပခြင်းနှင့် ဝေဆာကြီးပွားခြင်းကို အလိုရှိသော် မည်သို့ ပြုလုပ်သင့်သနည်း။ ထို အင်ကြင်းတော၊ ဆုတ်ယုတ်ပျက်စီးခြင်း မရှိစေရန် မည်သို့ ပြုလုပ်သင့်သနည်း။

ခြောက်သရောင်းသော အကိုင်းများကို ခုတ်ဖြတ် ပယ်ထုတ်ပစ်ရပေမည်။ ကောက်ကွေ့ ကျိုးပဲ့သော အကိုင်းများ၊ အပင်များကို ပယ်ထုတ် ရှင်းလင်းပစ်ရပေမည်။ အဆီဩဇာကင်းမဲ့ပြီး ဖျင်းပိန်သော အပင်များကို ခုတ်လှဲ ပယ်ထုတ်ပစ်ရပေမည်။

ထို့ပြင် အင်ကြင်းတောကို ရေယှက် ဖုံးလွှမ်းလျက် ရှိသော ကြက်ဆူပင် စသည်များကိုလည်း သုတ်သင် ရှင်းလင်းပစ်ရပေမည်။

ဤသည်ကား အင်ကြင်းတော၏ တေးရန်အဖျက်အဆီးကင်းကြောင်း ပေတည်း။

အင်ကြင်းတောဟူသည်မှာ ပုဂ္ဂိုလ်တစ်ဦးတစ်ယောက်၏အမည်သညာ ဖြစ်၏။ လူ့အဖွဲ့အစည်း တစ်ရပ်၏ အမည်သညာလည်း ဖြစ်ပေ၏။ လူ့ဘောင် လောကကြီး၏ အမည်သညာလည်း ဖြစ်ပေ၏။

ကောက်ကွေ့ ကျိုးပဲ့ ခြောက်သရောင်းသော အပင်အကိုင်းများနှင့် ကြက်ဆူပင် စသည်တို့ကား မကောင်းသော အပြုအမူ၊ အလေ့အထ၊ အကြံအစည်တို့၏ အမည်သညာဖြစ်၏။ မှားယွင်း ဖောက်ပြန်သော အမြင်အသိနှင့် လမ်းစဉ် ဖြစ်ပေ၏။

ခုတ်ထွင် ရှင်းလင်းပစ်ခြင်း ဟူသည်မှာ မှန်ကန်သော အမြင်အသိနှင့် ကောင်းမြတ်သော အားထုတ်ကြိုးစားမှု၏ အမည်သညာပေတည်း။

[ဩပမ္မဝဂ်၊ ကကစူပမာသုတ်]

## ဝေဒေဟိကာ၏ ဂေါ်စောခြင်း

ရှေး၌ ဖြစ်ခဲ့ဖူးသည့် ဖြစ်ရပ်တစ်ခုကို ဆင်ခြင်သုံးသပ်၍ ကြည့်ကြကုန်အံ့။

သာဝတ္ထိပြည်၌ ဝေဒေဟိကာ အမည်ရှိသော အိမ်ရှင်မတစ်ဦး ရှိခဲ့လေ၏။ ထိုဝေဒေဟိကာသည် ယဉ်ကျေးသိမ်မွေ့သူအဖြစ် ကျော်ကြားသူ

ဖြစ်သည်။ နှိမ့်ချကျိုးနွံ၍ အေးအေးဆေးဆေး ရှိသူ အဖြစ်နှင့်လည်း ကျော်စောနေသူ ဖြစ်သည်။

ထို ဝေဒေဟိကာ၏ အိမ်၌ ကာဠီ အမည်ရှိသော အခိုင်းအစေတစ်ဦး ရှိ၏။

'ငါ၏အရှင်မ ဝေဒေဟိကာသည် ယဉ်ကျေး သိမ်မွေ့သူ ဟူ၍ သတင်းကြီးလှ၏၊ အေးဆေး ညင်သာလှသူဟူ၍လည်း သတင်းကြီးနေ၏၊ အမှန်ထကယ် ဟုတ်ပါမည်လား၊ ငါကပဲ အရှင်မအလိုကျ အစစအရာရာ လုပ်ကိုင် ဆောင်ရွက်ပေးနိုင်၍ များလား၊ အရှင်မကို အကဲစမ်းရလျှင် ကောင်းပေမည်'ဟု ကာဠီသည် အကြံဖြစ်ပေါ်လာ၏။

နောက်နေ့နံနက်၌ ကာဠီသည် အိပ်ရာမှ မထဘဲ နေ၏။

နံနက်စောစောထပြီး ကိစ္စကြီးငယ် ဆောင်ရွက်လေ့ရှိသော ကာဠီကို မတွေ့ရသဖြင့် ဝေဒေဟိကာသည် ကာဠီ၏ အိပ်ရာသို့ သွားလေသည်။

"ကာဠီ၊ ဘာဖြစ်လို့ အိပ်ရာကမထသလဲ၊ နေမကောင်းလို့လား"ဟု မေး၏။

"ဘာမှမဖြစ်ပါဘူး အရှင်မ၊ နေကောင်းပါတယ်၊ အိပ်ရာထဲ နေချင်လို့ နေတာပါ"ဟု ကာဠီက ပြန်ပြော၏။

ထိုအခါ ဝေဒေဟိကာသည် မကျေနပ်ခြင်းဖြင့်ကာ "ဟဲ့ ကျွန်မ၊ အိပ်ရာက နေမြင့်မှထရသလား၊ နင်ဘာအသုံးကျသလဲ"ဟု မျက်မှောင်ကြုတ်၍ မာမာကျောကျော ပြော၏။

'ငါ၏အရှင်မသည် ဘယ်သို့ပင် သတင်းကြီးနေသော်လည်း စင်စစ်အားဖြင့် ယဉ်ကျေး သိမ်မွေ့သူမဟုတ်၊ အေးဆေးညင်သာသူ မဟုတ်၊ ငါက အစစအရာရာ အလိုကျ ဆောင်ရွက်ပေးနိုင်၍သာ ကျေနပ်မှုရနေခြင်း ပေတကား'ဟု ကာဠီ တွေးတောမိလေသည်။

ကာဠီသည် သူ၏အရှင်မကို ဆက်လက် အကဲစမ်းလိုသဖြင့် နောက်တစ်နေ့ နံနက်၌လည်း အိပ်ရာမှ မထဘဲ နေပြန်၏။

ဝေဒေဟိကာသည် ကာဠီအိပ်နေရာသို့ ရောက်ရှိလာကာ "ကာဠီ ဘာဖြစ်သလဲ၊ နေမကောင်းဘူးလား"ဟု မေးသည်။

''တာဒ္ဓမဖြစ်ပါဘူး အရှင်မ၊ မထချင်လို့နေတာပါ''ဟု ပြန်ပြောလျှင် ဝေဒေဟိကာသည် အမျက်ဒေါသဖြင့်....

''ဟဲ့ ကျွန်ယုတ်မ၊ သစ်တုံးမ၊ အသုံးမကျတဲ့ကောင်မ'' ဟူ၍ ဆိုးဆိုး ရွားရွား ဆဲဆို ကြိမ်းမောင်းလေသည်။

ထိုအခါ ကာဠိသည် 'အင်း သေချာပါပြီ၊ ငါ့အရှင်မဟာ အမျက် ဒေါသစိတ်၊ မာန်စောင်ကြမ်းကြုတ်မှုမရှိ၍ ယဉ်ကျေးသိမ်မွေ့သူအဖြစ် သတင်းကြီးရခြင်း မဟုတ်သည်မှာ အမှန်ပါတကား၊ ငါက လိုလေသေး မရှိ ကောင်းမွန်စွာ ပြုလုပ်ပေးနေသဖြင့်သာ အရှင်မမှာ နာမည်ကောင်း ရရှိနေခြင်းပါတကား'' ဟု တွေးမိလေသည်။

ကာဠိသည် သူ၏ အရှင်မကို ဆက်လက် အကဲစမ်းချင်ပြန်၍ နောက် တစ်နေ့နံနက်၌လည်း အိပ်ရာထဲမှာပင် လှဲလျက်နေ၏။

ထို အကြိမ်၌မူ ဝေဒေဟိကာသည် ဆဲဆို ကြိမ်းမောင်းရုံမျှမက ကာဠိ ၏ ဦးခေါင်းကို တံခါးမင်းတုတ်ဖြင့် ရိုက်နှက်ပစ်လေသည်။

ဦးခေါင်းဒဏ်ရာမှ သွေးများ ယိုစီးကျပြီး တစ်ကိုယ်လုံး ခြင်းခြင်း နီလျက်ရှိသော ကာဠိသည် အိမ်ပေါ်မှ ပြေးဆင်းသွားလေ၏။

''အရှင်မတို့၊ ဝေဒေဟိကာ အရှင်မလုပ်ပုံကို ကြည့်ကြပါဦး၊ ကျွန်မကို တံခါးမင်းတုတ်နှင့် ရိုက်သည်ကို မြင်ကြပါရဲ့လား၊ ယဉ်ကျေးသိမ်မွေ့သူ လုပ်ပုံကို မြင်ကြပါရဲ့လား၊ အမျက်ဒေါသမရှိသူ လုပ်ပုံကိုကြည့်ကြပါဦး အရှင်မတို့'' ဟူ၍ ဟစ်ကြွေး တိုင်တန်းလေသည်။

ထိုမှစ၍ ဝေဒေဟိကာ၏ ကောင်းသတင်းများ ကွယ်ပျောက်လေ၏။ ဆန့်ကျင်ဘက် သတင်းဆိုးများဖြင့်သာ ဝေဒေဟိကာသည် ကျော်စော ပျံ့နှံ့သူအဖြစ်သို့ ရောက်ရလေ၏။

ဤကား ဥပမာ ထင်မြင်နိုင်ရန် ဖြစ်ရပ်တစ်ခုမျှသာတည်း။

မိမိ၏ စိတ်သန္တာန်၌ မနှစ်သက် မလိုလားဖွယ်ရာ အမြင်အကြား၊ အထိအတွေ့ အာရုံတို့နှင့် မဆုံမကြုံရသေး၍ ထိန်းသိမ်း စောင့်စည်းနိုင်ခြင်း မျိုးသည် ချီးမွမ်းဖွယ် မဟုတ်ပေ။ မည်သို့သော မနှစ်သက်ဖွယ်ရာ အနိဋ္ဌာရုံမျိုးကိုပင် ကြုံရ ဆုံရသည်ဖြစ်စေ၊ ထိန်းသိမ်း စောင့်စည်းနိုင် ခြင်းမျိုးသည်သာလျှင် သူတော်ကောင်းတို့၏ ကျင့်ထုံးဖြစ်၏။

[-ကကစူပမသုတ်]

## စေလိုရာစေပါစေ

ယောကျ်ားတစ်ယောက်သည် ဤမဟာပထဝီမြေကြီးကို မြေကြီး မဟုတ်အောင် ပြောင်းလဲပစ်မည်ဟု ကြံစည်၏။

ထိုသူသည် ပေါက်တူးနှင့် ခြင်းတောင်းကို ယူဆောင်လျက် မြေပြင်အနှံ့ တူးဆွလေသည်။ ထိုနေရာမှ မြေကို သည်နေရာသို့ သယ်ယူပြီး ဖို့လေသည်။ သည်နေရာမှ မြေကို ဟိုနေရာသို့ သယ်ယူပြီး ဖို့လေသည်။ မြေမှုန့်များကို နေရာအနှံ့ ကြဲဖြန့်လေသည်။ "မြေကြီးအဖြစ်က ပြောင်းလဲလော့" ဟူ၍လည်း အကြိမ်ကြိမ် ရွတ်ဆိုလေသည်။ မြေကြီးပေါ်၌ တံတွေးကို တဖွားဖွား ထွေးလေသည်။ ကျင်ငယ်ကိုလည်း မထိမ့်မြင် စွန့်ချလေသည်။

ထိုယောကျ်ား၏ အပြုအမူနှင့် လုံ့လကြောင့် မြေကြီးသည် မြေကြီးအဖြစ်မှ အခြား တစ်စုံတစ်ရာသို့ ပြောင်းလဲသွားနိုင်လေသလား။

ယောကျ်ားတစ်ယောက်သည် အဝါ၊ အနီ၊ အပြာ ဆေးရည်ခွက်များနှင့် ဆေးရေးစုတ်တံကို ယူဆောင်လာ၏။

ဟင်းလင်းပြင် ကောင်းကင်ကို စုတ်တံဖြင့် လှုပ်ယမ်း၍ ရေးခြယ်၏။

"ဆင်ရုပ် ထင်စေသတည်း၊ မြင်းရုပ် ထင်စေသတည်း၊ မိန်းမပျိုရုပ် ထင်စေသတည်း" စသည်ဖြင့် ရေရွတ်လျက် ကြိုးစားပမ်းစား ရေးခြယ်လေ၏။

ထို ယောကျ်ား၏ အပြုအမူနှင့် လုံ့လတို့ကြောင့် ကောင်းကင်၌ အရုပ်များ ထင်ပေါ်နိုင်လေသလား။

ယောကျ်ားတစ်ယောက်သည်ရဲရဲလောင်နေသောမီးတုတ်ကိုယူဆောင်ကာ ဂင်္ဂါမြစ်သို့ ပြေးသွားလေ၏။

"မြစ်ပြင်တစ်ခုလုံးသည် လောင်ကျွမ်းလော့၊ မီးလျှံအဖြစ်သို့ ရောက်လေလော့" ဟူ၍ အကြိမ်ကြိမ် ဟစ်ကြွေးကာ ဂင်္ဂါမြစ်ကို မီးတုတ်ဖြင့် ရှို့မြှိုက်လေ၏ ။

ထိုယောကျ်ား၏ အပြုအမူနှင့် လုံ့လကြောင့် ဂင်္ဂါမြစ်ကိုမီးလောင်ကျွမ်းနိုင်လေသလား။

ဤလောက၌ ရှိုးကျက်သူ၊ မြင့်မြတ်သူတို့ ကျင့်သုံးရမည့် ကျင့်ထုံးထား မြေကြီးကဲ့သို့တည်း။ ကောင်းကင်ကဲ့သို့တည်း။ ဂင်္ဂါမြစ်ကဲ့သို့တည်း။

မသိသိသော ပုတ်ခတ် စုပ်စွဲလာမှုမျိုးပင် ဖြစ်စေ၊ ယိမ်းမယိုင် မပြောင်းလဲရအောင် ထိန်းသိမ်းစောင့်စည်း နိုင်ရပေမည်။

အကြောင်းမှန်လျှင် မှန်ကန်သော အကျိုးသည် ထင်ရှားလာပေလတ္တံ့။

ထို့ကြောင့် အကြောင်း မှန်စေရမည်သာတည်း။

မြေကြီး၊ ကောင်းကင်နှင့် ဂင်္ဂါမြစ်တို့၏ သဘောကို 'မြင်'အောင်၊ 'ထင်'အောင် ကြည့်ရှုကြရမည် ဖြစ်၏။

[–ကကစူပမသုတ်]

## မြွေဖမ်းတတ်ရဲ့လား

မြွေဖမ်းသမား နှစ်ဦး ရှိလေ၏။

ပထမ မြွေဖမ်းသမားသည် မြွေရှာရန် တောသို့ ထွက်ခဲ့ရာ ကြီးမားလှသော မြွေတစ်ကောင်ကို တွေ့လေသည်။ သူသည် ထိုမြွေ၏ အမြီးနှင့် ကိုယ်ကို ဖိ၍ ဖမ်းလေသည်။

ထိုအခါ မြွေသည် နောက်သို့လှည့်ကာ မြွေဖမ်းသမား၏ လက်ကို ကိုက်လိုက်လေ၏။

မြွေဖမ်းပုံ နည်းစနစ် မမှန်ကန်သောကြောင့် မြွေအကိုက် ခံရခြင်း ဖြစ်လေသည်။

ဒုတိယ မြွေဖမ်းသမားကား မြွေကို တွေ့လျှင် ဆိတ်ခွာ သဏ္ဍာန် တပ်ဆင်ထားသော တုတ်ချောင်းဖြင့် မြွေ၏ ကုပ်ဆက်ကို ပိုင်နိုင်စွာ ဖိညှပ်၏။ ထို့နောက် လက်တစ်ဖက်ဖြင့် မြွေ၏ လည်ပင်းကို ကောင်းစွာ ဆုပ်ကိုင်၍ ဖမ်းယူလေသည်။

ထိုသူသည် မြွေအကိုက်မခံရပေ။ သူ အလိုရှိသော မြွေကိုလည်း ကောင်းစွာ ရရှိလေသည်။

မြွေဖမ်းပုံ နည်းစနစ် မှန်ကန်သောကြောင့်တည်း။

ဤလောက၌ အချို့သော စာပေသင်ကြားသူတို့သည် သူတစ်ပါးအား အနိုင်ယူပြောဆိုရန်အလို့ငှာ၊ ချုပ်ချယ်ရန်အလို့ငှာ သင်ယူကြကုန်၏။ သဒ္ဒါကိုလည်းကောင်း၊ အနက်ကိုလည်းကောင်း ပညာဖြင့် ကောင်းစွာ ဆင်ခြင်သုံးသပ်ခြင်းမရှိပေ။ ထို့ကြောင့် ဆိုလိုရင်း သဘောအဓိပ္ပာယ်ကို ရေရေလည်လည် မသိမမြင်ကြပေ။ ထို့ကြောင့်လည်း အယူအဆ အသိအမြင် လွဲမှားကာ ပြုလုပ်ကျင့်သုံးမှုလည်း လွဲမှားကြရ၏။

ပထမ မြွေဖမ်းသမားကဲ့သို့ မလိုလားအပ်သော ဘေးအန္တရာယ် ဆင်းရဲခြင်းနှင့် ကြုံတွေ့ကြရသူများတည်း။

အချို့သော သူများမှာမူ စာပေသင်ကြားရာ၌ သူတစ်ပါးအား အနိုင်ယူ ပြောဆိုရန်အလို့ငှာ၊ ချုပ်ချယ်ရန်အလို့ငှာ မသင်ကြားကုန်။ မဂ်ဖိုလ် နိဗ္ဗာန်အလို့ငှာ သင်ကြကုန်၏။ သဒ္ဒါကိုလည်းကောင်း၊ အနက်ကိုလည်းကောင်း ပညာဖြင့် ကောင်းစွာ ဆင်ခြင် သုံးသပ်ကြပေ၏။ ထို့ကြောင့် ဆိုလိုရင်း အဓိပ္ပာယ်သဘောကို ရေရေလည်လည် သိမြင်ကြလေသည်။ ထို့ကြောင့်လည်း အယူအဆ အသိအမြင် မှန်ကန်ကာ ပြုလုပ်ကျင့်သုံးမှု၌ တည့်မတ် မှန်ကန်ကြရ၏။

ဒုတိယ မြွေဖမ်းသူကဲ့သို့ မလိုလားအပ်သော ဘေးအန္တရာယ် ဆင်းရဲမှ ကင်းလွတ်ကြရသူများတည်း။

[–အလဂဒ္ဒူပမသုတ်]

## ကူးမြောက်ရေးလား သိမ်းပိုက်ရေးလား

ခရီးသွားယောကျ်ားတစ်ဦးသည် လမ်းခရီး၌ မြစ်ရေပြင်ကြီးကို မြင်ရ၏။ ဤမှာဘက်ကမ်းမှ ထိုမှာဘက်ကမ်းသို့ ရောက်ရှိလို၏။ ကူးခတ်ရန် ဖောင်လည်း မရပေ၊ လှေ သင်္ဘောများလည်း မရှိပေ။

ထို့ကြောင့် ထိုခရီးသွား ယောကျ်ားသည် အနီးအပါးမှ သစ်ခက် သစ်ရွက် ကိုင်းမြက်များကို ယူဆောင်ကာ ဖောင်သဖွယ် ဖွဲ့ချည်ပြုလုပ်လေ၏။ ထို့နောက် ထို သစ်ခက်ဖောင်ကို အမှီပြုကာ မြစ်ကို ကူးလေသည်။ လက်ခြေတို့ဖြင့်လည်း ကူးယက် အားထုတ်လျက် တစ်ဖက်ကမ်းသို့ ရောက်ရှိ သွားလေသည်။

မြစ်ကမ်းတက်သို့ ကူးမြောက်သွားသော ထို ယောကျ်ားသည် သူ၏ သစ်ခက်ဖောင်ကို မည်သို့ ပြုလုပ်သင့်သနည်း။

'ထို သစ်ခက်ဖောင်သည် ငါ၏အခက်အခဲကို လွတ်မြောက်စေသဖြင့် ကျေးဇူး ကြီးမားလှပေသည်၊ ထိုဖောင်ကို စွန့်ပစ်၍ မထားသင့်'ဟု တွေးထင်ကာ လေးလေးစားစား ထမ်းပိုးသယ်ယူသွားသည် ဆိုပါစို့။

ယင်းသို့ သယ်ယူသွားခြင်းသည် မှန်ကန်မည်လား၊ မှားယွင်း မည်လား။

စင်စစ် မှားယွင်းသည်သာတည်း။

ထို ဖောင်သည် သိမ်းပိုက်ထားရန် မဟုတ်၊ ကူးပြောင်းဖို့ရန်သာလျှင် ဖြစ်သောကြောင့်တည်း။

အမှန်လမ်း၊ အမှန်တရားကို ရှာဖွေယူရာ၌ မှားယွင်းသော အချက် အလက်၊ မကောင်းသော အချက်အလက် များသည် အရင်းအနှီးသဖွယ် ပေါ်ပေါက်လာတတ်၏။ (စိတ်သန္တာန်၌ ညစ်ကြေး နေခက်ကျုံသော မကောင်းမှု အာရုံများ ဖြစ်ပေါ်လာသော် ထိုမကောင်းမှု အာရုံများ၏ အပြစ်ကို ဆင်ခြင်၍ ကြည်လင်သန့်စင်သော ကောင်းမှုအာရုံများကို ရရှိနိုင်လေသည်။)

ယင်းသည့် အရင်းအနှီးသဖွယ်ဖြစ်သော မကောင်းမှုအာရုံများသည် ဆက်လက် သိမ်းဆည်းထားရန် မဟုတ်ပေ။ စွန့်လွှတ်ပစ်ရန်သာလျှင် ဖြစ်လေသည်။

သမထ ဝိပဿနာအရာ၌ ဖြစ်ပေါ်၍ လာသော ရာဂ၊ ဆန္ဒ၊ ကိလေသာကို ဖြစ်စေ၊ ကာမဂုဏ်၌ ဖြစ်ပေါ်၍လာသော ရာဂ၊ ဆန္ဒ၊ ကိလေသာကို ဖြစ်စေ ပယ်ထုတ်နိုင်ရမည်။ ပယ်ထုတ်ပစ်ရမည်။

[—အလဂဒ္ဒူပမသုတ်]

## ဖိလျှင်ဖိစေ မငြိစေနှင့်

သားသတ် မုဆိုးသည် သမင်ဖမ်းရန်အတွက် တောထဲ၌ ကျော့ကွင်း ထောင်ထား၏။

သမင်တစ်ကောင်သည် ကျော့ကွင်းကို ဖိလျက် အိပ်ထားလေသည်။ ကျော့ကွင်းစွပ်များသည်လည်း သမင်၏ ခြေထောက်များကို စွပ်မိ ငြိတွယ်မိလျက် ရှိနေသည်။

မုဆိုးသည် သူ ထောင်ထားသော ကျော့ကွင်းသို့ ရောက်လာသော အခါ ထို သမင် ထွက်မပြေးနိုင်တော့ပေ။ မုဆိုး၏ ဖမ်းဆီးသတ်ဖြတ် ခြင်းကို ခံရလေ၏။

အခြားသမင်တစ်ကောင်မှာလည်း မုဆိုး၏ ကျော့ကွင်း ဂ် ဖိ၍ အိပ်လျက်ပင် ရှိ၏။ သို့သော် ထို သမင်၏ ခြေထောက်များကို ကျော့ကွင်း စွပ်များက စွပ်မိလျက် မရှိပေ၊ ငြိတွယ်လျက် မရှိပေ။

ထို သမင်သည် မုဆိုးလာသည်နှင့် တစ်ပြိုင်နက် ထွက်ပြေးလွတ်မြောက် သွားလေ၏။

ဘေးအန္တရာယ် များလှသော ကာမဂုဏ် အာရုံတို့၌ ပျော်မွေ့လျက် ထို ကာမဂုဏ် အင်ရုံကို စွဲမက် တွယ်တာနေသူသည် ပထမ သမင်ကဲ့သို့ ဆင်းရဲကြီးစွာကို တွေ့ဆုံကြုံရမည်သာ ဖြစ်၏။ ထို ကာမဂုဏ် အာရုံကို အကြောင်းပြု၍သာလျှင် ပျက်စီး ဆုံးရှုံးလတ္တံ့။

ကာမဂုဏ် အာရုံတို့၏ အပြစ်များစွာကို ရှုဆင်ခြင်လျက် နေသူကား ကာမဂုဏ် အာရုံဟူသော အကြောင်းဖြင့် ပျက်စီးဆုံးရှုံးခြင်း မဖြစ်ရပေ။ ဒုတိယသမင်ကဲ့သို့ ဘေးအန္တရာယ်မှ လွတ်မြောက်ရမည်သာတည်း။

[—ပါသရာသိသုတ်]

## မုဆိုး မာရ်နတ်

သား သမင်သည် မကြောက် မရွံ့ လွတ်လပ်စွာ လှည့်လည်သွားလာ၏၊ အစား စားရာ၌ လည်းကောင်း၊ အိပ်စက်နားနေရာ၌ လည်းကောင်း ကြောက်ရွံ့ခြင်း မရှိဘဲ လွတ်လပ် အေးချမ်း၍ နေ၏။ အဘယ့်ကြောင့် ဆိုသော် သားသတ်မုဆိုး မမြင်တွေ့နိုင်သော တောကြီးထဲ၌ ရောက်ရှိ နေသောကြောင့်တည်း။

အကြင်ပုဂ္ဂိုလ်သည် ကိလေသာ ကာမအာရုံ အကုသိုလ်တရားတို့မှ ကင်းလွတ်၍သာလျှင် ကြံစည်ခြင်း 'ဝိတက်'၊ သုံးသပ်ခြင်း 'ဝိစာရ'၊

နှစ်သိမ့်ခြင်း 'ပီတိ'၊ ချမ်းသာခြင်း 'သုခ' ရှိသော ပထမဈာန်သို့ ရောက်၍ နေခြင်းအံ့၊ ထိုပုဂ္ဂိုလ်သည် မာရ်နတ်ကို မျက်စိကန်းအောင် ပြုသည် မည်၏။ ကိလေသာတည်းဟူသော မာရ်ယုတ် မမြင်နိုင်ရာသော အရပ်၌ ရောက်ရှိ နေသောကြောင့်တည်း။

[-ပါသရာသိသုတ်]

## ပြဿနာရှင်

တောင်ပို့ကြီးတစ်ခု ရှိလေ၏။ ထိုတောင်ပို့ကြီးသည် ညဉ့်အခါ၌ အခိုး လွှတ်၏၊ နေ့အခါ၌ အရောင်တောက်ပ၏။

ပုဏ္ဏားတစ်ဦးသည် ပညာရှိပုဂ္ဂိုလ်တစ်ဦးအား ဤသို့ ပြောလေ၏။

"အို-ပညာရှိ၊ ဓားလက်နက်ကို ယူပြီး ဤတောင်ပို့ကို တူးဖို့ပစ်လော့"

ပညာရှိပုဂ္ဂိုလ်သည် ပုဏ္ဏား ပြောသည့်အတိုင်း ဓား လက်နက်ဖြင့် တောင်ပို့ကို တူးဖို့ရာ တံခါးကျည်းမင်းတုပ်ကို တွေ့ရလေ၏။

"အို ပုဏ္ဏား၊ အရှင် ပြောသည့်အတိုင်း ဓားလက်နက်ကို ယူပြီး တောင်ပို့ကို တူးဖို့ပါသည်၊ တံခါးကျည်းမင်းတုပ်ကို တွေ့ရပါသည်"ဟု ပညာရှိ ပုဂ္ဂိုလ်က ပြောအာ တံခါးကျည်းမင်းတုပ်ကိုလည်း ပြလိုက်လေသည်။

"အဲသည် တံခါးကျည်းမင်းတုပ်ကို ဖယ်ရှားပစ်ပါ ပညာရှိ၊ ဓား လက်နက်နဲ့ပဲ ဆက်ပြီး တူးဖို့ပါ"

ပညာရှိ ပုဂ္ဂိုလ်သည် ဆက်လက်၍ တူးရာ ဖားကို တွေ့ရသဖြင့် ပုဏ္ဏားအား ပြလေ၏၊

"ဖားကို ဖယ်ရှားပစ်ပါ၊ ဆက်ပြီး တူးပါ"ဟု ပုဏ္ဏားက ပြောသဖြင့် ဆက်လက် တူးဖို့ရာ လမ်းနှစ်ခွကို တွေ့ရလေ၏။

"လမ်းနှစ်ခွကို ဖယ်ရှားပစ်ပါ၊ ဆက်ပြီး တူးပါ"ဟု ဆိုပြန်၏။

"အို-အရှင်၊ ဆပ်ပြာရေစစ်ကို တွေ့ရပါသည်" ဟု ပုဏ္ဏားအား ပြော၍ ပြလည်း ပြလေ၏။

"ဆုပ်ပြာရေးစ်ကို ဖယ်ရှားပစ်လေဦး၊ ဆက်ပြီး တူးဖို့လေဦး"

"အို-အရှင်ပုဏ္ဏား၊ ယခုတစ်ကြိမ်မှာ လိပ်ကို တွေ့ရပါသည်" ဟု ပြော၍ ပြလေသည်။

"လိပ်ကို ဖယ်ရှားပစ်ပါ၊ ဆက်ပြီး တူးဖို့ပါ"ဟု ပုဏ္ဏားက ပြောပြန်၏။

"သည်တစ်ကြိမ် သန်လျက်နှင့် စဉ်းတီတုံးပါ" ဟု ပညာရှိပုဂ္ဂိုလ်က ပြန်၍ ပြော၏။

"အိမ်း–အဲဒါတွေလဲ ဖယ်ရှားပစ်ဦး၊ ဆက်တူးလိုက်ဦး"

"သားတစ်ပါ အရှင်၊ ယခုတစ်ကြိမ် သားတစ်ကို တွေ့ရပါပြီ"

"အို-ပညာရှိ၊ သားတစ်ကို ဖယ်ရှားပစ်ပါ၊ ခေါင်းလက်နက်ကိုယူပြီး ဆက် တူးစမ်းပါ"

"အရှင် ပုဏ္ဏား၊ နဂါးကို တွေ့ရပါသည်၊ နဂါးကောန်ဖြစ်ပါသည်"

"အိမ်း–နဂါးကို မထိခိုက်စေနှင့်၊ နဂါးကို မဖယ်ရှားလေနှင့်၊ နဂါးကို ရှိခိုးပါလေ၊ နဂါးကို ရှိခိုးပါလေလော့ ပညာရှိ"

ဤသည်တို့ကား အရှင် ကုမာရကဿပအား ဒေဝတာ တစ်ဦးက လျှောက်ထားသော ပြဿနာများ ဖြစ်၏။

အရှင် ကုမာရကဿပသည် အန္ဓဝန်တော၌ သီတင်းသုံးလျက် ရှိစဉ် တစ်ညဉ့်သ၌ ဒေဝတာတစ်ဦးက လာရောက် လျှောက်ထားခြင်း ဖြစ်လေသည်။

"အရှင် ရဟန်း၊ မြတ်စွာဘုရားသည်သည်းကောင်း၊ မြတ်စွာဘုရား၏ တပည့်သာဝကသည် လည်းကောင်း၊ အကျွန်ုပ် မပြောပြသည်ကို နားကြား ဖူးသူသည် လည်းကောင်း ဤပြဿနာများကို ဖြေဆိုနိုင် ပါလိမ့်မည်၊ အခြားဖြေဆိုနိုင်မည့်သူကို ဤလောက၌ အကျွန်ုပ် မမြင်ပါ"ဟူ၍လည်း ပြောကြားသွားလေသည်။

## ပြဿနာ အဖြေ

ထိုညဉ့် လွန်မြောက် နံနက်သို့ ရောက်သော် အရှင်ကုမာရကဿပသည် ဇေတဝန်ကျောင်းတော်၌ သီတင်းသုံးလျက်ရှိသော မြတ်စွာဘုရားထံသို့

သွားရောက်လေ၏။ ဒေဝတာတစ်ဦး လာရောက်ပြီး မြေးကြွေးသွားပုံ အကြောင်းစုံကိုလည်း လျှောက်ထားလေ၏။ ထိုပြဿနာကို ဖြေကြားပေးတော်မူပါရန်လည်း လျှောက်ထားလေ၏။

ထိုအခါ မြတ်စွာဘုရားက ပြဿနာ၏ အနက်သဘောကို ဖြေကြားမိန့်မြွက်တော် မူလေသည်။

"ကုမာရကဿပ၊ သင် မေးလျှောက်သည်တို့ကို ငါဘုရားဖြေကြားမည်၊ ကောင်းစွာ နာယူမှတ်သားလော့"

(၁) တောင်ပို့ဟူသည်မှာ သတ္တဝါတို့၏ ခန္ဓာကိုယ် အတ္တဘောပေတည်း၊ ဤကိုယ် အတ္တဘောသည် ယိုယွင်းပြိုကွဲ ပျက်စီးခြင်းသဘောရှိ၏။

(၂) ညဉ့်၌ အခိုးလွှတ်ခြင်းဟူသည်မှာ နေ့အချိန်က ပြုလုပ်ဆောင်ရွက်ခဲ့သည်တို့ကို ညဉ့်အချိန်၌ ပြန်လည်၍စဉ်းစားကြံစည်ခြင်းပေတည်း။

(၃) နေ့၌အရောင်တောက်ပခြင်းဟူသည်မှာ ညဉ့်အချိန်တစဉ်းစားကြံစည်ခဲ့သည်တို့ကို နေ့အချိန်၌ ပြုလုပ်ဆောင်ရွက်ခြင်း ပေတည်း။

(၄) ပုဏ္ဏားဟူသည်မှာ ကိလေသာရန်သူကို အလုံးစုံ ပယ်သတ်ပြီးဖြစ်သော မြတ်စွာဘုရားပေတည်း။

(၅) ပညာရှိပုဂ္ဂိုလ်ဟူသည်မှာ အကျင့်မြတ်ကို ကျင့်ဆဲ ဖြစ်သော သေက္ခပုဂ္ဂိုလ် ပေတည်း။

(၆) ဓား လက်နက်ဟူသည်မှာ အရိယာမဂ်ပညာ ပေတည်း။

(၇) တူးဖို့ခြင်းဟူသည်မှာ အားထုတ်ခြင်း လုံ့လပေတည်း။

(၈) တံခါးကျည်းမင်းတုပ်ဟူသည်မှာ မသိမှု အဝိဇ္ဇာပေတည်း။

တံခါးကျည်မင်းတုပ်ကို ဓားလက်နက်ဖြင့် တူးဖို့ ဖယ်ရှားပစ်လော့ဟူသော ဝါကျ၏ အနက် သဘောကား-

မသိမှု အဝိဇ္ဇာကို အရိယာမဂ်ပညာဖြင့် အားထုတ်ခြင်းလုံ့လပြုစား ပယ်စွန့်လော့ ဟူ၍ဖြစ်၏။

(၉) ဖားဟူသည်မှာ အမျက်ဒေါသ လွန်ကဲခြင်းတည်း။

ဖားကို ခေါးလက်နက်ဖြင့် ဖယ်ရှားပစ်လော့ ဟူသည်မှာ အမျက်ဒေါသကို အရိယာမဂ်ပညာဖြင့် အားထုတ်ခြင်း လုံ့လပြုကာ စွန့်ပယ်လော့ ဟူ၍ဖြစ်၏။

(၁၀) လမ်းနှစ်ခွဟူသည်မှာ တွေးတော ယုံမှားခြင်းတည်း။

လမ်းနှစ်ခွကို ခေါးလက်နက်ဖြင့် ဖယ်ရှားပစ်လော့ ဟူသည်မှာ တွေးတောယုံမှားခြင်းကို အရိယာမဂ်ပညာဖြင့် အားထုတ်ခြင်း လုံ့လပြုကာ ပယ်စွန့်လော့ ဟူ၍ ဖြစ်၏။

(၁၁) ဆပ်ပြာ ရေစစ်ဟူသည်မှာ နီဝရဏငါးမျိုးတို့ ပေတည်း။

(နီဝရဏ—ပိတ်ပင်တားဆီးခြင်း)

ဆပ်ပြာရေစစ်ကို ခေါး လက်နက်ဖြင့် ဖယ်ရှားပစ်လော့ ဟူသည်မှာ နီဝရဏငါးမျိုးကို အရိယာမဂ်ပညာဖြင့် အားထုတ်ခြင်း လုံ့လပြုကာ ပယ်စွန့်လော့ ဟူ၍ ဖြစ်၏။

(နီဝရဏ ငါးမျိုးကား—ကာမဂုဏ်တို့၌ လိုချင်ခြင်း တည်းဟူသော ကာမစ္ဆန္ဒ နီဝရဏ၊ သူတစ်ပါး ပျက်စီးစေလိုခြင်း ဗျာပါဒ နီဝရဏ၊ ထိုင်းမှိုင်းခြင်း ထိနမိဒ္ဓ နီဝရဏ၊ ပျံ့လွင့်ခြင်း နောင်တရခြင်း ဥဒ္ဓစ္စကုက္ကုစ္စနီဝရဏ၊ တွေးတော ယုံမှားခြင်း ဝိစိကိစ္ဆာ နီဝရဏ တို့ဖြစ်၏။)

(၁၂) လိပ်ဟူသည်ကား ခန္ဓာငါးပါးတို့ ပေတည်း။ (ရူပက္ခန္ဓာ၊ ဝေဒနက္ခန္ဓာ၊ သညက္ခန္ဓာ၊ သင်္ခါရက္ခန္ဓာ၊ ဝိညာဏက္ခန္ဓာ)

လိပ်ကို ခေါး လက်နက်ဖြင့် ဖယ်ရှားပစ်လော့ ဟူသည်မှာ ခန္ဓာငါးပါးကို (ခန္ဓာငါးပါး၌ စွဲယူမှု စွဲလမ်းမှုကို) အရိယာမဂ်ပညာဖြင့် အားထုတ်ခြင်း လုံ့လပြုကာ ပယ်စွန့်လော့ ဟူ၍ ဖြစ်၏။

(၁၃) သန့်လျက်နှင့် စဉ်းတီတုံး ဟူသည်မှာ ကာမဂုဏ်ငါးပါးတို့ ပေတည်း။ (အဆင်း၊ အသံ၊ အနံ့၊ အရသာ၊ အထိအတွေ့)

သန့်လျက်နှင့် စဉ်းတီတုံးကို ခေါးလက်နက်ဖြင့် ဖယ်ရှားပစ်လော့ ဟူသည်မှာ ကာမဂုဏ်ငါးပါးကို (ကာမဂုဏ်ငါးပါး၌ စွဲယူမှု စွဲလမ်းမှုကို အရိယာမဂ်ပညာဖြင့် အားထုတ်ခြင်း လုံ့လပြုကာ) ပယ်စွန့်လော့ ဟူ၍ဖြစ်၏။

သားတစ်ကို ဓားလက်နက်ဖြင့် ဖယ်ရှားပစ်လော့ဟူသည်မှာ နှစ်သက်တပ်စွန်းခြင်း နန္ဒီရာဂကို အရိယာမဂ်ပညာဖြင့် အာ့းထုတ်ခြင်း လုံ့လ ပြုကာ ပယ်စွန့်လော့ ဟူ၍ဖြစ်၏။

(၁၅) နဂါးဟူသည်မှာ ရဟန္တာပုဂ္ဂိုလ်ပေတည်း။

နဂါးကို မထိခိုက်စေနှင့်၊ နဂါးကို မဖယ်ရှားလေနှင့်၊ နဂါးကို ရှိခိုး ပါလေလော့ဟူသည်မှာ ကိလေသာ အညစ်အကြေးကင်းစင်ပြီးဖြစ်သော ရဟန္တာပုဂ္ဂိုလ်အား ပုတ်ခတ် စွပ်စွဲခြင်း မပြုနှင့်၊ ရှိခိုး မြတ်နိုးရမည် ဟူ၍ လည်းကောင်း၊

အဆက်တွင် ဖော်ပြပြီးဖြစ်သော အမှတ် ၁ တောင်ပို့တည်းဟူသော ခန္ဓာငါးပါးမှသည် အမှတ် ၁၄ သားတစ်တည်း ဟူသော နန္ဒီရာဂ တိုင်အောင် အဆင့်ဆင့်အားဖြင့် ဖယ်ရှား စွန့်ခဲ့ပြီးလျှင် ရဟန္တာ၏ အဖြစ်၌ တည်ရှိစေလော့၊ ရဟန္တာ၏ အဖြစ်ကို အမြတ်တနိုး လေးစား ရှိသေလော့ ဟူ၍ လည်းကောင်း အနက်အဓိပ္ပာယ် ဖြစ်သတည်း။

အရှင်ကုမာရကဿပသည် ဗုဒ္ဓမြတ်စွာ၏ ရှင်းလင်း မြွက်ကြားချက်များကို နာယူမှတ်သားရသဖြင့် လွန်စွာပင် ကြည်နူး နှစ်သိမ့်ခြင်း ဖြစ်ရလေသည်။

[သြပမ္မဝဂ်၊ ဝမ္မိကသုတ်]

## ခေါင်းဆောင် ရွေးချယ်ပါ

အခါတစ်ပါး၌ ဗုဒ္ဓ မြတ်စွာသည် ဝဇ္ဇီတိုင်း ဥက္ကစေလမြို့၊ ဂင်္ဂါမြစ်ကမ်း၌ သီတင်းသုံး နေတော်မူ၏။

ထိုစဉ်အခါ ဗုဒ္ဓသည် ရဟန်းတို့အား ခေါ်ယူ၍ ဂင်္ဂါမြစ်နှင့် စပ်လျဉ်းသော ဖြစ်ရပ်တစ်ခုကိုပြောကြားရင်း တရားလမ်းစဉ်ဟောကြား တော်မူ၏။

ရှေး၌ ဖြစ်ခဲ့ဖူးသည်ကား—

မိုးအကုန် ဆောင်းအကူးဖြစ်သော တန်ဆောင်မုန်းလ အခါသမယ ပေတည်း။

မာဂဓတိုင်း၌ နေထိုင်သော နွားကျောင်းသား တစ်ဦးသည် သူ၏ နွားအုပ်ကို ဂင်္ဂါမြစ်တစ်ဖက်ကမ်းသို့ ကူးရန်အားထုတ်လေသည်။ မြစ်၏ မြောက်ဘက်ရှိ ဝိဒေဟတိုင်းသို့ နွားအုပ်ကို ပို့ဆောင်ရန် ဖြစ်လေသည်။

ထိုနွားကျောင်းသားသည် စူးစမ်းဆင်ခြင်ဉာဏ် ထင်းမဲ့သူ ဖြစ်၏။ မြစ်၏ ဤဘက်ကမ်း-သည်ဘက်ကမ်း တည်နေပုံကို မသိပေ။ ဆိပ်ကမ်း ဟုတ်သည် မဟုတ်သည်ကိုလည်း မသိပေ။ ထို့ပြင် မြစ်၏ရေစီးရေလာနှင့် လှိုင်းဘေး ဝဲဂယက်ဘေးကိုလည်း မစူးစမ်းတတ်ပေ။

ထို့ကြောင့် သူ၏ နွားအုပ်သည် တစ်ဖက်ကမ်းသို့ မရောက်နိုင်ဘဲ ဂင်္ဂါမြစ်ထဲ၌ ချာချာလည်ကာ နစ်မြုပ် သေဆုံးကြရလေ၏။

နွားအုပ်ထဲတွင် နွားကြီး၊ နွားလတ်၊ နွားငယ်နှင့် နွားထီး၊ နွားမ မျိုးစုံပါဝင်လေသည်။

အခြား နွားကျောင်းသား တစ်ဦးသည် သူ၏ နွားအုပ်ကို ဂင်္ဂါမြစ် တစ်ဖက်ကမ်းသို့ ကူးရန် အားထုတ်လေ၏။ မာဂဓတိုင်းမှ ဝိဒေဟတိုင်းသို့ နွားအုပ်ကို ပို့ဆောင်ရန်ပင် ဖြစ်သည်။

တန်ဆောင်မုန်းလ ဆောင်းဦး အခါသမယပင် ဖြစ်သည်။

ထိုနွားကျောင်းသားကား စူးစမ်း ဆင်ခြင်မှုဉာဏ်ပညာနှင့် ပြည့်စုံသူ ဖြစ်၏။

မြစ်၏ ဤဘက်ကမ်း— သည်ဘက်ကမ်း တည်နေပုံကို ကောင်းစွာ သိသည်။ ဆိပ်ကမ်းဟုတ်သည်—မဟုတ်သည်ကို လည်းကောင်း၊ ရေစီး ရေလာနှင့် လှိုင်းဘေး ဝဲဂယက်တို့ကို လည်းကောင်း စူးစမ်း ဆင်ခြင်၍ သိလေသည်။

ထို့ကြောင့် ထိုသူ၏ နွားအုပ်သည် ဂင်္ဂါမြစ်ကို ကူးဖြတ်လျက် တစ်ဖက်ကမ်းသို့ ချောမောစွာပင် ရောက်ရှိသွားကြရလေသည်။ ပျက်စီး ဆုံးရှုံးခြင်း မရှိကြပေ။

ထိုနွားအုပ်ထဲတွင်လည်း နွားကြီး၊ နွားလတ်၊ နွားငယ်နှင့် နွားထီး၊ နွားမမျိုးစုံ ပါဝင်သည်သာ ဖြစ်၏။

ဤသာသနာ၌ အချို့သော ပုဂ္ဂိုလ်တို့သည် စူးစမ်းဆင်ခြင်မှုဉာဏ်ပညာ မရှိကြကုန်။ မျက်မှောက် လောက၊ တမလွန် လောကကိုလည်း မသိ။

ကိလေသာအာရုံ ကာမဂုဏ်တို့၏ လှည့်ပတ် ဖြားယောင်း တတ်မှုနှင့် ဘေးအန္တရာယ် များပြားလှပုံကိုလည်း မသိပေ။ ကိလေသာ အာရုံ ကာမဂုဏ်တို့မှ လွတ်မြောက်ကြောင်း လမ်းစဉ်မှန်ကိုလည်း မသိပေ။

ယင်းသို့သော ပုဂ္ဂိုလ်မျိုးကို ဆရာအဖြစ် ကိုးကွယ် ဆည်းကပ်၍ ထိုပုဂ္ဂိုလ်၏ နည်းညွှန်လမ်းပြရာသို့ လိုက်ပါကျင့်သုံးမိမှားသည့် ပရိသတ်သည် များစွာရှိ၏။ ထိုပရိသတ်သည် ပထမ နွားအုပ်ကဲ့သို့ပင် ဆုံးရှုံးပျက်စီးကြရမည်မှာ မလွဲတည်း။

ဒုတိယ နွားကျောင်းသားနှင့် ဒုတိယ နွားအုပ်ကဲ့သို့ ခေါင်းဆောင်ကောင်းနှင့် နောက်လိုက်ကောင်း ဖြစ်ကြရန် အဖန်ဖန် ရှုမြင် ဆင်ခြင်အပ်ပေ၏။

[မဟာယမကဝဂ်၊ စူဠဂေါပါလကသုတ်]

## ဆောက်တည်ခြင်း လေးမျိုး

မျက်မှောက်ကာလ၌လည်း ဆင်းရဲ၍ နောင်အခါ၌လည်း ဆင်းရဲကျိုးရှိသော ဆောက်တည်ခြင်းသည် ပထမ ဆောက်တည်ခြင်း မည်၏။

မျက်မှောက်ကာလ၌ ချမ်းသာ၍ နောင်အခါ၌ ဆင်းရဲကျိုးရှိသော ဆောက်တည်ခြင်းသည် ဒုတိယ ဆောက်တည်ခြင်း မည်၏။

မျက်မှောက်ကာလ၌ ဆင်းရဲ၍ နောင်အခါ၌ ချမ်းသာကျိုးရှိသော ဆောက်တည်ခြင်းသည် တတိယ ဆောက်တည်ခြင်း မည်၏။

မျက်မှောက်ကာလ၌လည်း ချမ်းသာ၍ နောင်အခါ၌လည်း ချမ်းသာကျိုးရှိသော ဆောက်တည်ခြင်းသည် စတုတ္ထဆောက်တည်ခြင်း မည်၏။

ထို ဆောက်တည်ခြင်း လေးမျိုးကို ဥပမာဖြင့် ပြပေဦးအံ့။

### ဘူးခါးရည် သောက်ခြင်း

တစ်စုံတစ်ယောက်သောသူသည် လမ်းဆုံ လမ်းခွ၌ စားပွဲခုံ တစ်လုံးဖြင့် ထိုင်လျက် စောင့်နေ၏။ ထိုခုံပေါ်တွင် ခွက်လေးခွက်ကို အသင့်တင်ထားလေသည်။

ထိုစဉ် ခရီးသွား ယောကျ်ားတစ်ဦး ဆိုက်ရောက်လာလေသည်။

"အမောင် ယောကျ်ား၊ ဤခွက်ထဲ၌ ဘူးခါးရည်နှင့် အဆိပ်ကိုရော၍ ထည့်ထားပါ၏၊ အနံ့အရသာလည်း မကောင်း၊ ဘေးအန္တရာယ်လည်း မကင်း၊ အမောင် အလိုရှိက သောက်သုံးနိုင်ပါသည်" ဟု ဆိုလေ၏။

ထိုသို့ ပြောသော်လည်း ခရီးသွား ယောကျ်ားသည် မစွန့်ပယ်နိုင်၊ ထိုခွက်ကို ယူ၍ သောက်လေသည်။ သောက်စဉ်အခါ၌ ခါးစပ်သော အရသာဆိုးနှင့် စူးရှသော အနံ့ဆိုးကို ခံစားရ၏။ ညိုပုပ်သောအရောင် ကိုလည်း ကြည့်မြင်နေရ၏။ သောက်ပြီးသော အခါ၌လည်း ဆိုးရွားပြင်းထန်စွာ ဒုက္ခဝေဒနာကို ခံစားရလေ၏။

## ဖျော်ရည် သောက်ခြင်း

ဒုတိယ ခရီးသွား ယောကျ်ားတစ်ဦး ဆိုက်ရောက်လာပြန်၏။

"အမောင်ယောကျ်ား၊ ဤခွက်ထဲ၌ မွှေးကြိုင်၍ချိုမြိန်သော ဖျော်ရည် ရှိပါသည်၊ အဆိပ်ကိုလည်း ရောထည့်ထားပါသည်၊ ဘေးအန္တရာယ် ကား ရှိပါ၏၊ အမောင်အလိုရှိက သောက်သုံးနိုင်ပါသည်" ဟု ဆိုပြန် လေ၏။

ထိုသို့ ပြောသော်လည်း ခရီးသွား ယောကျ်ားသည် မဆင်ခြင် နိုင်ပေ။ ထိုခွက်ကိုယူ၍သောက်စဉ် မွှေးကြိုင်သော အနံ့နှင့် ချိုမြိန်သော အရသာကို ခံစားရလေသည်။ ဝါလဲ့ ကြည်လင်သော အဆင်းရောင် ကိုလည်း ကြည့်မြင်နေရပေ၏။ သောက်ပြီးသောအခါတွင်မူ ထိုသူသည် ဆိုးရွားပြင်းထန်သော ဒုက္ခဝေဒနာကို ခံစားရလေ၏။

## နွားကျင်ငယ်ရည် သောက်ခြင်း

တတိယ ခရီးသွား ယောကျ်ားတစ်ဦး ဆိုက်ရောက်လာပြန်၏။ ထိုသူသည် ဖျားနာ၍ အားနည်းနေသူလည်း ဖြစ်၏။

"အမောင်ယောကျ်ား၊ ဤခွက်ထဲ၌ နွားကျင်ငယ်ရည် ရှိပါသည်၊ ဖန်ခါးသီး စသော ဆေးဝစ္စည်းများကိုလည်း ရောစပ်ထားပါသည်၊ အမောင် အလိုရှိပါက သောက်သုံးနိုင်ပါသည်"ဟု ဆိုပြန်လေ၏။

ခရီးသွား ယောကျ်ားသည် ထိုခွက်ကို ယူ၍ သောက်လိုက်စဉ် အရသာ မကောင်းသော ခါးသက်သက်နှင့် အနံ့ စူးရှရှကို ခံစားရလေသည်။ သန့်ရှင်း ကြည်လင်ခြင်းမရှိသော အရောင်အဆင်းကိုလည်း ကြည့်မြင်နေရ၏။

သောက်ပြီးသော အခါ၌ပင်မူ ထိုသူသည် ဖျော့တော့အားနည်းသည့် ရောဂါမှ သက်သာ ကင်းပျောက်ကာ ပေါ့ပါး ရွှင်လန်းစွာ နေရလေ၏။

## စတုတ္ထ သောက်ခြင်း

စတုတ္ထ ခရီးသွား ယောကျ်ားတစ်ဦးဆိုက်ရောက်လာပြန်၏။ ထိုသူသည် သွေးလွန်ရောဂါ ရှိသူ ဖြစ်၏။

"အမောင်ယောကျ်ား၊ ဤခွက်ထဲ၌ နို့ ဓမ်း၊ ပျားရည်၊ ထောပတ်၊ တင်လဲတို့ကို ရောစပ် ထည့်ထားပါသည်၊ အမောင် အလိုရှိက သောက် သုံးနိုင်ပါသည်"ဟု ဆိုပြန်လေ၏။

ခရီးသွား ယောကျ်ားသည် ထိုခွက်ကို ယူ၍ သောက်လိုက်စဉ် ချိုဆိမ့်သော အရသာနှင့်သင်းပျံ့သော အနံ့ကိုခံစားရလေသည်။ ဝင်းလဲ့ ကြည်လင်သော အရောင်အဆင်းကိုလည်း ကြည့်မြင်နေရ၏။

သောက်ပြီးသော အခါ၌လည်း သွေးလွန် ရောဂါမှ သက်သာ ပျောက်ကင်းကာ ရွှင်လန်း ချမ်းမြေ့လျက် ရှိလေ၏။

ပထမ ဆောက်တည်ခြင်းကို ဘူးခါးရည်သောက်ခြင်းနှင့် တူသည် ဟူ၍လည်းကောင်း၊

ဒုတိယ ဆောက်တည်ခြင်းကို အဖျော်ရည် သောက်ခြင်းနှင့် တူသည် ဟူ၍လည်းကောင်း၊

တတိယ ဆောက်တည်ခြင်းကို နွား၊ ကျင်ငယ်ရည် သောက်ခြင်းနှင့် တူသည် ဟူ၍ လည်းကောင်း၊

စတုတ္ထ ဆောက်တည်ခြင်းကို တေမှမဲ့ သောက်ခြင်းနှင့် တူသည်ဟု၍လည်းကောင်း ရှုဆင်ခြင်ရာ၏။

ထင်ရှားစေဦးအံ့။

## လေးမျိုး လေးထွေ

သူတစ်ပါးကို နှိပ်စက် ဖျက်ဆီးခြင်း၊ သူတစ်ပါး၏ ပစ္စည်းဥစ္စာကို ခိုးယူလုယက်ခြင်း၊ ကာမဂုဏ်တို့၌ မှားယွင်းသော အကျင့်ဖြင့် ဖောက်ပြန်ခြင်း၊ မဟုတ်မမှန် လိမ်လည် ဖြားယောင်းလေ့ ရှိခြင်း၊ မော်ကြွားထောင်လွှားခြင်း၊ မနာလို ဝန်တိုခြင်း စသော မကောင်းမှု ဒုစရိုက်များသည် ဤလောက၌ ဖြစ်ပေါ် တည်ရှိနေပေ၏။

အချို့သောသူသည် မကောင်းမှု ဒုစရိုက်ကို ပြုမူ ကျူးလွန်ရာ၌ ကိုယ်ရောစိတ်ပါ ဆင်းရဲပင်ပန်းကြီး စွာဖြင့် ပြုမူ ကျူးလွန်ရလေသည်။

ထိုသူသည် ထိုမကောင်းမှု ဒုစရိုက် ဟူသော အကြောင်းကြောင့် နောင်အခါ၌ ဆင်းရဲ ပင်ပန်းခြင်း ကြီးစွာသော ဆိုးကျိုးကို ခံစားရ၏။ အဆိပ် ဘူးခါးရည်ကိုသောက်သုံးသော ပထမဆောက်တည်ခြင်းတည်း။

အချို့သောသူသည် မကောင်းမှုဒုစရိုက်ကို ကိုယ်ရောစိတ်ပါပျော်ရွှင်စွာဖြင့် ပြုမူ ကျူးလွန်လေ့ ရှိလေသည်။

ထိုသူသည်လည်း ဒုစရိုက်ဟူသော အကြောင်းကြောင့် နောင်အခါ၌ ဆင်းရဲပင်ပန်းခြင်း ကြီးစွာသော ဆိုးကျိုးကို ခံစားရပေ၏။ အဆိပ်ဖျော်ရည်ကို သောက်သော ဒုတိယ ဆောက်တည်ခြင်းတည်း။

အချို့သော သူသည် မကောင်းမှု ဒုစရိုက်ကို မပြုမူ မကျူးလွန်ပေ။ ကိုယ်ရောစိတ်ပါ အဆင်းရဲ အပင်ပန်းခံ၍ ရှောင်ကြဉ်လေသည်။

ထိုသူသည် မကောင်းမှုဒုစရိုက်ကို ရှောင်ကြဉ်၍ ကောင်းမှုသုစရိုက်ကို ကျင့်သုံးခြင်းဟူသော အကြောင်းကြောင့် နောင်အခါ၌ ချမ်းသာသုခ တည်းဟူသော ကောင်းကျိုးကို ခံစားရပေ၏။ နွားကျင်ငယ်ရည်ကို သောက်သော တတိယ ဆောက်တည်ခြင်းတည်း။

အချို့သော သူသည် မကောင်းမှု ဒုစရိုက်ကို မပြုမူ မကျူးလွန်ပေ။ ဝမ်းမြောက် ပျော်ရွှင်စွာဖြင့်ပင် ရှောင်ကြဉ်နိုင်လေသည်။

ထိုသူသည် မကောင်းမှုဒုစရိုက်ကို ရှောင်ကြဉ်၍ ကောင်းမှုသုစရိုက်ကို ကျင့်သုံးခြင်း ဟူသော အကြောင်းကြောင့် နောင်အခါ၌ ချမ်းသာသုခ တည်းဟူသော ကောင်းကျိုးကို ခံစားရသည်သာ ဖြစ်၏။ စတုမဓုကို သောက်သော စတုတ္ထဆောက်တည်ခြင်းတည်း။

[စူဠယမကဝဂ်၊ မဟာဓမ္မ သမာဒါနသုတ်]

## မိခင်နွားမကို ရှုမြင်ပါ

သားငယ်ရှိသော မိခင်နွားမကို ရှုဆင်ခြင်လော့။

ထိုနွားမသည် အစာစားရာ၌ မြက်ကိုလည်း ဆွဲ၍စား၏။ သားငယ်ကိုလည်း ငဲ့စောင်း၍ ကြည့်၏။

သားငယ်ကို ကြည့်ရှု စောင့်ရှောက်မှု မလစ်ဟင်းစေခြင်း၊ မိမိ၏ အစာစားမှုကိုလည်း မဆုံးရှုံးစေခြင်းဟူသော ထိုနွားမိခင်သည် မည်သို့လျှင် ဥပမာရှိသနည်း။

ဤလောက၌ အမြင်မှန် အသိမှန်နှင့် လမ်းစဉ်မှန် အခိုင်အမာတည်ရှိပြီးသော ပုဂ္ဂိုလ်သည် သိက္ခာသုံးပါးကို မြဲမြံစွာ စွဲကိုင်သည်သာဖြစ်၏။

မိမိမှတစ်ပါး အခြားသော အပေါင်းအဖော်တို့၏ ကိစ္စ ကြီးငယ် အသွယ်သွယ်ကို မလွှဲမကင်းသာ၍ ကြောင့်ကြပူ ပေးနေရသည် ဖြစ်သော်လည်း သိက္ခာသုံးပါးကိုမူ တိမ်းယိမ်း လျော့ပါးမှု မရှိအောင် ဆောက်တည်မြဲဖြစ်၏။

သိက္ခာ သုံးပါး ဟူသည်မှာ-

မြင့်မြတ်သော ကိုယ်ကျင့်သီလ လေ့ကျင့်ခန်း အဓိသီလသိက္ခာ၊

မြင့်မြတ်သော စိတ်လေ့ကျင့်ခန်း အဓိစိတ္တသိက္ခာ၊

မြင့်မြတ်သော ပညာလေ့ကျင့်ခန်း အဓိပညာသိက္ခာတို့ ပေတည်း။

[—ကောသမ္ဗိယသုတ်]

## ချွတ်ယွင်းခြင်း မုသာ

ဗုဒ္ဓမြတ်စွာသည် ရာဇဂြိုဟ်ပြည် ဝေဠုဝန်ကျောင်း၌ သီတင်းသုံးနေတော်မူစဉ်အခါ ဖြစ်၏။

ထိုစဉ်အခါ အရှင်ရာဟုလာသည် အမ္ဗလဋ္ဌိက ကျောင်း၌ သီတင်းသုံးနေလျက်ရှိ၏။

ဗုဒ္ဓသည် ညနေချမ်းအချိန်တွင် အရှင်ရာဟုလာ အထံသို့ ကြွရောက်လေသည်။

အရှင်ရာဟုလာသည် ဗုဒ္ဓ ကြွလာတော်မူသည်ကို မြင်၍ နေရာအသင့်ခင်းထားနှင့်၏။ ခြေဆေးအင်တုံကိုလည်း အသင့် တည်ထားလေ၏။

### ရေထည့်သော အင်တုံ

ဗုဒ္ဓသည် ခင်းထားသောနေရာ၌ ထိုင်ပြီးလျှင် ခြေတို့ကို ဆေးလေသည်။

ထို့နောက် ဗုဒ္ဓသည် အင်တုံထဲ၌ ရေအနည်းငယ်မျှသာ ချန်ထားပြီးလျှင် အရှင်ရာဟုလာအား မေးတော်မူ၏။

"ရာဟုလာ၊ သင်သည် အနည်းငယ်မျှသာရှိသော ဤ ရေကျန်ကို မြင်သလား"

"မြင်ပါသည်ဘုရား"ဟု အရှင်ရာဟုလာကပြန်လည်လျှောက်ထား၏။

"ရာဟုလာ၊ သိလျက် ချွတ်ယွင်းသော စကားကို ပြောဆိုခြင်း၌ အရှက်မရှိသူအား အကျင့်သီလသည် ဤရေကျန် နည်းတူပင် နည်းပါးလှချေ၏"

ထို့နောက် ဗုဒ္ဓသည် အင်တုံထဲရှိ ရေကြွင်းရေကျန်ကို သွန်ပစ်လိုက်လေ၏။

"ရာဟုလာ၊ ယခု ဤအင်တုံထဲက ရေအနည်းငယ်ကို စွန့်ပစ်လိုက်ပေပြီ၊ သင်မြင်သလား"

"မြင်ပါသည် ဘုရား"

"ရာဟုလာ၊ လိမ်လည်၍ မဟုတ်မမှန် ပြောဆိုခြင်း၌ အရှက် မရှိသူအား အကျင့်သီလသည် ဤနည်းတူပင် စွန့်ပစ်ထားပြီး ဖြစ်ပေ၏"

ထို့နောက် ဗုဒ္ဓသည် ခြေဆေးအင်တုံကို မှောက်ထားလိုက်လေသည်။

"ရာဟုလာ၊ သင်သည် ဤရေအင်တုံ မှောက်ထားသည်ကို မြင်သလား"

"မြင်ပါသည် ဘုရား"

"ရာဟုလာ၊ လိမ်လည်၍ မဟုတ်မမှန် ပြောဆိုခြင်း၌ အရှက်မရှိသူအား အကျင့်သီလသည် ဤနည်းတူပင် မှောက်ထားပြီး ဖြစ်ပေ၏"

ထို့နောက် ဗုဒ္ဓသည် မှောက်ထားသော အင်တုံကို လှန်၍ အရှင်ရာဟုလာအား ပြ၏။

"ရာဟုလာ၊ ဤရေအင်တုံကို ကြည့်လော့၊ ဘာမျှမရှိ- အချည်းနှီးဖြစ်သည်ကို မြင်သလား"

"မြင်ပါသည် အရှင်ဘုရား"

"ရာဟုလာ၊ လိမ်လည်၍ မဟုတ်မမှန် ပြောဆိုခြင်း၌ အရှက်မရှိသူအား အကျင့်သီလသည် ဤနည်းတူပင် အချည်းနှီး-ဘာမျှ မရှိသည် သာတည်း"

## ဆင်နှာမောင်း

ထို့နောက် ဗုဒ္ဓမြတ်စွာသည် ထိုအကြောင်းကိုပင် ဥပမာဖြင့် ထပ်မံ ထင်ရှားစေပြန်သည်။

"ရာဟုလာ၊ စစ်မြေပြင်သို့ ရောက်ရှိနေသော မင်းစီး ဆင်ပြောင်ကြီး သည် ရှိ၏၊ ထိုဆင်ပြောင်ကြီးသည် စစ်မြေပြင်၌ ကျွမ်းကျင် လိမ္မာမှု လည်း ရှိ၏၊ စစ်ပွဲ၌ ဆင်ပြောင်ကြီးသည် ကြိုးကြိုးစားစားပင် တာဝန် ထမ်းဆောင်၏၊ ခြေတို့ဖြင့်လည်း လှုပ်ရှား လုပ်ဆောင်၏၊ အစွယ်၊ ဦးခေါင်း၊ ကိုယ်လုံးတို့ဖြင့်လည်း လှုပ်ရှား လုပ်ဆောင်၏၊ သို့သော် နှာမောင်းကိုမူ ထိန်းထိန်း သိမ်းသိမ်း ပြုမူလေသည်။

"ထိုအခါ ဆင်စီး သူရဲသည် သိသာထင်ရှားသော အတွေးအမြင်ကို သိရလေ၏။ အဘယ်သို့နည်းဟူမူ–

'ဤ ဆင်ပြောင်ကြီးသည် သူလုပ်ရမည့် အမှုကိစ္စများကို မတုန်မဆုတ် ဆောင်ရွက်ပါပေ၏၊ သို့သော် သူသည် အသက်ကိုမူ မစွန့်နိုင်သေးပါတကား' ဟု တွေးမြင်မိ၏။

"တစ်ဖန် ထိုဆင်ပြောင်ကြီးသည် နောက်တစ်ကြိမ် စစ်ပွဲကို ဆင်နွှဲရပြန်၏၊ ထိုစစ်ပွဲ၌ ဆင်ပြောင်ကြီးသည် ခြေတို့ဖြင့်လည်းကောင်း၊အစွယ်၊ ဦးခေါင်း၊ ကိုယ်လုံးတို့ဖြင့်လည်းကောင်း ပြုလုပ်ဖွယ်ဟူသမျှကို လုပ်ရှားမှုလုပ်၏၊နှာမောင်းကိုလည်းထိန်းသိမ်း၍မထားပဲလှုပ်ရှားဆောင်ရွက်၏။

ထိုအခါ ဆင်စီး သူရဲသည် 'ဤ ဆင်ပြောင်ကြီးတား၊ သူ၏လုပ်ဆောင်ဖွယ် တာဝန်ကို ကောင်းစွာ ထမ်းရွက်လေပြီ၊ ဆင်ပြောင်ကြီး မပြုလုပ်သည့် လုပ်ဆောင်ဖွယ်ဟူ၍ မရှိပြီ၊ အသက်ကိုပင် စွန့်နိုင်လေပြီ' ဟု သိမြင်လေ၏။

"ရာဟုလာ၊ ဤအတူပင် မဟုတ်မမှန်သောစကားကို လိမ်လည်၍ပြောဆိုခြင်း၌ မရှက်တတ်သူ မည်သူမဆိုပင် မကောင်းမှုအကုသိုလ်ဟူသမျှကို ပြုလုပ်နိုင်သည်သာဖြစ်၏၊ ထိုသူမပြုလုပ်နိုင်သော မကောင်းမှု အကုသိုလ်ဟူ၍ မရှိတော့သည်သာတည်း"

[မဇ္ဈိမ ပဏ္ဏာသ ပါဠိတော်၊ ဘိက္ခုဝဂ်]

## တွေးတောခြင်း၊ ပို၍ တွေးတောခြင်း

ယောက်ျားတစ်ယောက်သည် အဆိပ်လူး ထားသော မြားဖြင့် အပစ်ခံရလေ၏။

ထိုသူ၏ ဆွေမျိုးသားချင်းတို့သည် မြားဆိပ်ကု ဆေးဆရာကို ခေါ်ယူကြလေသည်။

ဆေးဆရာက မြားတံနုတ်ရန် မြားနုတ်ကိရိယာများကို ပြင်ဆင်၏၊ ထိုအခါ မြားပစ်ခံရသူက–

"အို–ဆေးဆရာ၊ ကျွန်ုပ်ကိုယ်၌ စူးဝင်သော မြားတံကို မနုတ်ပါနှင့်ဦး၊ မြားပစ်သူသည် တယ်လို လူစားမျိုးလဲ၊ အထက်တန်းစား

လေလား၊ လူလတ်တန်းစားလား၊ အောက်တန်းစားလေလား- စူးစမ်း ပါဦး၊ ဘယ်လိုလူစားက ပစ်လိုက်သော မြားဟူ၍ သိမှသာလျှင် မြား တံကို နုတ်ပါမည်။

"မြားပစ်သူသည် လူကြီးလေလား၊ လူရွယ်—လူငယ် ဖြစ်လေမလား၊ အရပ်ရှည်သူလား၊ ပုကွသူလား၊ ဘယ်ရပ် ဘယ်ရွာက သူလေလဲ၊ သူ၏ ဘိုးဘွားသည် ဘယ်သို့သော အမျိုးအနွယ်မှ ဆင်းသက်လာလေသလဲ ဟူသည်ကို သိရှိပြီးမှသာလျှင် မြားတံကို နုတ်ယူပါမည်။

"အို-ဆရာ၊ ကျွန်ုပ်ကိုပစ်လိုက်သည်မှာ ဒူးလေးလေလား၊ လင်းလေးလား၊ လေးကိုင်းသည် ဝါးကိုင်းလေးလား၊ သစ်သားကိုင်း လေလား၊ လေးကြိုးသည် သားရေကြိုးလား၊ ချည်ကြိုးလား၊ ပိုးကြိုးလေ လား သိအောင် စူးစမ်းပြီးမှသာလျှင် ကျွန်ုပ်၏ကိုယ်၌ စူးဝင်နေသော မြားတံကို နုတ်ပါအံ့" ဟူ၍ ပြောဆိုလေ၏။

ဤအရာသည် မည်သို့ ဖြစ်နိုင်လေသနည်း။

ဤအရာကို မည်သို့ မှတ်ထင်ကြကုန်သနည်း။

ထိုသူ သိလိုချက်များကို စူးစမ်း၍ ဆုံးနိုင်ပါမည်လား။ စူးစမ်း နေလျက်ကပင် မြားဆိပ်တက်ကာ သေဆုံးခြင်းသို့ ရောက်ပေ မည်တည်း။

ဤလောက၌ အချို့သောသူသည် တွေးတော ကြံဆဖွယ် မဟုတ် သည်ကို တွေးတော ကြံဆလေ့ရှိ၏။

'လောကသည် မြဲသလား မမြဲသလား' ဟု ကြံဆလေ့ရှိ၏။

'လောကသည် အဆုံးရှိလေသလား အဆုံး မရှိဘူးလား' ဟူ၍ လည်းကောင်း၊

'သတ္တဝါတို့၌ အသက်နှင့်ကိုယ်သည် အတူတူပင်လေလား၊ အသက်က တခြား- ကိုယ်က တခြားလား' ဟူ၍လည်းကောင်း၊

'သတ္တဝါသည် သေပြီးနောက်၌ တစ်ဖန် ပြန်၍ ဖြစ်သလား၊ မဖြစ် တော့ဘူးလား၊ တစ်ဖန်ပြန်၍ ဖြစ်သည်လည်းမဟုတ်၊ မဖြစ်သည်လည်း မဟုတ် ဖြစ်လေသလား' ဟူ၍လည်းကောင်း မလိုအပ်ရာ၌ ကြံဆလေ့ ရှိကုန်၏။

ထိုအရာသည် မည်သို့ ဖြစ်နိုင်လေ သနည်း။
ထိုအရာကို မည်သို့ မှတ်ထင်ကုန်သနည်း။
မြားပစ် ခံထားရသူကို ဥပမာတင်၍ ဆင်ခြင်ကုန်ရာသည့်တကာစ။

[စူဠမာလုကျသုတ်]

## နှောင်ကြိုး နိုင်ခြင်း မနိုင်ခြင်း

**အခါတစ်ပါး၌** ဗုဒ္ဓမြတ်စွာသည် အင်္ဂုတ္တရာပတိုင်း၊ အပဏနိဂုံး၌ သီတင်း သုံးနေတော်မူ၏။

ထိုစဉ်အခါဝယ် တစ်ညသ၌ အရှင်ဥဒါယီသည် ဗုဒ္ဓထံသို့ ချဉ်းကပ်၍ လျှောက်ထားလေသည်။

"အရှင်မြတ်ဘုရား၊ တပည့်တော်တို့သည် ရှေးယခင်က နံနက်စာကို လည်း စားကြပါကုန်၏၊ ညစာကိုလည်း စားကြပါကုန်၏၊ မြတ်စွာ ဘုရားသည် တပည့်တော်တို့အား ညစာမစားကြရန် တားမြစ်ခဲ့ပါ သည်၊ ညစာ စားသုံးခြင်း၏ အပြစ်များကိုလည်း ဟောကြားတော် မူခဲ့ပါသည်။

"ထိုစဉ်က တပည့်တော်သည် စိတ်ဆင်းရဲမှု ဖြစ်ခဲ့ရပါသည်ဘုရား၊ 'မြတ်စွာဘုရားသည် ငါတို့အား ညစာစားခြင်းမျှလောက်ကိုပင် စွန့်ပယ် ခိုင်းချေသည်တကား၊ စင်စစ်အားဖြင့် ညစာသည် နံနက်စာထက် ပိုမို၍ ငါတို့အတွက် အကျိုးများ မွန်မြတ်သည်သာတည်း၊အိမ်ရှင်ယောကျ်ား၊ အိမ်ရှင် မိန်းမတို့သည် ဟင်းလျာကောင်းနှင့် ခဲဖွယ်ဘောဇဉ် အမွန် အမြတ်ကို ညစာအတွက် ချန်ထားလေ့ရှိသည်၊ ညစာစားပွဲ၌ အိမ်သူ အိမ်သား စုံလင်သဖြင့် အမွန် အကောင်းကို စားသောက်ကြသည်၊ ငါတို့အားလည်း ညဆွမ်းအတွက် အမွန်အကောင်းကိုသာ ပေးလှူကြ သည်၊ ယခုသော် ငါတို့မှာ ညဆွမ်း အမွန်အကောင်းကို စွန့်လွှတ်ကြရ သည်တကား'ဟူ၍ တပည့်တော် စိတ်တစ်မျိုးဖြစ်ပေါ်ကာ ဆင်းရဲခဲ့ရ ပါသည်။

"အရှင်မြတ်ဘုရား၊ တပည့်တော်သည် ယနေ့ ဆိတ်ငြိမ်ရာ သစ်ပင် အောက်၌ တရားကို ရဆင်ခြင်ပါသည်၊ ထိုအခါ တပည့်တော်၏ စိတ်

သန္တာန်၌ 'မြတ်စွာဘုရားသည် ငါတို့၏ ဆင်းရဲပင်ပန်းမှု များစွာကို ပယ်ဖျောက်တတ်ပါပေ၏၊ ငါတို့၏ ချမ်းသာ သုခတရားကို ရှေးရှု ဆောင်ရွက်ပေးတော် မူတတ်ပါပေ၏' ဟူ၍ ထင်မြင် သိရှိလာခဲ့ပါသည် ဘုရား။

## ညဆွမ်းခံရာဝယ်

"အရှင်မြတ်ဘုရား၊ တပည့်တော် ကြားသိရဖူးသည်မှာ ရဟန်း အချို့သည် ညဆွမ်းအတွက် ရွာထဲသို့ လှည့်လည်ရာ၌ ဆူးကိုလည်း နင်းမိပါသည်၊ ရွံ့ဗွက်သို့လည်း ကျပါသည်၊ အိပ်နေသော နွားကိုလည်း တိုက်ခိုက်မိပါသည်၊ သူခိုးမျိုးနှင့်လည်း ရင်ဆိုင် တိုးမိပါသည်၊ အညစ်အကြေး စွန့်ရာ အရပ်သို့လည်း ဝင်မိ တိုးမိကြပါသည်၊ အချို့သော မာတုဂါမ၏ မေထုန်ဖြင့် ဖိတ်ခေါ်ခြင်းကိုလည်း ခံကြရပါသည်။

"အရှင်မြတ် ဘုရား၊ တပည့်တော် ကိုယ်တိုင် ကြုံခဲ့ရဖူးသည်မှာ— တပည့်တော်သည် ညဆွမ်းအတွက် လှည့်လှည်ခဲ့ပါသည်၊ မိုးမှောင်ကျ၍ လျှပ်စစ်ပြက်သော တစ်ည၌ ခွက်ဆေးနေသော မိန်းမတစ်ယောက်သည် လျှပ်စစ်ရောင်ဖြင့် တပည့်တော်ကို မြင်လိုက်လျှင် 'အမယ်လေး—ကိုယ် ကျိုးနည်းပါပေါ့၊ ဘီလူး ကြီးလာနေတယ်၊ ဘီလူးကြီး' ဟု အလန့်တကြား အော်ပါသည်။

"ထိုအခါ တပည့်တော်က 'အို....နှမ၊ ငါသည် ဘီလူး မဟုတ်ပါ၊ ဆွမ်းခံသော ရဟန်းပါ' ဟု ပြန်ပြောပါသည်။

"ထိုမိန်းမသည် 'အို....ရဟန်း၊ သင့်မှာ မိဘ မရှိသလော၊ မိခိုရာ မဲ့လေသလောက တကား ရဟန်း—သင်၏ ဝမ်းဗိုက်ကို ဓားထက်ထက်ဖြင့် ဖောက်ခွဲပစ်ခြင်းက မြတ်ပေသေး၏၊ ဝမ်းဗိုက် ဟူသော အကြောင်း ကြောင့် ညဉ့်မှောင်မှောင်၌ ဆွမ်းခံခြင်းကား မသင့်တော်သည်သာ တည်း' ဟု ပြောပါသည်။

"အရှင်မြတ်ဘုရား၊ 'မြတ်စွာဘုရားသည် ငါတို့၏ ဆင်းရဲခြင်းကို ပယ်ဖျောက်တတ်ပါပေ၏၊ ချမ်းသာခြင်းကို ပေးဆောင်တတ်ပါပေ၏' ဟူ၍ ဆင်ခြင်မိသော တပည့်တော်သည် ကိုယ်ဆောစိတ်ပါ ရွှင်လန်း ချမ်း မြေ့ မိပါသည် ဘုရား"

ထို့နောက် ဗုဒ္ဓသည် အရှင် ဥဒါယီအား ဆက်လက်၍ ဟောကြား တော်မူ၏။

"ဥဒါယီ၊ အချို့သော သူတို့သည် ငါဘုရားက 'ဤအရာကိုပယ်စွန့် ကြကုန်၊ ဤသို့ ကျင့်သုံးကြကုန်'ဟု ပြောကြားရာ၌ လက်ခံကျင့်သုံးခြင်း မရှိကြပေ၊ 'ဤမျှလောက်သော နည်းနည်းပါးပါး အရာကလေးကို အဘယ်မှာ မှုစရာရှိသနည်း၊ စိုးရိမ်လွန်းလှသည်တကား' ဟု ထင်မှတ်ကြ ကုန်၏၊ ပြောလည်း ပြောကြကုန်၏၊ မကျေမနပ်လည်း ဖြစ်ကြကုန်၏။

## ဘီလုံးငှက်နှင့် ညွှတ်ကွင်း

'ဥဒါယီ၊ ထိုသို့ လိုက်နာ ကျင့်သုံးခြင်း မရှိသူများအဖို့ အသေးအဖွဲ ကလေးဟု သူတို့ ထင်မှတ်သည့်အရာသည် အနှောင်အဖွဲ့ကြီးပင် ဖြစ်ပေ၏၊ မြဲမြံခိုင်ခံ့သော နှောင်ကြိုးကြီးပင် ဖြစ်ပေ၏။

"ဥဒါယီ၊ မြက်ပင် ကိုင်းမျှင်တို့ဖြင့် ပြုလုပ် စီမံထားသော ကျော့ ကွင်းကိုကြည့်ပါ၊ သေးငယ်၍ မမှုလောက်သည့် အရာဟု ထင်မှတ်ရသည် မဟုတ်လား၊ သို့သော် ဥဒါယီ၊ ထိုသေးငယ်သော မဆိုစလောက် ကျော့ ကွင်းသည် ဘီလုံးငှက်ငယ်အဖို့ ရုန်းမလွတ်နိုင်အောင် မြဲမြံခိုင်ခံ့သည်ပင် မဟုတ်လား။

"ဥဒါယီ၊ ဆက်၍ ဆိုဦးအံ့၊ အချို့သော သူတို့သည် ငါဘုရားက 'ဤအရာကို ပယ်စွန့်ကြကုန်၊ ဤသို့ ကျင့်သုံးကြကုန်'ဟု ပြောကြားရာ၌ လိုက်နာ ကျင့်သုံးကြကုန်၏၊ 'မြတ်စွာဘုရားဟောကြားသော ဤအရာ သည် နည်းနည်းပါးပါးကလေးမျှသာ ဖြစ်သော်လည်း အရေးကြီးလှ သည်သာတည်း၊ အရာရောက်နိုင်သည်သာတည်း'ဟု လေးလေးစားစား သဘောထားကြကုန်၏။

## ဆင်ပြောင်ကြီးနှင့် နှောင်ကြိုး

"ဥဒါယီ၊ ထိုကဲ့သို့ လေးလေးစားစားသာလျှင် လိုက်နာ ကျင့်သုံးသူတို့ အဖို့ ပယ်စွန့်ရမည့် အရာသည် မြဲမြံခိုင်ခံ့သော နှောင်ကြိုး မဖြစ်နိုင် သည်သာတည်း။

"ဥဒါယီ၊ အမျိုးကောင်းသော အာဇာနည် ဆင်ပြောင်ကြီးကို ကြည့်စမ်းပါ၊ ထို ဆင်ပြောင်ကြီးသည် ခိုင်ခံ့သော လွန်ကြိုးကြီးများဖြင့် နှောင်ဖွဲ့ခြင်း ခံရသော်လည်း ကိုယ်ကို အနည်းငယ်မျှ လှုပ်ရှားလိုက်ရုံဖြင့် လွတ်ထွက်နိုင်သည် မဟုတ်လား၊ ထိုဆင်ပြောင်ကြီးအဖို့ မြဲမြံ ခိုင်ခံ့သော နှောင်ကြိုးဟူ၍ မဆိုနိုင်သည်သာတည်း။

## တဲကုပ်ပိုင်ရှင်

"ဥဒါယီ၊ ဆက်၍ ဆိုဦးအံ့၊ ခြောက်သွေ့ ခေါင်းပါးလှသော ဇနပုဒ် တစ်ခု၌ ဖယိုဖရဲ ယိုင်လဲလုလု တဲငယ်တစ်လုံးရှိ၏။ ထို တဲငယ်အတွင်း၌ ညစ်ပေ စုတ်နုပ်နေသော အိပ်ရာ ခုတင် တစ်ခု ရှိလေ၏၊ ညံ့ဖျင်းလှသော လူးစပါးနှင့် ဗူးစေ့၊ ဖရုံစေ့များ ထည့်ထားသည့် တောင်းစုတ်၊ အိုးကွဲ များလည်း ရှိ၏၊ အကျည်းတန် အရုပ်ဆိုးသော မိန်းမတစ်ယောက်လည်း ရှိလေ၏။

"ဥဒါယီ၊ ထို တဲငယ်၏ ပိုင်ရှင်ယောကျ်ားသည် သစ်ပင်ရိပ်၌ တရား အားထုတ်လျက် ရှိသော ရဟန်းကို မြင်သဖြင့် 'ဩော်....ငါသည်လည်း ထိုရဟန်းကဲ့သို့ ဆံ မုတ်ဆိတ်တို့ကို ပယ်ကာ ရဟန်းအဖြစ်သို့ ရောက်ရပါမူ ထို ရဟန်းကဲ့သို့ပင် အေးချမ်းငြိမ်းသက်မှုကို ရရှိလေရာ၏' ဟု အကြံဖြစ်ပေါ် လေ၏။

"သို့သော် ဥဒါယီ၊ ထို ယောကျ်ားသည် သူ၏ တဲအိုနှင့် တဲအတွင်းရှိ ညံ့ဖျင်းဟောင်းနွမ်းသော ပစ္စည်းများကို လည်းကောင်း၊ အကျည်း တန်သော မယားကိုလည်းကောင်း မစွန့်လွှတ်နိုင်ပေ၊ အေးချမ်း ငြိမ်း သက်သော ရဟန်းအဖြစ်သို့ မကူးပြောင်းနိုင်ပေ။

"ဥဒါယီ၊ ဤအရာကို ဘယ်သို့ မှတ်ထင်သနည်း၊ ငါဘုရား ပညတ် သည်ကို 'ဤအရာကလေးများကား- အနည်းအပါး မဖြစ်စလောက်တို့ သာတည်း' ဟု ထင်မှတ်ကာ မစွန့်လွှတ်နိုင်သူ၊ မလိုက်နာ မကျင့်သုံး နိုင်သူ အချည်းနှီးသော ပုဂ္ဂိုလ်တို့ကို ရှုမြင်လေလော့။

## အိမ်ကြီးရှင်

"ဆက်လက်၍ နာကြားဦးလော့ ဥဒါယီ၊ စည်ကား သိုက်မြိုက်သော မင်းနေပြည်သား ယောကျ်ားတစ်ဦးသည် ရှိလေ၏၊ ထိုယောကျ်ား၌

ကြီးကျယ် ခမ်းနားသော အိမ် အဆောင်ဆောင်ရှိ၏၊ ထိုအိမ်တို့အထဲ၌ သစ်လွင် လှပသော အိပ်ရာ ခုတင်နှင့် တကွ အဆောင်အယောင် ပစ္စည်းများစွာလည်း ရှိ၏၊ ချောမော လှပသော မယားနှင့်တကွ ခြွေရံ သင်းပင်း များစွာလည်း ရှိ၏၊ ရွှေ၊ ငွေ၊ ရတနာ၊ လယ်ယာ ဥယျာဉ်နှင့်လည်း ပြည့်စုံသူ ဖြစ်၏။

"ထိုယောကျ်ားသည် သစ်ပင်ရိပ်၌ အေးချမ်းစွာ တရား အားထုတ်နေသော ရဟန်းကို မြင်သဖြင့် 'ထိုရဟန်း၏ ဘဝသည် အေးချမ်းငြိမ်သက်လှပေသည် တကား၊ ငါသည်လည်း ထိုရဟန်းကဲ့သို့ပင် ဆံမုတ်ဆိတ်တို့ကိုပယ်၍ ရဟန်းအသွင်သို့ ကူးပြောင်းရသော် ကောင်းလေစွ' ဟု အကြံ ဖြစ်ပေါ်လေ၏။

"ထို့နောက် ထိုယောကျ်ားသည် စည်းစိမ်ဥစ္စာ အခြွေအရံအားလုံးကို စွန့်လွှတ်ကာ ရဟန်းအဖြစ်သို့ ကူးပြောင်းသွားလေ၏။

"ဥဒါယိ၊ ထိုအရာကို သင် ဘယ်သို့ မှတ်ထင်လေသနည်း၊ အချို့သော အမျိုးကောင်းသားတို့သည် ငါဘုရား ပညတ်သည်ကို 'ဤအရာကလေးများကား နည်းနည်းပါးပါးပင် ဖြစ်သော်လည်း အသေးအဖွဲ့မဟုတ်ကုန်၊ အရေးကြီးသည်သာတည်း' ဟု မှတ်ယူကြကုန်၏၊ ငါဘုရား၏ အဆုံးအမကို ရိုသေလေးစားသဖြင့် နာယူကျင့်သုံးကြကုန်၏၊ ဥဒါယိ၊ သင်သည် ထိုသို့သော အမျိုးကောင်းသားတို့ကို ရှုမြင်လေလော့"

[=လဋုကိကောပမသုတ်]

## ရှောင်ဖယ်ခြင်း

နူနာစွဲကပ်နေသော ယောကျ်ားတစ်ဦးကို ကြည့်ပါ။

နူနာသည် ရင့်ကျက်လှပြီဖြစ်၍ အိုင်းအမာဖြင့် အိမ်ဖွဲ့လျက် ရှိ၏။ ပိုးလောက်တို့ ကိုက်ခဲသဖြင့် နာကျင်ခြင်း ဝေဒနာ ခံစားနေရ၏။ ဆိုးရွားသော အပုပ်နံ့လည်း ထွက်လျက် ရှိပေ၏။

ထိုသူသည် နူနာနှိပ်စက်သဖြင့် လက်သည်းဖြင့် ကုတ်ဖဲ့လျက် မီ ကျီးစု၌ ကိုယ်ကို ကင်လေ၏။

ဆွေမျိုးသားချင်းတို့သည် ထိုသူ၏ နူနာကို ကုသရန် ဆေးဆရာ ပင့်ခေါ်၏။

ထို့နောက် ဆေးကုသခြင်းကြောင့် ထိုသူမှာ နူနာရောဂါပျောက်ကင်း ချမ်းသာသွားလေသည်။ လွတ်လပ် ပျော်ရွှင်စွာ သွားလာ နေထိုင်ရ လေသည်။

ထိုနူနာ ပျောက်ကင်းနေသူသည် အခြားသော နူနာစွဲကပ်နေသူ တစ်ဦးကို တွေ့မြင်လေ၏။ ပိုးလောက်တို့ ကိုက်ခဲနှိပ်စက်သဖြင့် လက်သည်း များဖြင့် ကုတ်ဖဲ့ကာ မီးကျီးစု၌ ကင်လျက် ရှိသည်ကိုလည်း တွေ့မြင် လေ၏။

ထိုအရာကို မည်သို့ မှတ်ထင်ကြကုန်သနည်း။

ထိုသူသည် နူနာကို ပြန်လည်၍ လိုချင် တောင့်တ ဦးမည်လား၊ လက်သည်းတို့ဖြင့် ကုတ်ဖဲ့၍ နေချင်ပါဦးမည်လား၊ မီးကျီးစု၌ ကိုယ်ကို ကင်နေချင်ဦးမည်လား။

မဖြစ်နိုင်သောအရာပေတည်း။

## လွတ်မြောက်ခြင်း

ရူပါရုံ၊ သဒ္ဒါရုံ၊ ဂန္ဓာရုံ၊ ရသာရုံ၊ ဖောဋ္ဌဗ္ဗာရုံ ဟူသော ကာမ အာရုံ တို့သည်ရှိကုန်၏။ လူတစ်ယောက်သည် ထိုကာမအာရုံတို့၌ နှလုံးမွေ့လျော် ပျော်ရွှင်စွာ ခံစား စံစားခဲ့၏။

ထို့နောက် ထိုသူသည် ကာမ အာရုံတို့၏ ဖြစ်ခြင်း၊ ပျက်ခြင်း၊ ချုပ်ခြင်းသဘောကို ဆင်ခြင် မိလေသည်။ ကာမအာရုံတို့၏ ပူလောင် ပြင်းပြခြင်းသဘောကိုလည်းကောင်း၊ နှိပ်စက်ဖျက်ဆီးတတ်ခြင်းသဘော ကိုလည်းကောင်း၊ဆာလောင်မွတ်သိပ်တတ်ခြင်းသဘောကိုလည်းကောင်း ဆင်းရဲပင်ပန်းစေတတ်ခြင်း သဘောကိုလည်းကောင်း မှန်သည့်အတိုင်း သိမြင်လာလေသည်။

ထို့ကြောင့် ထိုသူသည် ကာမအာရုံတို့၌ တပ်မက် နှစ်သက်ခြင်း တည်းဟူသော တဏှာကို ပယ်စွန့်ပစ်လေ၏။

ထိုသူ၏ စိတ်သန္တာန်၌ ကာမကြောင့် ဖြစ်ပေါ်လာသော စိုးရိမ်ပူပန်ခြင်း၊ ဆာလောင် မွတ်သိပ်ခြင်း၊ ဆင်းရဲ ပင်ပန်းခြင်းတို့ မရှိတော့ပေ။ ငြိမ်းအေးသော စိတ်အစဉ်ဖြင့် ချမ်းမြေ့လျက် ရှိနေပေ၏။

ထိုသူသည် အခြားသူတို့ ကာမအာရုံ၌ မြူးတူး ပျော်ရွှင်စွာ ခံစားစံစား၍နေသည်ကို တွေ့ရလေသော် တဖန် ပြန်လည်၍ လိုချင်တောင့်တဦးမည်လော။

မဖြစ်နိုင်ကောင်းသော အရာပေတည်း။

ကာမကို စက်ဆုပ်သဖြင့် ပယ်စွန့်ပြီးသူသည် တစ်ဖန် ပြန်၍ ကာမကို လက်ခံခြင်း မပြုတော့သည်သာတည်း။

## မီးကျီးစုမီး ကာမမီး

နန္ဒာရောဂါ ပျောက်ကင်းသဖြင့် လွတ်လပ် ပျော်ရွှင်စွာ သွားလာနေထိုင်လျက် ရှိသူကို ကြည့်ပြန်လေဦးလော့။

ထိုသူအား အခြားသူများက လက်ကိုဆွဲကိုင်၍ မီးကျီးတွင်းဆီသို့ ဆောင်ယူလေသော် ထိုသူသည် မည်သို့ ရှိအံ့နည်း။ ရုန်းကန် ဖယ်ရှားမည်သာ မဟုတ်ပါလော။ ထိုသူသည် မီးကျီးအပူဒဏ်ကို ကြောက်ရွံ့သည်ပင် မဟုတ်လော။

ထိုအရာကို မည်သို့ မှတ်ထင်ကြကုန်သနည်း။

မီးကျီးစုသည် ယခုမှသာ ပူလေသလော။

မီးကျီးစုဟူသည် ရှေးယခင်ကလည်း ပူပြင်း လောင်ကျွမ်းတတ်သည်သာတည်း။ အစဉ်သဖြင့် လောင်ကျွမ်းခြင်း သဘော ရှိသည်သာတည်း။

နန္ဒာဟူသော အကြောင်းကြောင့်၊ ပိုးလောက်တို့ ကိုက်ခဲ ထိုးဆွခြင်းဟူသော အကြောင်းကြောင့် လက်သည်းများဖြင့်လည်း ကုတ်ဖဲ့ခဲ့ရပြီ။ မီးကျီးစု၌လည်း ကင်ခဲ့ရပြီ။

နန္ဒာ ပျောက်ကင်းလေသော်၊ ပိုးလောက်တို့ ကိုက်ခဲထိုးဆွခြင်း မရှိလေသော် လက်သည်းတို့ဖြင့် ကုတ်ရန် ရှိသေးအံ့လော။ မီးကျီးစု၌ ကင်ရန် ရှိသေးအံ့လော။

ကာမကို မပယ်စွန့်မူ၍ ကာမကို စွဲလမ်း တပ်မက် နေကြသော ပုထုဇဉ်တို့သည် ရာဂ တဏှာ တည်းဟူသော ပိုးလောက်တို့၏ ထိုးဆွ ကိုက်ခဲခြင်း ခံနေကြရ၏၊ ထို့ကြောင့် ကာမအာရုံ၌ မြူးတူး ပျော်ပါး ကာ နှစ်သက် သာယာမှုကို ခံယူနေကြလေသည်။ လက်သည်းတို့ဖြင့် ကုတ်ဖဲ့၍ မီးကျီးစု၌အင်၍ နူနာကို သက်သာစေခြင်းကဲ့သို့ သာတည်း။

[ပရိဗ္ဗာဇကဝဂ်၊ မာဂဏ္ဍိယသုတ်]

## မျက်စိကန်းသူ မကန်းသူ

ပညာရှိတို့သည် အမှန်လမ်းစဉ်၊ အမှန်တရားကို ညွှန်ပြကြကုန်၏။

ဆင်းရဲပင်ပန်းစေတတ်သည့် လမ်းစဉ်မှား အမြင်မှားကို စွန့်ပယ်ရန် တိုက်တွန်း၍ ချမ်းသာငြိမ်းအေးစေတတ်သည့် လမ်းစဉ်မှန် အမြင်မှန်သို့ ကူးပြောင်းရန်လည်း နှိုးဆော်ကြကုန်၏။

မလိမ္မာသော သူတို့သည် ပညာရှိသူတို့ ညွှန်ပြချက်ကို မလိုက်နာ မကျင့်သုံးကြကုန်။ ထို့ကြောင့် ဆင်းရဲပင်ပန်းကြရကုန်၏။ ကြောင့်ကြ ပူပန်ကြရကုန်၏။

လိမ္မာသော သူတို့ကား ပညာရှိတို့၏ စကားကို နာယူကျင့်သုံးကြ သဖြင့် သာယာ ချမ်းမြေ့ကြရကုန်၏။ ကြောင့်ကြ ပူပန်မှု ကင်းကြရ ကုန်၏။

ဥပမာဖြင့် ပြပေဦးအံ့။

မျက်စိကန်းသူ တစ်ဦး ရှိလေ၏။ ထိုသူသည် အဖြူ၊ အမည်း စသော အရောင်အဆင်းကို မသိ။ နေရောင်၊ လရောင်၊ မီးရောင် စသည်ကိုလည်း မမြင်။ ယောကျ်ား၊ မိန်းမ၊ ကျွဲ နွား၊ စသည်ကိုလည်း ခွဲခြား၍မမြင်။ ညီညာသောလမ်း၊ မညီညာသော လမ်း စသည်ကိုလည်း မမြင်။

ထို မျက်စိကန်းသူမှာ မျက်စိ အမြင်ဖြင့် ရရှိခံစားအပ်သော အကျိုး တရားဟူသမျှ ဆုံးရှုံးလေ၏။

မျက်စိကု ဆေးဆရာသည် ထိုသူအား မျက်စိအလင်း ရစေရန် ကုသ ပေးလေသည်။

သို့သော် မျက်စိ ကန်းသူသည် ဆေးဆရာ၏ ကုသမှု အစီအစဉ်ကို ကောင်းစွာ နာယူ ကျင့်သုံးခြင်း မရှိပေ။ ထို့ကြောင့် မျက်စိအလင်းကို မရရှိနိုင်ပေ။

အခြားသောမျက်စိကန်းသူ တစ်ဦး မှာမူ မျက်စိကု ဆရာ၏ ဆေးကုသမှု အစီအစဉ်ကို ကောင်းစွာ နာယူ ကျင့်သုံးလေ၏။ ထို့ကြောင့် ထိုသူမှာ မျက်စိအလင်းကို ရရှိလျက် အရာဝပ်သိမ်းကို ကြည့်နိုင် မြင်နိုင် သိရှိနိုင် လေသည်။

[ပရိဗ္ဗာဇကဝဂ်၊ မာဂဏ္ဍိယသုတ်]

## ဘဝဟောင်းကို မြင်ခြင်း

ဗုဒ္ဓသည် ကျင့်စဉ်တရားကို ဟောကြား ထားပေ၏။ ထိုကျင့်စဉ်အတိုင်း အမှန်တကယ် ဆောက်တည် ကျင့်သုံးသူသည် စင်ကြယ်သော ဉာဏ် မျက်စိကို ရရှိနိုင်သည်သာ ဖြစ်၏။ ထိုဉာဏ်မျက်စိဖြင့် ရှေး၌ဖြစ်ခဲ့ ဖူးသော ခန္ဓာအစဉ်ကို သိမြင်နိုင်၏။

ရှေး၌ ဖြစ်ခဲ့ဖူးသော ဘဝများစွာကိုလည်းကောင်း၊ ထိုထိုဘဝ များစွာတို့၌ ဖြစ်ခဲ့ဖူးသော အမျိုးအနွယ်၊ မြို့ရွာဒေသကိုလည်းကောင်း၊ မည်သို့ မည်ပုံ နေခဲ့သော ကြောင်းဝသည်၊ ဆင်းရဲချမ်းသာ စသော အခြင်းအရာကိုလည်းကောင်း ပြန်လည်၍ အောက်မေ့သိမြင် နိုင်သည် သာတည်း။

ဥပမာအားဖြင့် ယောကျ်ားတစ်ယောက်သည် မိမိ နေထိုင်သည့်ရွာမှ အခြားတစ်ရွာသို့ သွားရောက်၏။ မိတ်ဆွေ အသိအသိတို့၏ အိမ်များ သို့လည်း ဝင်ရောက်၏။

ထိုသူသည် မိမိရွာသို့ ပြန်လာပြီးလျှင် သွားရောက်ခဲ့သော ခရီးစဉ်ကို ပြန်လည်၍ အောက်မေ့လေသည်။

“ငါသည် ရွာမှ ထွက်၍ မည်သည့်လမ်းဖြင့် သွားသည်၊ နှေးနှေး သွားသည်၊ မြန်မြန်သွားသည်၊ လမ်း၌ မည်သူနှင့် တွေ့ဆုံသည်၊ ထိုရွာသို့ ရောက်လျှင် မည်သူ့အိမ်ကို ရှေးဦးစွာ ဝင်သည်၊ မည်သည့် စကားကို ပြောခဲ့သည်၊ ထို့နောက် အခြား မည်သူ့အိမ်သို့ သွားပြန်သည်၊ အိမ်တံခါး ပိတ်ထားသဖြင့် အခြားအိမ်သို့ သွားပြန်သည်၊ မည်သူနှင့် တွေ့၍ မည်သည့်အကြောင်း ပြောခဲ့သည်” စသည်ဖြင့် တစ်ဖန်ပြန်၍ အောက်မေ့ သိမြင်နိုင် သကဲ့သို့တည်း။

ကြည့်လင် သန့်ရှင်း နောက်ကျုကင်းသော ရေအိုင်သည်ရှိ၏။ ထိုရေအိုင်အနီး၌ မျက်စိ အမြင်ရှင်း၍ တိမ်သလ္လာကင်းသော ယောကျ်ား တစ်ဦးသည် ရပ်လျက် ကောင်းစွာကြည့်ရှု၏။ ထိုသူသည် ရေအိုင်ထဲရှိ ခရု၊ ကျောက်သွား၊ ငါး၊ လိပ်တို့၏ သွားသော လှုပ်ရှားမှုကို သိမြင်နိုင်သကဲ့သို့တည်း။

[မဟာ သကုလု ဒါယိသုတ်]

## ကာမဂုဏ် အမဲရိုး

အမဲဖျက်ခြင်း၌ ကျွမ်းကျင်သူသည် အမဲရိုးမှ အသားတို့ကို ဓားဖြင့် လှီး၍ယူ၏။ အထပ်ထပ် အခါခါ လှီးယူ၏။ ထို့နောက် အရိုး၌ကပ်နေသော အသားစကလေးများကိုလည်း ဓားဖြင့် ခြစ်၍ယူ၏။ အထပ်ထပ် အခါခါ ခြစ်၍ ယူ၏။ အမဲရိုးသည် အသားမရှိ၊ ပြောင်ရှင်းလျက် ရှိတော့၏။

အမဲသား စားရနိုးဖြင့် စောင့်မျှော်နေသော ခွေးတစ်ကောင်သည် ထိုအမဲဖျက်သူအနီး၌ ရှိနေ၏။

အမဲဖျက်သူသည် အသားမရှိသော အမဲရိုးကို စောင့်စား၊ ငံ့လင့်လျက် ရှိသည့် ခွေးအား ပစ်ပေးလိုက်လေသည်။ ထိုခွေးသည် သွေးနံ့ကို မက်မောစွာဖြင့် အမဲရိုးကို လျှာဖြင့် လျက်လေ၏။

ထိုခွေးသည် ဆာခလောင် မွတ်သိပ်ခြင်း မပျောက်သည်သာတည်း။ စားချင်သော အလို ဆန္ဒ မပြည့်နိုင်သည်သာတည်း။

အဆင်း၊ အသံ၊ အနံ့၊ အရသာ၊ အတွေ့အထိ ဟူသော ကာမဂုဏ်တို့သည် အမဲရိုးနှင့် တူကုန်၏။

သတ္တဝါတို့သည် ထိုကာမဂုဏ်တို့ဖြင့် အားရ ကင်းတိမ်ခြင်း မရှိနိုင်။ အလိုဆန္ဒ ပြည့်စုံပြီဟူ၍ မရှိနိုင်။ ဆားရေသောက်သူသည် သောက်လေ ငတ်လေ၊ ငတ်မပြေနိုင်သကဲ့သို့တည်း။

## သားတစ် ကာမဂုဏ်

အသားစား ငှက်တစ်ကောင်သည် သားတစ်ကို ချီ၍ ပျံသန်းသွားလေ၏။ သဗ္ဗိုတော်ရာ၌ ရပ်နားကာ ထိုသားတစ်ကို စားမည်ဟူသော ရည်ရွယ်

ချက်ဖြင့် ပုံသန်းလျက် ရှိ၏။ ထိုအခါ အခြား သားစားငှက်များသည် သားတစ်ကို လုရန် လိုက်လံကြလေ၏။ သားတစ်ကို ချီယူသွားသော ငှက်အား ထိုးဆိတ်၍ တိုက်ခိုက် လုယူကြ၏။

ယင်းသည့် အခြေအနေ၌ သားတစ်ချီထားသော ငှက်သည် မည်သို့ ပြုလုပ်သင့်သနည်း။

သူသည် သားတစ်ကို စွန့်လွှတ်ရန်သာ ရှိ၏။ ပစ်ချလိုက်ရန်သာ ရှိ၏။

သို့မဟုတ်လျှင် အခြားငှက်များ၏ ထိုးသုတ် တိုက်ခိုက်ခြင်းကို ခံရကာ ပျက်စီးဆုံးရှုံးရမည်တည်း။

ကာမဂုဏ် အာရုံတို့သည် သားတစ်နှင့် တူကုန်၏။ ဘေးအန္တရာယ် များလှပေသည်။ ထိုကာမဂုဏ် အာရုံတို့ကို စွဲလမ်း တွယ်တာနေလျှင် ဘေးအန္တရာယ်ကို ပွေ့ပိုက်ထားသည်နှင့် မခြားပေ။

ကာမဂုဏ် အာရုံကို စွန့်လွှတ်၍ လျစ်လျူရှုထားနိုင်သူကား ဘေး အန္တရာယ်မရှိ၊ ဆင်းရဲပင်ပန်းခြင်းလည်း မရှိ၊ ချမ်းသာစွာ နေရ၏။

## မီးတောက် ကာမဂုဏ်

လှပ တင့်တယ်သော ရုပ်ဆင်း ရူပါရုံ၌ နှစ်သက်စွဲလမ်းခြင်း၊ သာယာ ကြည်နူးဖွယ်ရာသော အသံ သဒ္ဒါရုံ၌ နှစ်သက်စွဲလမ်းခြင်း၊ မွှေးကြိုင် သင်းပျံ့သော ရနံ့ ဂန္ဓာရုံ၌ နှစ်သက်စွဲလမ်းခြင်း၊ ချိုချဉ်ငန်စပ်စသော အရသာ ရသာရုံ၌ နှစ်သက် စွဲလမ်းခြင်း၊ နူးညံ့အိစက်သော အတွေ့ အထိ ဖောဋ္ဌဗ္ဗာရုံ၌ နှစ်သက် စွဲလမ်းခြင်းတို့သည် ကာမဂုဏ်၌ တွယ်တာ မက်မောခြင်း မည်၏။

ထို ကာမဂုဏ်တို့သည် မီးလျှံနှင့် တူသည်တည်း။ လောင်ကျွမ်းတတ်၏။ ဖျက်ဆီး နှိပ်စက်တတ်၏။ ပူပန်စေတတ်၏။

လူဘဝ်ဒေယာက်သည် မြက်ပင်၊ ကောက်ရိုးပင်များကို မီးရှို့ကာ စွဲကိုင်လျက် လေတိုက်ရာဘက်သို့ ပြေးသွား၏။ မီးတောက် မီးလျှံသည် ထိုသူ၏ လက်ကို လည်းကောင်း၊ လက်ရုံးကို လည်းကောင်း၊ မျက်နှာ

ဦးခေါင်း၊ ဆံပင် စသည်ကိုလည်းကောင်း အချိန်ဖြင့် လောင်ကျွမ်းသည် သာတည်း။

ထိုသူသည် မီးစကို စွန့်လွှတ်ရမည်သာတည်း။ ပစ်ချလိုက်ရမည်သာတည်း။ သို့မဟုတ်က ထိုသူသည် မီ လျှံ၏ လောင်ကျွမ်းဖျက်ဆီးခြင်းကို ခံရမည်မှာ မလွဲပေ။

ကာမဂုဏ်ကို မက်မောတွယ်တာလျက် ရှိသူသည် မီးစကို ကိုင်ကာ လေဟိုက်ရာဘက်သို့ ပြေးသွားနေသူနှင့် တူ၏။

## ကာမဂုဏ် မီးကျီးတွင်း

ကျွဲလူးအိုင်သာသာ ကျယ်ပြန့်သော မြေကျင်းသည် ရှိ၏။ လူ့တစ်ရပ်ကျော်ကျော် နက်စောက်လေ၏။ ထိုမြေကျင်းထဲ၌ အလွန် အားကောင်းသော မီးကျီခဲများသည် တရှိန်ရှိန် တောက်လောင်လျက် ရှိနေကြ၏။ ပြည်တောင်း ခွက်တောင်းခန့် ပမာဏရှိသော ရှားသား မီးကျီးခဲကြီးများဖြစ်၍ အပူရှိန်မှာ ပြင်းထန် အားကောင်းလှပေသည်။

အားကောင်း မောင်းသန် ယောကျ်ား နှစ်ယောက်သည် အားနည်းသူ တစ်ဦးအား လက်တစ်ဖက်ဆီမှ ချုပ်ကိုင်၍ ထိုမီးကျီးတွင်းဆီသို့ ဆွဲခေါ် လာကြ၏။

ထိုအခါ အားနည်းသူသည် မီးကျီးတွင်းသို့ ကျရောက်မည်ကို လွန်စွာပင် ထိတ်လန့်သဖြင့် ရုန်းကန်လေ၏။ အားရှိသမျှ အကြိမ်ကြိမ် ရုန်းကန်လေ၏။ မီးကျီးတွင်းသို့ မကျရောက်ရန် ဟူသော ဆန္ဒသည် ထိုသူအား အစွမ်းကုန် လွှမ်းမိုးနေသည်သာတည်း။

ကာမဂုဏ် အာရုံတို့သည် မီးကျီးတွင်းကဲ့သို့ ဘေးအန္တရာယ် ကြီးမားလှ၏။ ကာမဂုဏ်ကို တပ်မက် ငြိတွယ်မိခဲ့သော် ဖြတ်တောက် ဖယ်ရှားပစ်ရသည်။ မီးကျီးတွင်းထဲသို့ ကျရောက်ရမည်ကို ထိတ်လန့်သော အားနည်းသူကဲ့သို့ ကာမဂုဏ်၌ ထိတ်လန့်ရှုံရှာမှုဖြင့် ဆောက်တည် ကျင့်သုံး ရမည်သာတည်း။

## အိပ်မက်ကာမဂုဏ်

ယောကျ်ားတစ်ယောက်သည် အိပ်မက်ထဲ၌ လွန်စွာပျော်ရွှင်မြူးတူးလျက် ရှိနေ၏။

သူသည် ကြည်နူးနှစ်သက်ဖွယ်ကောင်းသော ဥယျာဉ်ကြီးထဲ၌ ရောက်ရှိနေ၏။ စားသောက်ရန် သစ်သီးမျိုးစုံတို့သည် လည်းကောင်း၊ လှပမွှေးကြိုင်သော ပန်းမျိုးစုံတို့သည် လည်းကောင်း ဥယျာဉ်ကြီးထဲ၌ သုံးစွဲမကုန်၊ ဆွတ်ယူမကုန်နိုင်လောက်အောင် သီးပွင့်လျက် ရှိလေ၏။ ကြည်လင်သန့်ရှင်းသော ရေကန်သည်လည်း ဥယျာဉ်ကြီးထဲ၌ပင် တည်ရှိနေပေ၏။ ချောမောလှပသော မိန်းမပျိုတို့သည် ထိုသူ၏ အနီးတွင် ရှိနေကြ၏။ အချို့က နံ့သာယပ်တောင်ဖြင့် အသာအယာ ခပ်ပေးကြ၏။ အချို့က ခြေဆုပ်လက်နယ် ပြုစုပေးနေကြ၏။ သစ်သီး ပန်းပွင့်များကို ပေးဆက်သူများလည်းရှိ၏။ သီချင်းကျူးရင့်သူ၊ ကပြသူများလည်း ရှိလေ၏။ လွန်စွာကျေနပ် နှစ်သက်ခြင်းဖြင့် ပျော်မွေ့နေသော ထိုသူသည် ရုတ်တရက်လန့်နိုးလေရာ သူ၏ စည်းစိမ်သည် ကုန်ဆုံးလေ၏။ ဖမ်းယူ၍လည်းမရပေ။ တကြော်ကြော်ခေါ်ပါသော်လည်း မရပေ။ အချည်းနှီးသာတည်း။

ကာမဂုဏ်ဟူသည်မှာ အိပ်မက်ပမာတည်း။ မြင်ကာမျှ၊ ကြားကာမျှ တွေ့ထိကာမျှသော ကာမဂုဏ်ကို စွဲသမ်း တပ်မက် ခြင်းသည် အချည်းနှီးနှင့် တူလေ၏။

## ကာမဂုဏ် အငှားပစ္စည်း

ပွဲလမ်းသဘင်သို့ တက်ရောက်ကြည့်ရှုသူ မိန်းမတစ်ယောက်သည် အဝတ်အစားသစ်များ ဝတ်ဆင်လာ၏။ နားကပ်၊ လက်ကောက်၊ ဆွဲကြိုးစသည်ကို ဝတ်ဆင်ကာ ပြင်ဆင် မွမ်းမံ ထားသဖြင့် တင့်တယ်လှပလျက် ရှိ၏။ ထိုမိန်းမအား အခြား သူများက "တင့်တယ်ပါပေ၏၊ အဝတ်တန်ဆာ ရတနာများ ပြည့်စုံပါပေ၏" စသည်ဖြင့် ချီးမွမ်းကြ၏။ ထိုမိန်းမသည်လည်း သာယာနှစ်သက်လျက် ရှိနေလေ၏။

စင်စစ်အားဖြင့် ထိုမိန်းမသည် အဝတ်တန်ဆာ ရတနာများကို ငှားရမ်းဝတ်ဆင်ခြင်း ဖြစ်ရာ မကြာမီပင် ပိုင်ရှင်ထံသို့ ပြန်လည် အပ်နှံ လိုက်ရလေသည်။

ကြွင်ဆင် မွမ်းမံမှုဖြင့် သာယာ နှစ်သက်ခြင်းသည် လည်းကောင်း၊ အခြားသူများ၏ ချီးမွမ်းခြင်းသည် လည်းကောင်း ပစ္စည်းများကို ပိုင်ရှင်ထံသို့ အပ်နှံလိုက်ရသည့်နှင့်အတူ ကုန်ဆုံးသွားကြလေ၏။ ဝင့်ကြွားလုပ်ခြင်းနှင့် သာယာ နှစ်သက်ခြင်းတို့ကို ထိမ်းမ ဖမ်းကိုင်၍မရ။ သိမ်းဆည်း၍မရ။ လိုချင်တောင့်တသော်လည်း ပြန်သည် မရောက်လာနိုင်။

ကာမဂုဏ်ဟူသည်မှာ အငှားပစ္စည်းနှင့်တူ၏။ တစ်ခဏမျှဖြင့် ပျောက်ကွယ်သည်သာတည်း။ ထို့ကြောင့် ကာမဂုဏ်ကို လိုချင်တောင့်တမှုသည် သူတစ်ပါး၏ ပစ္စည်းကို ခေတ္တ ငှားရမ်းရလေ သကဲ့သို့ အောက်တန်းကျ၍ ဆင်းရဲပင်ပန်းလှပေသည်။

## သရက်ပင် ကာမဂုဏ်

ယောကျ်ားတစ်ယောက်သည် သရက်သီးကို လိုချင်သဖြင့် အပင်ပေါ်တက်၍ ဆွတ်ခူးလေ၏။ သရက်သီးများကို အိတ်ထဲထည့်လေ၏။ ထိုသူသည် သစ်ပင်ပေါ်မှာပင် ချိုမြိန် မွှေးကြိုင်သော သရက်သီးများကို စားလျက်ရှိ၏။

အခြား ယောကျ်ားတစ်ယောက်သည်လည်း သရက်သီးလိုချင်သဖြင့် ထိုသရက်ပင်သို့ပင် ရောက်လာပြန်လေ၏။ သူသည် သစ်ပင်မတက်တတ်ပေ။ သရက်ပင်ပေါ် ရောက်အောင် မစွမ်းဆောင်နိုင်ပေ။ သရက်သီးကိုလည်း လိုချင်နေ၏။ ထို့ကြောင့် သူသည် ပါလာသည့်ဓားမဖြင့် သရက်ပင်ကို ခုတ်လှဲလေသည်။ သရက်ပင် လဲကျလျှင် သရက်သီးများကို ခူးဆွတ်နိုင်ပေမည် ဟူသော စိတ်ကူးအရ ပြုလုပ်ခြင်း ဖြစ်၏။

ထိုသို့ ရှိစဉ် သရက်ပင်ပေါ်၌ သရက်သီးစား၍နေသော ယောကျ်ားသည် အလျှင်အမြန် ဆင်းသက်ရမည်သာဖြစ်၏။ သို့မဟုတ်က သရက်ပင် လဲကျသောအခါ ခြေလက်ကျိုးခြင်း၊ ဦးခေါင်းကွဲခြင်းစသော ဘေးဒုက္ခများနှင့် ကြုံရမည်မှာ မလွဲတည်း။

သရက်ပင်ပေါ်၌ သရက်သီး စားနေသူသည် သရက်ပင်ကို စွန့်လွှတ်၍ အလျှင်အမြန် ဆင်းသက်ရမည်သာ ဖြစ်သကဲ့သို့ ကာမဂုဏ်တို့ကို စွန့်လွှတ်ဖြတ်တောက်ရပေမည်။ ဘေးဒုက္ခနှင့် မုချ တွေ့ကြုံရမည် ဖြစ်သောကြောင့်တည်း။

[မဇ္ဈိမပဏ္ဏာသပါဠိတော်၊ ဂဟပတိဝဂ်၊ ပေါတလိယသုတ်]

# လူသားနှင့် ကာမဂုဏ်

အဆင်း၊ အနံ့၊ အသံ၊ အရသာ၊ အတွေ့ အထိတို့ကို ကာမဂုဏ် ဟူ၍ ဆိုရလေသည်။ လူသားတို့သည် ဤကာမဂုဏ် ငါးမျိုးကို လိုချင်မက်မောကြမြဲ ဖြစ်၏။ သာမန်မျှ လိုချင် မက်မောခြင်း၊ များစွာ လိုချင်မက်မောခြင်း၊ အလွန်အကျူး လိုချင်မက်မော ခြင်း၊ ဟူ၍ ခြားနားချက်ကား ရှိလေသည်။

ကာမဂုဏ်ကို လိုချင်မက်မောမှု အတိုင်းအတာနှင့်အမျှ လူသားတို့ ဆင်းရဲ ပင်ပန်းကြရသည်ဟု ဗုဒ္ဓက ညွှန်ပြလေသည်။

ကာမဂုဏ်ကို လိုချင်မက်မောမှု အတိုင်းအတာနှင့်အမျှ လောဘ၊ ဒေါသ၊ မာန်မာန၊ ဣဿာ-မစ္ဆရိယ စသော ကိလေသာစိတ် ပွားများ ကြရသည်။ ကိလေသာစိတ် ပွားများသည်နှင့်အမျှ ဆင်းရဲ ပင်ပန်းကြ ရသည်။ ပူပန် ကြောင့်ကြရကုန်သည်။ ထိတ်လန့်ကြရကုန်သည်ဟု ဗုဒ္ဓ ညွှန်ပြတော်မူလေသည်။

လူသားတို့သည် ကာမဂုဏ်ကို မက်မော စွဲလမ်းခြင်းကြောင့် ကိလေ သာစိတ် ဖြစ်ပွားကြကာ အသိအမြင်၌ မှားကြ၊ လွဲကြလျက် ပြုလုပ် ဆောင်ရွက်ခြင်းများမှာလည်း မမှန်မကန် ဖြစ်ကြရသည်။ ထို့ကြောင့် မိမိအတွက်လည်းကောင်း၊ မိမိ၏ ပတ်ဝန်းကျင်အတွက် လည်းကောင်း တိုးတက် ကြီးပွားရေးနှင့် သာယာချမ်းမြေ့ရေးများ ဆုတ်ယုတ် ပျက် ပြားကြရသည်ဟု ဗုဒ္ဓက ညွှန်ပြတော်မူလေသည်။

ကာမဂုဏ်ကို စွဲလမ်းတပ်မက်ခြင်း မရှိသင့်။ ကာမဂုဏ်၌ ရှောင့်ရဲရ မည်။ ကာမဂုဏ်သည် စက်ဆုပ်ဖွယ်ဖြစ်၏။ ကာမဂုဏ် ဟူသည်မှာ စင်စစ် အားဖြင့် ရေရာတိကျသော အရာမဟုတ်။ အနှစ်သာရလည်းမရှိ။ ဘေး များသည်။ ရန်များသည်။ အန္တရာယ်များလှသည် ဟူ၍ ဗုဒ္ဓသည် ကာမ ဂုဏ်၏ သဘောသဘာဝကို လူသားတို့ ထင်မြင်သိရှိရန် ဥပမာအဖုံဖုံဖြင့် ညွှန်ပြတော်မူလေသည်။

ယင်းသည့်ကာမဂုဏ် ဥပမာများကို အဖန်ဖန်သုံးသပ်၍ လေးလေး နက်နက် ဆင်ခြင်မိပါက လူ့ဘဝ၏ အမှန်လမ်းနှင့် လူသားတို့၏ တကယ့်

ရုပ်တည်နေပုံကို ထင်မြင်လျက် လက်တွေ့အားဖြင့် အကျိုးခံစားရမည်မှာ မလွဲပေ။

ကာမဂုဏ် အမဲရိုး၊ သားတစ် ကာမဂုဏ်။ မီးတောက် ကာမဂုဏ်၊ ကာမဂုဏ် မီးကျီးတွင်း၊ အိပ်မက် ကာမဂုဏ်၊ ကာမဂုဏ် အငှားပစ္စည်း၊ သစ်ပင် ကာမဂုဏ်။

## မြေ ရေ လေ မီး

မြေကြီးအထုသည် မိမိအပေါ်သို့ ကျရောက်လာသော အရာဝတ္ထုတိုင်းကို ကွဲပြားခြားနားခြင်းမရှိဘဲ ခံယူ၏။ ကျင်ကြီးကျင်ငယ်၊ ချွဲ၊ သလိပ်စသော ရွံရှာစက်ဆုပ်ဖွယ် အရာဝတ္ထုများ ကျရောက်လျှင်လည်း မတုန်မလှုပ် ခံယူ၏။ ရွှေ၊ ငွေ၊ စိန်၊ ကျောက်၊ ပန်းနံ့သာ စသော နှစ်လိုဖွယ်ရာ အရာဝတ္ထုများ ကျရောက်လာလျှင်လည်း မတုန်မလှုပ် ထူးခြားခြင်း မရှိဘဲ ခံယူ၏။

*　　　*　　　*

ရေတို့မည်သည် မည်သို့သော အရာဝတ္ထုမျိုးကိုပင် ဖြစ်စေ ဆေးကြောသည်သာ ဖြစ်၏။ ကျင်ကြီး၊ ကျင်ငယ်၊ သလိပ်၊ တံတွေး စသည့် အညစ်အကြေး လိမ်းကျံသော အရာဝတ္ထုမျိုးကိုလည်း ဆေးကြော၏။ ယင်း အညစ်အကြေးများ ကင်းရှင်းသည့် စင်ကြယ်သော အရာဝတ္ထုမျိုးကိုလည်း ဆေးကြောပေ၏။ အမွှေးနံ့သာ လိမ်းကျံထားသည့် အရာဝတ္ထုများကိုလည်း ဆေးကြော၏။ မည်သည့် အရာဝတ္ထုမျိုးကိုပင် ဖြစ်စေ ရေသည် ကွဲပြားခြားနားခြင်းမရှိဘဲ ဆေးကြောသုတ်သင်သည်သာ ဖြစ်၏။

*　　　*　　　*

လေဟူသည်မှာ တိုက်ခတ်ခြင်းသဘော ရှိလေ၏။ မည်သည့် အရာဝတ္ထုမျိုးကိုပင်ဖြစ်စေ လေသည် တိုက်ခတ် သယ်ဆောင်တတ်၏။ သန့်ရှင်း စင်ကြယ်သော အရာဝတ္ထုကိုပင်ဖြစ်စေ၊ မသန့်ရှင်းသော အညစ်အကြေးကိုပင် ဖြစ်စေ တိုက်ခတ် သယ်ဆောင်၏။ မွှေးကြိုင်သော ရနံ့ကိုပင်

ဖြစ်စေ၊ ပုပ်ညှိသော ရနံ့တိုပင် ဖြစ်စေ ကွဲပြားခြားနားခြင်း မရှိဘဲ တိုက်ခတ် သယ်ဆောင်၏။

မီး၏ သဘာဝသတ္တိကား လောင်ကျွမ်းခြင်းတည်း။ နှစ်သက်ဖွယ်ရာသော အရာဝတ္ထု၊ မနှစ်သက်ဖွယ်ရာသော အရာဝတ္ထု၊ သန့်ရှင်းစင်ကြယ်သော အရာဝတ္ထု၊ မသန့်ရှင်း မစင်ကြယ်သော အရာဝတ္ထု စသည်ဖြင့် ကွဲပြားခြားနားခြင်းမရှိ၊ မီးသည် အလုံးစုံသော အရာဝတ္ထုကို လောင်ကျွမ်းသည်သာ ဖြစ်၏။

## လူချွန် လူမွန်ဟူသည်မှာ

ဤလောက လူ့ဘောင်၌ လူသားတို့သည် အဆင်း၊ အသံ၊ အနံ့၊ အရသာ၊ အတွေ့အထိဟူသော ညို့ခတ် ဆွဲငင်ခတ်ကို ကျော်လွှန် လွှမ်းမိုးနိုင်ခဲလှ၏။ လွှမ်းမိုး ကျော်လွှန်နိုင်သူသည်လည်း အများတကာနှင့်မတူ၊ ထူးချွန်သူသာလျှင် ဖြစ်ပေ၏။ အရာရာ၌ အောင်မြင် ကြီးပွား၍ ချမ်းသာခြင်းအစစ်ကို ရယူနိုင်သောသူ၊ အကျင့်သီလစင်ကြယ် မြင့်မြတ်သူသာလျှင် ဖြစ်ပေ၏။

ညို့ခတ်၊ ဆွဲငင်ခတ် တည်းဟူသော ပိုက်ကွန် ကျော့ကွင်းကို ကျော်လွှား လွှန်မြောက်နိုင်ရေး လမ်းစဉ်ကား မြေ၊ ရေ၊ လေ၊ မီး ကဲ့သို့ ကျင့်သုံးရေးပေတည်း။

မြေ ရေ လေ မီး တို့သည် မိမိတို့ထံ ကျရောက် ထိတွေ့လာသော အရာဝတ္ထုဟူသမျှကို ကွဲပြားခြားနားခြင်းမရှိ ခံယူဆောင်ရွက်ကြကုန်၏။ နှစ်သက်ဖွယ် မနှစ်သက်ဖွယ် ဟူ၍လည်းကောင်း၊ စင်ကြယ်၏ ညစ်ညမ်း၏ ဟူ၍လည်းကောင်း၊ အဖိုးတန်သည် မတန်သည် ဟူ၍လည်းကောင်း အမျိုးအစား ခြားနားခြင်းမရှိဘဲ မိမိတို့၏သဘောသတ္တိ အတိုင်းသာလျှင် ခံယူ ဆောင်ရွက်ကြကုန်၏။

ထိုနည်းတူစွာပင် လူသားတို့သည် ကြုံရဆုံရ လေသမျှသော အရာဝတ္ထုတိုင်း၊ အခါရှိတိုင်းကို မတုန်လှုပ် မပြောင်းလဲဘဲ ခံယူ ကျင့်သုံးသင့်ပေ၏။ နှစ်သက်ဖွယ်၊ မနှစ်သက်ဖွယ်၊ စင်ကြယ်ခြင်း၊ ညစ်ညမ်းခြင်း၊ နူးညံ့ခြင်း၊ ကြမ်းတမ်းခြင်း၊ လှပခြင်း၊ အရုပ်ဆိုးခြင်း စသည်ဖြင့် အမျိုးအစား ခွဲခြား၍ ခံယူကျင့်သုံးခြင်း မပြုသင့်ပေ။

သက်ရှိ သက်မဲ့ ပုဂ္ဂိုလ်တိုင်း၊ အရာဝတ္ထုတိုင်းသည် လည်းကောင်း၊ ဖြစ်ပျက် ပြုပြင် ဖန်တီးလျက်ရှိသော သဘောတရားတိုင်းသည် လည်း

ကောင်း၊ မူလ သဘာဝအတိုင်းသာလျှင် ဖြစ်ပေါ် တည်ရှိနေကြသည်။ ပြောင်းလဲ ရွေ့လျားနေကြသည်။ စဉ်စစ်အားဖြင့် အမြဲအစဉ် တည်တံ့နေကြသည်မဟုတ်။ စိုးပိုင် ချုပ်ကိုင်၍ ရသည်မဟုတ်။ နှစ်သက်ဖွယ်၊ လှပတင့်တယ်သည်၊ စင်ကြယ်သည်ဟု မှတ်ထင်ရသော အရာဝတ္ထု အဆင်းအသံ စသည်တို့ကို စိစစ်ကြည့်ပါလေ။ မာခြင်း၊ ပျော့ခြင်း၊ ပူခြင်း၊ အေးခြင်း၊ ဖွဲ့စည်းခြင်း၊ လှုပ်ရှားခြင်း ဟူသော ပကတိ သဘော သတ္တိတို့သာလျှင် ဖြစ်၏။

လှပ တင့်တယ် ရှုချင့်စဖွယ် ကောင်းသည်ဟု ထင်ရသော မိန်းမပျိုကို စိစစ်ကြည့်ပါလေ။ ရေ၊ မြေ၊ လေ၊ မီးတို့၏ ခံယူကျင့်သုံးပုံ လမ်းစဉ်ဖြင့် စိစစ်ကြည့်ပါလေ။ မိန်းမပျိုကလေး၏ ခန္ဓာကိုယ်သည် အသား၊ အရေ၊ အကြော၊ အဆီ၊ အသွေး၊ ဆံပင်၊ မွေး၊ ညှင်း စသည်တို့ ဖွဲ့စည်းထားသော ဓာတ်ပေါင်းစုတစ်ခုဖြစ်၏။ အကောင်အထည်တစ်ခုဖြစ်၏။ ထိုအကောင်အထည်ကြီးသည် လည်းကောင်း၊ အကောင်အထည်၏ အင်္ဂါအစိတ်အပိုင်းတို့သည် လည်းကောင်း မာခြင်း၊ ပျော့ခြင်း၊ ယိုစီးခြင်း၊ ဖွဲ့စည်းခြင်း၊ ပူနွေးခြင်း၊ အေးစက်ခြင်း၊ လှုပ်ရှားခြင်းတို့ သာလျှင် အရင်းမူလ ရှိသည်တည်း။

ယင်းသို့လျှင် မြင်ရ၊ ကြားရ၊ တွေ့ထိကြုံဆုံရတိုင်းသော အာရုံဟူသမျှ၌ အရှိအတိုင်း မူလ သဘောသတ္တိကို ရှုမြင်သုံးသပ်နိုင်သောသူသည် လိုချင်တပ်မက်မောခြင်း၊ မနာလိုဝန်တိုခြင်း၊ နှိပ်စက်ဖျက်ဆီးလိုခြင်း၊ တွေဝေခြင်းစသော တစ်ဖက်စွန်းရောက် အလိုဆိုးများမှ ကင်းရှင်း၏။ ယင်းသို့ ကင်းရှင်းသောကြောင့်ပင် ညှိ့ဓာတ် ဆွဲငင်ဓာတ်တည်းဟူသော ပိုက်ကွန်ကျော့ကွင်း၏ ချည်နှောင်ဖမ်းဆီးခြင်းမှ လွတ်မြောက်သည် မည်၏။

အာကာသ ကောင်းကင်ဟူသည်မှာ မည်သည့်ဒေသ၌ တည်ရှိသည်ဟူ၍ ဆုပ်ကိုင်ရည်ညွှန်း၍ မပြနိုင်သကဲ့သို့ မြင်၊ ကြား၊ ထိတွေ့၊ ကြုံဆုံလာလေသမျှသော အရာဝတ္ထု၊ အခြင်းအရာ၊ အဖြစ်အပျက်တိုင်းကို အစွဲအလမ်းမထားမူဘဲ ခံယူကျင့်သုံးရာ၏။ မတုန်မလှုပ်ဘဲ ခံယူကျင့်သုံးရာ၏။ ပကတိ ရှိရင်းစွဲ သဘာဝသတ္တိကို အရှိအတိုင်းမြင်အောင် ကြည့်ရှုဆင်ခြင်ရာ၏။

ယင်းသို့ ဆင်ခြင်နိုင်စွမ်း သူသည် ယထာဘူတ ဉာဏ်အမြင်ကို ရသူမည်၏။ ထူးမြတ်သော လူချွန်လူမွန် ဖြစ်၏။ လောက၌ အရာရာတိုင်းကို အောင်မြင်၍အထက်တန်းရောက်နိုင်သူဖြစ်၏။ [– မဟာရာဟုလောဝါဒသုတ်]

## တရား၌ လူတန်းစားမရှိ

ဤလောက၌ လူတန်းစားသည် အမျိုးမျိုးရှိနေ၏။ မင်းမျိုး၊ သေဌေးမျိုး၊ ဆင်းရဲသားမျိုး၊ အာဏာရှိသူ-မရှိသူ၊ ပတ်ဝန်းကျင် အသိုက်အဝန်းရှိသူ-မရှိသူ စသည်ဖြင့် လူတန်းစား အမျိုးမျိုး ရှိနေ၏။

ထို လူတန်းစား အမျိုးမျိုးသည် တရားသဘောအရာ၌ ကွဲပြားခြားနားခြင်း မရှိပေ။

လမ်းစဉ်မှန်ကို တရားမှန်ကို ရှုမြင်သုံးသပ်၍ ကျင့်သုံး ဆောက်တည်ပြီးသော သူသည် မည်သည့်လူတန်းစားပင်ဖြစ်စေ ယဉ်ကျေးသိမ်မွေ့သူဖြစ်၏။ မြင့်မြတ် စင်ကြယ်သူလည်း ဖြစ်၏။

လမ်းစဉ်မှန် တရားမှန်ကို ရှုမြင်သုံးသပ်ခြင်းမရှိ၊ ကျင့်သုံးဆောက်တည်ခြင်း မရှိသေးသူသည် မည်သည့် လူတန်းစားပင်ဖြစ်စေ ယဉ်ကျေးမသိမ်မွေ့သောသူဖြစ်၏။ မမြင့်မြတ် မစင်ကြယ်သေးသူလည်း ဖြစ်၏။

## အယဉ် အရိုင်း

လေ့ကျင့် သင်ကြားထားသော ဆင် မြင်း ကျွဲ နွား တို့ကို ကြည့်ပါလေ။

မလေ့ကျင့် မသင်ကြားရသေးသော ဆင် မြင်း ကျွဲနွား တို့ကိုလည်း ကြည့်ပါလေ။

မည်သို့ ခြားနားလေသနည်း။

ဆင် မြင်း ကျွဲ နွား ဟူသော သဘောသည် တူညီသည်သာ ဖြစ်၏။ လေ့ကျင့်သင်ကြားမှု ပြီးခြင်း မပြီးခြင်းဟူသော အကြောင်းဖြင့် လိမ္မာယဉ်ကျေးခြင်းရှိသည် မရှိသည်ဟူသော သဘောသည်သာ ခြားနားလျက် ရှိပေ၏။

## မိခိုး မီးတောက်

တရားသဘော အရာ၌ အမှန်လမ်း အမှန်တရားကို ရှုမြင်၍ ဆောက်တည် ကျင့်သုံးရာ၌ အကျိုးဖြစ်ပေါ်မှုသည် မခြားနားပေ။

ဆောက်တည် ကျင့်သုံးသူ၏ အခြင်းအရာ သဘော အားလျော်စွာ အကျိုးတရားသည် ဖြစ်ပေါ်လာသည်သာ ဖြစ်၏။

ဈာန်တရား၊ မဂ်တရား ရရှိကြောင်းသည် လူတန်းစား မရွေးပေ။ ကျင့်သုံး ဆောက်တည်သည် အားလျော်စွာ မည်သူမဆို ဈာန်တရား၊ မဂ်တရားကို ရနိုင်ခြင်းသဘော ရှိပေ၏။

ဥပမာအားဖြင့် လူတစ်ယောက်သည် ကျွန်းသားထင်းကို ယူလာ၏။ အခြား လူတစ်ယောက်သည် အင်ကြင်းသားထင်းကို ယူလာ၏။ အခြား လူတစ်ယောက်သည် သရက်သားထင်းကို ယူလာ၏။

ထိုသူတို့သည် မိမိတို့၏ ထင်းစ အသီးသီးကို မီးရှို့ကြကုန်၏။

မီးစအားလုံးသည် မီးတောက်သည်ပင် မဟုတ်လား။ မီးခိုးထွက်သည်ပင် မဟုတ်လား။

တစ်စုံတစ်ယောက်သော သူ၏ မီးစသည် မီးမတောက်၊ မီးခိုးမထွက် ဟူ၍ မဆိုနိုင်သည်ပင် မဟုတ်လား။

[- ကဏ္ဍ ကဏ္ဍလသုတ်]

## မမေ့တဲ့နိုင်

လူတစ်ယောက်သည် မိမိ မွေးရပ်ဌာနေမှ အခြားသော ရပ်ရွာတစ်ခုသို့ ပြောင်းရွှေ့လာခဲ့ပေ၏။

တစ်နေ့သ၌ ထိုသူ့ထံသို့ ဧည့်သည်တစ်ဦး ရောက်ရှိလာလေသည်။ ထိုဧည့်သည်မှာ မိမိ မွေးရပ်ဌာနေ ဇာတိမြေမှ မိတ်ဆွေတစ်ဦး ဖြစ်လေသည်။

အိမ်ရှင်ယောကျ်ားသည် ဧည့်သည်အား သတင်းစကားကို မေးမြန်းစုံစမ်း၏။ 'မွေးရပ်မြေ၌ မည်သို့ ပြောင်းလဲသနည်း'ဟူသည်ဖြင့် မေးမြန်းစုံစမ်း၏။

ထိုအခါ ဧည့်သည် ယောကျ်ားကလည်း သတင်းစကားကို ပြန်လည် ပြောကြားလေသည်။

ထိုအရာကို မည်သို့ ထင်မှတ်ကြလေသနည်း။

အိမ်ရှင်ယောကျ်ားသည် ညွှန်သည်ယောကျ်ား ပြောကြားသည်တို့ကို ကြားလိုလှသည်ပင် မဟုတ်လား။ စိတ်ဝင်စားစွာ နားထောင်မည်သာပင် မဟုတ်လား။ သူ၏ဇာတိဌာနေမှ အကြောင်းစုံကို အောက်မေ့တသလျက်သာပင် ရှိနေမည်မဟုတ်လား။

ကိလေသာအာရုံ ကာမဂုဏ်၌ မွေ့လျော် ကျက်စားသော ပုထုဇဉ်သည် ထို ကိလေသာအာရုံ ကာမဂုဏ်တို့၏ သာယာ နှစ်သက်ဖွယ်ကိုသာလျှင် ဆင်ခြင် တွေးတောဆလေ့ ရှိပေ၏။ မပြတ်ကာ အလျှဖြင့် အောက်မေ့ တသတတ်ပေ၏။

## ဖက်ရွက်ကြွေ

အချို့သော ပုဂ္ဂိုလ်များသည် ကိလေသာအာရုံ ကာမဂုဏ်တို့၌ငြီးငွေ့၏။ ကာမဂုဏ်၏ အပြစ်ကို ဆင်ခြင် သုံးသပ်၍ လွတ်မြောက်မှုကို ရှာအောင် ယူ၏။

ထိုပုဂ္ဂိုလ်သည်ကား ကိလေသာအာရုံ ကာမဂုဏ်တို့ကို သာယာ နှစ်သက်ဖွယ်ဟူ၍ မတွေးတောပေ။ အောက်မေ့တသခြင်းလည်း မပြုပေ။ စွဲလမ်းတပ်မက်မှုကို ချုပ်ငြိမ်းစေပြီး ဖြစ်သောကြောင့် တစ်ဖန် ပြန်လည်၍ ကာမဂုဏ်၌ ဇာပ်ငြိခြင်း မရှိပေ။

အညာမှ ကြွေကျလာသော ဖက်ရွက်ကို ကြည့်ရှုပါလေ။ ထိုဖက်ရွက်သည် တစ်ဖန် ပြန်လည်၍ စိမ်းလန်းခြင်း မရှိသည်သာတည်း။

## မြွေနှင့်အတူ

အကြင် ပုဂ္ဂိုလ်သည် ဆင်းရဲ ပင်ပန်းကြောင်း ဖြစ်ကုန်သော ကာမဂုဏ်တို့၏ အပြစ်ကို ရှုမြင်လျက် စွန့်လွှတ်ပြီးဖြစ်၏။ အနှောင်အဖွဲ့မှ လွတ်မြောက်လျက် ငြိမ်းချမ်းစွာ တရားကို ဆောက်တည်ပြီးလည်း ဖြစ်၏။ ထိုပုဂ္ဂိုလ်သည် ကာမဂုဏ်၌ ထိတွေ့ ကျက်စားရမည်ကို လွန်စွာ ကြောက်လန့်ပေ၏။

အသက်မခံသော ချမ်းသာစွာ နေလိုသော ယောကျ်ားသည် အဆိပ်ပြင်းလှသော မြွေကို မြင်သော် ခြေဖြင့် ထိ တို့ရန်ပင်လျှင် ကြောက်ရွံ့ထက်ဝဲသို့ တည်း။

[ဥပရိပဏ္ဏာသပါဠိတော်၊ ဒေဝဒဟဝဂ်၊ သုနက္ခတ္တသုတ်]

## မင်းသားငယ်နှင့် သာမဏေငယ်

ရာဇဂြိုဟ်ပြည်၊ ဝေဠုဝန် ကျောင်းတော်၌ ဗုဒ္ဓမြတ်စွာ သီတင်းသုံး နေတော်မူစဉ်အခါ ဖြစ်၏။

ထိုစဉ်အခါဝယ် အဂ္ဂိဝေဿနအမည်ရှိသော သာမဏေသည် တမ္မဋ္ဌာန်း ကျောင်းတစ်ခု၌ နေထိုင်လေသည်။

ဗိမ္ဗိသာရ မင်းကြီး၏သား ဇယသေနမင်းသားသည် လမ်းလျှောက် ထွက်လာရင်း အဂ္ဂိဝေဿန နေထိုင်ရာကျောင်းသို့ ဝင်ရောက်လေသည်။

ထို့နောက် ဇယသေနသည် အဂ္ဂိဝေဿန သာမဏေအား လျှောက် ကြားလေ၏။

"အချင်း အဂ္ဂိဝေဿန၊ ရဟန်း ရဟန်းသည် မဂ် ဖိုလ် နိဗ္ဗာန် ရကြောင်း၊ ဟူသော အကျင့်လမ်းစဉ်သည် ရှိ၏ဟူ၍ ကျွန်ုပ် ကြားဖူး သည်၊ ထိုတရားကို ကျွန်ုပ်အား ဟောကြားပါလော့"

"အချင်း ဇယသေန၊ ငါသည် သင် နားလည်မအောင် တရားဟော နိုင်မည် မဟုတ်ပါ"

"ကိစ္စမရှိပါဘူး သာမဏေ၊ ကြားနာဖူးသလောက်၊ မှတ်သား မိသလောက်ကိုပဲ ဟောကြားပါလော့"

"ဇယသေန၊ ငါ ကြားဖူး သိဖူးသည်ကို ဟောရန် တာဝန်မကြီးပါ၊ သို့သော်လည်း ငါ ဟောသည်ကို သင် နားမလည်နိုင်ခြင်းအားဖြင့်၊ ငါ့မှာ ပင်ပန်းခြင်းသာ ဖြစ်တော့မည်၊ စိတ် ဆင်းရဲခြင်းသာ ဖြစ်တော့မည်၊ တရားမဟောပါရစေနှင့် ဇယသေန"

"ဟောသာ ဟောပါ အဂ္ဂိဝေဿန၊ ကိစ္စမရှိပါ"

"ကောင်းပြီ ဇယသေန၊ ဤသို့ဖြင့် ငါ တရားဟောအံ့၊ တစ်ခုတော့ ရှိသည် ဇယသေန၊ ငါဟောသော တရား၏ အနက်အဓိပ္ပာယ်ကို သင် နားလည်လျှင် နားလည်သည့် အလျောက် ကောင်းပါ၏၊ အကယ်၍ နားမလည်လျှင်လည်း နားမလည်သလို ထားပါလေ၊ ငါ့အား တစ်စုံတစ်ရာ ထပ်မံ၍ မေးမြန်းခြင်း မပြုပါနှင့်"

"ကောင်းပါပြီ အဂ္ဂိဝေဿန၊ အကျွန်ုပ် မမေးမြန်းပါ၊ တရားကိုသာ ဟောပါလေတော့"

ထိုအခါ အဂ္ဂိဝေဿန သာမဏေသည် ဈာန်ရကြောင်း၊ မဂ်ဖိုလ် နိဗ္ဗာန်ရကြောင်း တရားစုကို သူ သင်ကြားဖူးခဲ့သည့်အတိုင်း ဟောကြားလေ၏။

ဇယသေန မင်းသားသည် သာမဏေ ဟောကြားသည်တို့ကို အဓိပ္ပာယ် မရှင်းလင်းပေ။ သဘောလည်း မပေါက်ပေ။

ထို့ကြောင့် ဇယသေနသည် သာမဏေအား 'ယုတ္တိမတန် သဘာဝ မကျသည်တို့ကို ဟောသည်၊ မဖြစ်နိုင်သည်သာတည်း'ဟု ပြောဆိုကာ ထသွားလေ၏။

## ဆင်ယဉ်နှင့် ဆင်ရိုင်း

ထိုအခါ အဂ္ဂိဝေဿန သာမဏေသည် ဇယသေန ထသွား၍ မကြာမြင့်မီပင် ဗုဒ္ဓမြတ်စွာ ထံတော်သို့ သွားရောက်လေသည်။ ဇယသေနနှင့် တွေ့ဆုံ ပြောဆိုခဲ့သမျှ အလုံးစုံကို လျှောက်ထားလေသည်။

ဤတွင် ဗုဒ္ဓသည် သာမဏေငယ်အား ထိုအကြောင်းနှင့် လျော်သော တရားစကားကို ဟောကြားတော်မူ၏။

"အဂ္ဂိဝေဿန၊ ထိုအကြောင်းသည် ဖြစ်နိုင်သည်သာတည်း၊ ဇယသေန သည် သင်ဟောသော တရားလမ်းစဉ်ကို သဘောမပေါက်နိုင်သည်သာ တည်း၊ နားယူမှတ်သားခြင်း၊ သိမြင်ခြင်း၊ ကျင့်သုံး ဆောက်တည်ခြင်း မပြုနိုင်သေးသည်သာတည်း။

"အဂ္ဂိဝေဿန၊ ထိုဇယသေနသည် ကာမဂုဏ်အလယ်၌ မွေ့လျော် ပျော်ပိုက်လျက် ရှိနေသူ မဟုတ်လော၊ ကာမဝိတက်တို့ ထိုးဆွ ကိုက်ခဲ ခြင်းကြောင့် ပူလောင် နေကျင်လျက်ရှိသူပင် မဟုတ်လော။

"ဥပမာဖြင့် ပြမည် အဂ္ဂိဝေဿန၊ ဆင်နှစ်ကောင်ရှိသည် ဆိုပါတော့။

"ပထမဆင်သည် ဆင်ဆရာ၏ ဆုံးမသွန်သင်မှုကို ရယူပြီး ဖြစ်၏၊ လေ့ကျင့် သင်ကြားပြီးလည်း ဖြစ်၏။

"ထိုဆင်ကို ဆင်လိမ္မာ၊ ဆင်ရတနာ ဟူ၍ ခေါ်ဆို နိုင်သည်သာ မဟုတ်လော၊ ထိုဆင်သည် ယဉ်ကျေး သိမ်မွေ့သော အမှုကိစ္စ တို့ကို ပြုလုပ် ဆောင်ရွက် နိုင်သည်သာ မဟုတ်လော။

"ဒုတိယ ဆင်သည်ကား၊ ဆင်ဆရာ၏ ဆုံးမသွန်သင်မှုကို မရရှိသေးပေ၊ လေ့ကျင့် သင်ကြားမှုလည်း မပြုရသေးပေ။

"ထိုဆင်ကို ဆင်လိမ္မာ၊ ဆင် ရတနာဟူ၍ ခေါ်ဆို နိုင်မည်လား၊ ထိုဆင်သည် ယဉ်ကျေး သိမ်မွေ့သော အမှုကိစ္စတို့ကို ပြုလုပ်ဆောင်ရွက် နိုင်ပါမည်လား။

"အဂ္ဂိဝေဿန၊ ဤဥပမာဖြင့် ဇယသေနကို သိလော့၊ မြင်လော့။

## ဆင်ဆရာ၏ စီရင်မှု

"ဥပမာဖြင့် ဆက်၍ ပြဦးမည် အဂ္ဂိဝေဿန၊ ဇယသေန ကဲ့သို့သော သူများကို ဟောပြောရာ၌ အစီအစဉ်သည် ရှိပေ၏၊ အဆင့်ဆင့် ဟောကြားမှုသည် ရှိပေ၏။ ထိုသို့ အစီအစဉ်ဖြင့်သာလျှင် အဆင့်ဆင့် ဟောကြားရာ၏။

"အဂ္ဂိဝေဿန၊ ဆင်ဆရာသည် တော ဆင်ရိုင်းကို မည်သို့ ပြုလုပ်သနည်း၊ ယဉ်ကျေး လိမ္မာပြီးသော ဆင်ဖြင့် ရှေးဦးစွာ သိမ်းသွင်း ဖမ်းယူရာ၏။ ထို့နောက် ထို တောဆင်ရိုင်းကို ဆင်လိမ္မာနှင့်အတူ ပူးတွဲ ချည်နှောင်၍ ဆင်တင်းကုပ်သို့ ခေါ်ဆောင်ရာ၏၊ ထို့နောက် ခိုင်ခံ့သော ဆင်ချည်တိုင်၌ ချည်နှောင်၍ ထားကာ အစာ ရေစာတို့ကို ကောင်းစွာ ကျွေးမွေးရာ၏၊ နေ့စဉ် နေ့စဉ် ကျွေးမွေးရာ၏။

"ထို့နောက် ဆင်ဆရာသည် တောဆင်ရိုင်းအား သာယာနာပျော် ဖွယ်ရာသော စကားတို့ဖြင့် ပြောကြားရာ၏၊ ဆင်တို့ နှစ်သက် ကျေနပ် လေ့ရှိသော စကား အသံဖြင့် ပြောကြားရာ၏။

''ဤသို့ဖြင့် တောဆင်ရိုင်းသည် အသင့်အတင့်မျှ ယဉ်ကျေးခြင်းသို့ ရောက်သည်သာတည်း၊ ထိုအခါ၌ ဆင်ဆရာသည် ဆင်အတတ်ကို သင်ကြားပေးရန် အသင့် ဖြစ်နိုင်ပေ၏။ တော၌ ပြုမူ ကျက်စား လာခဲ့သော ကြမ်းတမ်းရိုင်းပြမှုများကို ထုတ်ပယ် ရှင်းလင်းပစ်ရန် အသင့် ဖြစ်နိုင်ပေ၏။

''ထိုသို့သော အခြေအနေ၌ ဆင်ဆရာသည် ဆင်အတတ်ကို ကောင်းစွာ သင်ကြား ပေးတော့အံ့၊ 'အို–အဆွေ ဆင်မင်း၊ ရှေ့သို့ တိုးပါလော့၊ နောက်သို့ ဆုတ်ပါလော့'ဟူ၍လည်းကောင်း၊ 'နှာမောင်းကို မြှောက်လော့၊ အောက်သို့ ပြန်ချလော့' ဟူ၍ လည်းကောင်း၊ 'အိပ်လော့၊ ပြန်ထလော့' ဟူ၍ လည်းကောင်း၊ 'ဤသစ်တုံးကို နှာမောင်းဖြင့် ယူ၍ မြှောက်လော့၊ ထိုနေရာ၌ ချထားလော့' စသည်ဖြင့် လည်းကောင်း သင်ကြားရာ၏။

'တစ်ဖန် ဆင်ဆရာသည် ထိုဆင်ကြီးအား မတုန်မလှုပ် ကြံ့ကြံ့ ခံနိုင်သော အတတ်ကိုလည်း ဆက်လက် သင်ကြားပေးရာ၏၊ 'နှာမောင်းကို မလှုပ်နှင့်' ဟူ၍ လည်းကောင်း၊ 'နားရွက်၊ ခြေထောက်၊ အမြီး၊ မျက်စိ တို့ကို မလှုပ်နှင့်' ဟူ၍ လည်းကောင်း၊ အလုံးစုံ တစ်ကိုယ်လုံးကို တင်းပြိုင် နက်တည်း မလှုပ်နှင့်' ဟူ၍လည်းကောင်း သင်ကြားရာ၏။

''တစ်ဖန် ဆင်စီး သူရဲများကို ဆင်ထက်၌ ထား၍ လက်နက်မျိုးစုံဖြင့် ရိုက်နှက် ထိုးဆွ၍ မလှုပ်မယှက် ရဲဝံ့စွာ ရပ်တည်နေခိုင်းလေသည်။

''အဂ္ဂိဝေဿန၊ ယင်းကဲ့သို့ ဆင်ဆရာ၏ သင်ကြားပေးမှု အလုံးစုံကို ခံယူပြီးသော ဆင်ကို တောရိုင်းဆင်ဟူ၍ ခေါ်ဆိုနိုင်ပါဦးမည်လော၊ ဆင်လိမ္မာ ဆင်ရတနာ ဟူ၍သာလျှင် ခေါ်ဆိုရမည် မဟုတ်လား။

''တစ်ဖန် ထိုဆင်ကြီးကို ကြည့်ဦးလော့၊ မင်းစီးဆင် အဖြစ်သို့ရောက်၍ မင်း၏ စင်ပွဲ၌ စည်သံ၊ ခရာသံ၊ တံပိုးသံတို့ကိုလည်း မကြောက်ရွံ့ မတုန်လှုပ် နေပြီ မဟုတ်လား၊ ဓား၊ လှံ၊ လေး၊ မြား တို့ကိုလည်း မတုန်လှုပ်တော့ပြီ မဟုတ်လား။

''အဂ္ဂိဝေဿန၊ ကာမဂုဏ် အာရုံ တို့ကို စွန့်ပယ်၍ ချမ်းသာရောက် ကြောင်း၊ မဂ်ဖိုလ်နိဗ္ဗာန်ရောက်ကြောင်း တရားကို ဟောကြားရာ၌ အစီအစဉ်သည် ရှိပေ၏၊ အကြောင်းအားလျော်စွာ အဆင့်ဆင့် ဟောကြား မှုသည် ရှိပေ၏။

## ကြီးငယ် မဟူ

''တစ်ဖန် ဆက်၍ ဟောကြားပေဦးမည်၊ ကောင်းစွာ မှတ်သားလေလော့။

''ဆင်ကြီး၊ ဆင်လတ်၊ ဆင်ငယ် ဟူ၍ ရှိပေ၏၊ ဆင်ဆရာ၏ ဆုံးမသွန်သင်မှုကို မရရှိဘဲ တောဆင်ရိုင်း အဖြစ်နှင့်သာ သေဆုံးသွားရသော အကြောင်း ဆင်ကို ကြည့်လော့။

''ထိုဆင်သည် ဆင်ကြီးဖြစ်စေ၊ ဆင်လတ်ဖြစ်စေ၊ ဆင်ငယ်ဖြစ်စေ၊ ဆင်လိမ္မာ ဆင်ရတနာအဖြစ်ကို ခံယူနိုင်ပါမည်လား၊ ဆင်ရိုင်း အဖြစ်၌သာလျှင် တစ်ဘဝ ဇာတ်သိမ်းသွားရလေသည် မဟုတ်လား။

''အဂ္ဂိဝေဿန၊ ဤဥပမာ အတူ သာလျှင်တည်း၊ အကြင်သူသည် မြတ်စွာဘုရားတို့ ဆုံးမ ညွှန်ပြအပ်သော လမ်းမှန် တရားမှန်ကို ကြားနာသိမှတ်ရခြင်း မရှိဘဲ၊ ကျင့်သုံး ဆောက်တည်ရခြင်း မရှိမူဘဲ သေဆုံးသွားသည် ဖြစ်ငြားအံ့၊ ထိုသူသည် လူကြီးဖြစ်စေ၊ လူလတ်ဖြစ်စေ၊ လူငယ်ဖြစ်စေ တောဆင်ရိုင်းကဲ့သို့သာတည်း၊ ကိလေသာအာရုံကာမဂုဏ် ရှုံ့ဖက်၌ နစ်မွန်းလျက်သာလျှင် တစ်ဘဝ ဇာတ်သိမ်းသွားရသူ မည်လေသတည်း။

''အဂ္ဂိဝေဿန၊ ငါဘုရား၏ အဆုံးအမကို နာယူ၍ ကျင့်သုံး ဆောက်တည်ရအပ်သော သူသည် လူကြီးဖြစ်စေ၊ လူလတ်ဖြစ်စေ၊ လူငယ်ဖြစ်စေ၊ ကိုယ်တိုင် ထူးသော ဉာဏ်အမြင်ဖြင့် အမြိုက်တရားကို ရရှိခံစားရသူပင် ဖြစ်ပေ၏။

[သုညတဝဂ် ဒန္တဘူမိသုတ်]

## အရိပ် ထိုးခြင်း

သူမိုက်တို့၏ အမှတ်အသား၊ လက္ခဏာ သုံးမျိုး ရှိလေသည်။

စိတ်ဖြင့် မကောင်းသော အကြံအစည်များကို ကြံစည် တွေးတောလေ့ရှိခြင်း၊ နှုတ်ဖြင့် မကောင်းသော စကားများကို ပြောဆိုလေ့ရှိခြင်း၊ ကိုယ်ဖြင့် မကောင်းသော အမှုကိစ္စများကို ပြုလုပ်လေ့ရှိခြင်း။

ယင်းသည့် အမှတ်လက္ခဏာရှိသူ လူမိုက်တို့သည် သေခါနီး ကာလ၌ ဆင်းရဲပင်ပန်းကြီးစွာဖြင့် သေဆုံးကြရလေ၏။ ထိုသူ ပြုလုပ်ခဲ့သမျှသော

မကောင်းမှု အခြင်းအရာ အရိပ်နိမိတ်တို့သည် သေခါနီးကာလ ဆင်းရဲဝေဒနာခံစားလျက် ရှိစဉ်၌ ပေါ်ပေါက် ထင်မြင် လာကြကုန်၏။

ယင်းသို့လျှင် မကောင်းမှု ဒုစရိုက်တို့ ပုံကာဝဲကာ နိမိတ်ဆင်လာကြသဖြင့် ထိုလူမိုက်သည် လွန်စွာ ထိတ်လန့် ကြောက်ရွံ့လေ၏။ 'ငါသည် မကောင်းမှု ဒုစရိုက် တို့ကို ပြုမိလေခြင်း၊ ကောင်းမှု သုစရိုက် တို့ကို မပြုလိုက်ရလေခြင်း'ဟု စိုးရိမ်နေခဲ့တာ ဖြစ်လေ၏။

ကြီးမားသော တောင်မြင့် တောင်ထွတ်များသည် နေဝင်ခါနီး အချိန်၌ မြေပြင်သို့ အရိပ်ထိုးလာမြဲတည်း။ အရိပ်သည် ပုံ့နှံ့လွှမ်းအုပ်လာမြဲတည်း။

[ဗာလ ပဏ္ဍိတသုတ်]

## မိန်းမနှင့် ယောက်ျား

ယောကျ်ားတစ်ယောက်သည် မိန်းမတစ်ယောက်အား လွန်စွာ ကြိုက်နှစ်သက်၍ စွဲလမ်း တပ်မက်နေ၏။ ထိုမိန်းမသည် အခြား ယောကျ်ားတစ်ယောက်နှင့် ချစ်ကျွမ်းဝင်ကာ ရယ်မော ပြုံးရွှင်လျက် ရှိသည်ကိုလည်းကောင်း၊ အတူ သွားလာနေသည်ကို လည်းကောင်း ပထမ စွဲလမ်းတပ်မက်သော ယောကျ်ားသည် တွေ့မြင်ငြားအံ့၊ ထိုယောကျ်ားသည် စိတ်နှလုံး ဆင်းရဲပင်ပန်းလှပေ၏။ မခံမရပ်နိုင်အောင် စိုးရိမ် ပူဆွေးရလေ၏။

ထို့နောက် ထိုယောကျ်ားသည် 'ငါကား ဤမိန်းမကို စွဲလမ်းတပ်မက်ကြိုက်နှစ်သက်မိခြင်းကြောင့် ယခုလို ဒုက္ခကြီးစွာ ခံစားရခြင်းပါတကား' ဟူ၍ ဆင်ခြင် စဉ်းစားမိလေ၏၊ ထို့ကြောင့် ထိုမိန်းမအား စွဲလမ်းတပ်မက်သည့် စိတ်ကို ပြုပြင် ဆုံးမလေသည်။

နောက်တစ်ကြိမ်၌ ထို မိန်းမကို အခြားယောကျ်ား တစ်ယောက်နှင့် အတူယှဉ်တွဲလျက် တွေ့မြင်ရသော်လည်း စိတ်နှလုံး ဆင်းရဲပင်ပန်းခြင်း မဖြစ်တော့ပေ။ စိုးရိမ် ပူဆွေးခြင်းလည်း မဖြစ်တော့ပေ။

ဤကား ဥပမာ ဖြစ်၏။

ဤ ဥပမာအတိုင်းပင် ဤလောက၌ လူတို့သည် ဆင်းရဲပင်ပန်းစေတတ်သည့်အမှန်တရားကို သိမြင်မှုရှိရန်အတွက် ဆင်ခြင်သုံးသပ်၍ လမ်းစဉ်မှန်ဖြင့် ကျင့်သုံး အားထုတ်ရာ၌ ထိုကျင့်သုံးအားထုတ်မှုကြောင့် စွဲလမ်းတပ်မက်မှု၊ လိုချင်နှစ်သက်မှုဟူသော တဏှာ ရာဂ ကုန်ခန်းနိုင်သည်ဟု ဆင်ခြင်မိခြင်းအံ့၊ ထိုအားထုတ်ခြင်းသည် ကောင်းသော အားထုတ်ခြင်းမည်၏။ အကျိုးရှိသော အားထုတ်ခြင်းမည်၏။

စွဲလမ်းတပ်မက်မှု၊ လိုချင်နှစ်သက်မှုဟူသော တဏှာ ရာဂ ကုန်ခန်းသည်ရှိသော် ဆင်းရဲ ပင်ပန်းရခြင်း၊ ပူဆွေးရခြင်း ဟူသမျှသည်လည်း ကင်းပျောက်တော့သည်သာတည်း။

[ဒေဝဒဟဝဂ်၊ ဒေဝဒဟသုတ်]

## မြားတံကို ပူပြင်ခြင်း

လေးသမားသည် မြားတံကို ဖြောင့်တန်းအောင် ပူပြင်၏။ မီးဖို၌ အပြန်ပြန် အလှန်လှန် ကင်၏။ ပစ်ခတ်ရာ၌ အဆင်ပြေ လွယ်ကူစေရန် အချောသတ် မွမ်းမံ၏။

ထိုမြားတံသည် အလုံးစုံ ပြီးပြည့်စုံပြီဖြစ်လေသော် တစ်ဖန် ထပ်မံ၍ ပူပြင်ရန်မလို။ မီးကင်ရန် မလိုတော့။ အချောသတ် မွမ်းမံရန်လည်း မလိုတော့ပေ။

ဤလောက၌ သဘောတရားတစ်ခုကို အမှန်အတိုင်း သိမြင်လိုသောသူသည် လမ်းစဉ်မှန်ဖြင့် ကျင့်သုံး အားထုတ်၏။ မိမိ၏ ခန္ဓာကိုယ်ကို သက်သက်သာသာ အလိုလိုက်၍မထားဘဲ ခြိုးခြံရောင့်ရဲစွာ ကျင့်သုံး အားထုတ်၏။

ယင်းကဲ့သို့ ကျင့်သုံးအားထုတ်သဖြင့် အလိုရှိနေသော သဘောတရားအမှန်ကို ကောင်းစွာ သိမြင် ရရှိပြီး ဖြစ်သော် ထိုသူသည် ထိုသဘောတရားအတွက် တစ်ဖန် ထပ်မံ၍ ကျင့်သုံးအားထုတ်ရန် မလိုချေ။ ခြိုးခြံရောင့်ရဲစွာ ကျင့်သုံး အားထုတ်ရန်လည်း မလိုတော့ပေ။

[—ဒေဝဒဟသုတ်]

## နေရိပ် နေပူ အဖြူ အမည်း

နေပူထဲတွင် တည်ရှိသော သစ်ပင်ကြီးတစ်ပင်ကို ကြည့်ပါ။ ထိုသစ်ပင်၏ အရိပ်ပျံ့နှံ့တည်ရှိရာအရပ်၌ နေပူမရှိပေ၊ နေပူပျံ့နှံ့တည်ရှိရာအရပ်၌လည်း အရိပ်မရှိပေ။ အရိပ်ဖယ်ခွာသွားသည့် နေရာ၌ နေပူ ဝင်ရောက်လာ၏။ နေပူဖယ်ခွာသွားသည့် နေရာ၌ အရိပ်ဝင်ရောက်လာ၏။

ဤလောက၌ လူတို့၏ စိတ် အစဉ်ဝယ် ကောင်းစွာ တည်ငြိမ်ခြင်း၊ ကောင်းစွာ နှလုံးသွင်းခြင်း၊ ချမ်းမြေ့ နှစ်သက်ခြင်း ပျံ့နှံ့တည်ရှိသော် ဆင်းရဲ ပင်ပန်းခြင်းတို့ မရှိနိုင်။ တွေဝေ မိန်းမောခြင်း မရှိနိုင်၊ နှိပ်စက် ဖျက်ဆီးလိုမှု မရှိနိုင်၊ လိုချင်တပ်မက်မှု မရှိနိုင်ပေ။

လိုချင် တပ်မက်မှု၊ နှိပ်စက်ဖျက်ဆီးလိုမှု၊ တွေဝေ မိန်းမောမှုများ ဝင်ရောက် လွှမ်းမိုး၍ လာသော် ဆင်းရဲပင်ပန်းခြင်းသည် ပျံ့နှံ့ဖိစီးလာလေ၏။ ထိုအခါ ကောင်းစွာ နှလုံးသွင်းခြင်း၊ ကောင်းစွာ တည်ငြိမ်ခြင်းများ ပျက်သုဉ်း၍ ချမ်းမြေ့ နှစ်သက်ခြင်းပီတိ သုခသည်လည်း စွန့်ခွာ ပျက်စီးလေ၏။

[—ပဉ္စဣန္ဒြိယသုတ်]

## ကိလေသာကျော့ကွင်း

တစ်စုံတစ်ယောက်သော သူအား အဆိပ်လိမ်းကျံထားသော မြားတံထိမှန် စူးဝင်သည် ဖြစ်အံ့၊ ထိုသူ၏ ဆွေမျိုးသားချင်း အပေါင်းအသင်းတို့က ဆေးဆရာကို ခေါ်ယူ၍ ကုသစေပေလိမ့်မည်။

မြားဆိပ်ကု ဆေးဆရာသည် အနာဝကို ဓားငယ်ဖြင့် ခွဲစိတ်လျက် မြားတံကို နုတ်၍ မြားဆိပ်ကို ရှာဖွေ ထုတ်ယူပေလိမ့်မည်။ ထို့နောက် ဆေးဆရာသည် ထိုသူအား “အမောင်၊ သင့်အား အန္တရာယ် မရှိပြီ၊ မြားတံကိုနုတ်၍ မြားဆိပ်ကို ထုတ်ပယ်ပြီးပြီ၊ ဆေးကို မှန်မှန်လိမ်း ပေးပါ၊ ဖန်ရည်ကိုလည်း မှန်မှန်ဆေးပေးပါ၊ မသင့်သော အစာကိုလည်း ရှောင်ကြဉ်ပါ၊ အနာဝကို ဖုန်မှုန့်များ မထိမဝင်ပါစေနှင့်၊ အနာကျက်၍ ကောင်းစွာ ပျောက်ကင်းသည့်အထိ ဤသို့လျှင် ပြုလုပ် ဆောင်ရွက် ပါလော့” ဟု ပြောကြားရာ၏။

မြားဆိပ်စူးဝင်သော ထိုသူသည်ကား ဆေးဆရာ ပြောကြားသည်ကို မလိုက်နာပေ။ 'ငါ၌ မြားဆိပ် မရှိတော့ပြီ၊ စိုးရိမ်ဖွယ် မရှိ' ဟူ၍ စွဲမှတ်ကာ ဖန်ရည် ဆေးခြင်း၊ ဆေးထည့်ခြင်းကို မှန်မှန်မပြုလုပ်။ အနာကို ကောင်းစွာ မစောင့်ရှောက်။ စားချင်ရာကို စားသောက်လေ၏။

ထို အခါ အနာသည် မန်းဝင် ပြည်တည်လျက် ကိုက်ခဲ နာကျင်လာ၏။ အနာနှိပ်စက်သဖြင့် ထိုသူသည် ကြီးစွာသော ဆင်းရဲပင်ပန်းခြင်းသို့ ရောက်လေ၏။

ထိုနည်း တူစွာပင် ဤလောက၌ အချို့သော သူတို့သည် ဆင်းရဲခြင်းမှ လွတ်မြောက်ကြောင်းကို ရှာဖွေရင်း တရားလမ်းစဉ်အတိုင်း ကျင့်သုံးအားထုတ်ရာ၏။ ထိုသူသည် 'ငါကား လိုချင် တပ်မက်ခြင်း၊ စွဲလမ်း၊ နှစ်သက်ခြင်း၊ နှိပ်စက် ဖျက်ဆီးလိုခြင်း တည်းဟူသော တဏှာ၊ ရာဂ၊ ဗျာပါဒ စသည့် ကိလေသာ အညစ်အကြေးတို့ကို ပယ်ပြီးလေပြီ၊ ငါသည် တရားထူးကို ရရှိပြီးသူတည်း' ဟူ၍ စွဲမှတ်မှားကာ ကိလေသာ အာရုံ ကာမဂုဏ်တို့၌ ကျင်လည် ကျက်စားရာ၏။ ဣန္ဒြေကို စောင့်ရှောက် ထိန်းသိမ်းမှု၌ မေ့လျော့၍ နေထိုင်ရာ၏။

ထိုအခါ တဏှာ၊ ရာဂ၊ ဗျာပါဒ စသော ကိလေသာအာရုံ ကာမဂုဏ်ကျော့ကွင်းသည် ထိုသူအား ညှို့ငင်၍ ဖမ်းဆီးသဖြင့် ဆင်းရဲပင်ပန်းခြင်း၊ စိုးရိမ်ပူဆွေးခြင်းတို့ကို ကြုံတွေ့ ခံစားရမည်သာတည်း။

[-သုနက္ခတ္တသုတ်]

# လမ်းပြနှင့် ခရီးသွား

ရာဇဂြိုဟ်ပြည်သို့ သွားရန် ခရီးကို ကောင်းစွာ ညွှန်ပြတတ်သူအား ခရီးသည် တစ်ဦးက "အို-မိတ်ဆွေ၊ အကျွန်ုပ် ရာဇဂြိုဟ်ပြည်သို့ သွားလိုပါသည်၊ လမ်းသိလျှင် ညွှန်ကြားပါလော့" ဟု တောင်းပန်၏။

လမ်းသိသော သူက "မိတ်ဆွေ၊ ဤနေရာမှ ရှေ့သို့ ဆက်သွားပါ၊ မကြာမီ တောအုပ်တစ်ခုကို တွေ့လိမ့်မည်၊ ထိုတောအုပ်ကို လွန်လျှင်

လက်ဝဲဘက်သို့ သွားသောလမ်းအတိုင်း လိုက်ပါ၊ လယ်ကွင်းပြင်ကြီး ဆုံးအောင် လျှောက်သွားပါ၊ ရေကန်ကြီးတစ်ကန်သို့ ရောက်ပါလိမ့်မည်၊ ထိုရေကန်ကြီးမှ ရှေ့ဆက်ပြီး သွားလျှင် သရက်ဥယျာဉ်ကြီးကို တွေ့လိမ့်မည်။ ထိုဥယျာဉ်ကြီးကို လက်ဝဲရစ်ပတ်သွားသော လမ်းအတိုင်း လိုက်ပါ၊ မကြာမီရွာငယ်ကလေးတစ်ရွာကို တွေ့လိမ့်မည်၊ ထိုရွာငယ်မှ ထွက်လျှင် ရှေ့တည့်တည့်လမ်းအတိုင်း လျှောက်သွားသော် ရာဇဂြိုဟ်ပြည်ကို မြင်ရပါလိမ့်မည်'' ဟူ၍ ကောင်းစွာ ညွှန်ကြားလေသည်။

ထိုအခါ ခရီးသွား ယောကျ်ားသည် ညွှန်ကြား ပြသသော ခရီးစဉ်ကို ကောင်းစွာ မှတ်သား၍ ထိုသူညွှန်ကြားလိုက်သော လမ်းခရီးအတိုင်းပင် လျှောက်သွားလေရာ ရာဇဂြိုဟ်ပြည်သို့ ဆိုက်ဆိုက်မြိုက်မြိုက် ရောက်ရှိသွားလေသည်။

တစ်ဖန် အခြားသော ခရီးသွား ယောကျ်ား တစ်ယောက်ကလည်း 'ရာဇဂြိုဟ်ပြည်သို့ သွားလိုပါသည်' ဟူ၍ ခရီးစဉ်ကို မေးမြန်းလာပြန်၏

ထိုအခါ ယခင် ပထမ ခရီးသွားကို ညွှန်ပြသည့်အတိုင်းပင် ကောင်းစွာ ညွှန်ပြပေးလိုက်လေသည်။

ယင်းသို့ ခရီးစဉ်ကို ညွှန်ပြလိုက်သော်လည်း ဒုတိယ ခရီးသွားသည် ပထမ ခရီးသွားကဲ့သို့ မဟုတ်။ လမ်းညွှန်အတိုင်း မလျှောက်။ မိမိထင်ရာ မြင်ရာ စိတ်ကူးပေါက်တိုင်းသာ လျှင် လျှောက်သလေ၏။ ထို့ကြောင့်ပင် ထိုသူသည် ရာဇဂြိုဟ်ပြည်သို့ မရောက်ရှိတော့ပေ။

ဤကား ဥပမာ ဖြစ်၏။

ဤဥပမာ အတိုင်းပင် လောကတွင် တိုးတက် ကြီးပွား၍ အထက်တန်း ရောက်နိုင်မည့် နည်းလမ်းကောင်းကို သင်ကြား ညွှန်ပြချက်ကား ရှိသည်သာ ဖြစ်၏။

လက်တွေ့ လိုက်နာ ကျင့်သုံးသူသာလျှင် အကျိုးခံစား၍ အထက်တန်းရောက်လေသည်။ လိုက်နာ ကျင့်သုံး ခြင်း မရှိသူကိုကား ထိုနည်းလမ်းကောင်းများက မည်သို့မျှ အကျိုးမပြုနိုင်ပေ။

ဗုဒ္ဓဝါဒ ဗုဒ္ဓလမ်းညွှန်သည် အမှန်တကယ် လိုက်နာကျင့်သုံးသူအား မြင့်မြတ်ရာ၊ ချမ်းသာရာသို့ ပို့ဆောင်သည်သာတည်း။

နိဗ္ဗာန်သည် အမှန်တကယ် ရှိ၏၊ နိဗ္ဗာန်ရရန် အကျင့် လမ်းစဉ်သည်လည်း အမှန်တကယ် ရှိပေ၏။ ထိုလမ်းစဉ်ကို ညွှန်ပြသူလည်း အမှန်တကယ် ရှိသည်သာတည်း။

[-ဂဏက မောဂ္ဂလာနသုတ်]

## ပဲအိတ်ကြီး

အိတ်ကြီးတစ်လုံးထဲ၌ ပဲအမျိုးမျိုးကို ရောနှော၍ ထည့်ထား၏။ ထိုအိတ်ကြီးကိုဖွင့်၍ သွန်ချလိုက်၏။ အမြင်အာရုံရှိပြီးသော သူသည် အိတ်ကြီးထဲမှ သွန်ချလိုက်သော အရာများကို 'ဤကား ပဲခနောက်တည်း၊ ဤကား ပဲကြီးတည်း၊ ဤကား ပဲလွန်းတည်း' စသည်ဖြင့် အမျိုးအမည် ခွဲခြား၍ သိ၏။

အမှန်ကို အမှန်ဟူ၍ အရှိအတိုင်း ရှုမြင် သုံးသပ်တတ်သူသည် မိမိ ခန္ဓာကိုယ်ကို တည်ရှိနေသည့် အတိုင်းပင် ရှုမြင် သုံးသပ်၏။ ဆံပင်၊ လက်သည်း၊ ခြေသည်း၊ ကျောက်ကြီးကျောက်ငယ်၊ သွေး၊ သလိပ်၊ နှပ်၊ ပြည်၊ ချွေး စသည်တို့သည် ခန္ဓာကိုယ်၌ အမှန်တကယ် တည်ရှိဖွဲ့စည်းလျက် ရှိနေသည်တကား' ဟူ၍ ရှုမြင် သုံးသပ်၏။

ထိုသို့ ရှုမြင်သုံးသပ်သော် ကာမဂုဏ် အာရုံတို့၌ တပ်မက်သော တွေးတော ကြံစည်မှု 'ကာမဝိတက်' မျိုးမှ ကင်းစင်၏။

ထိုအခါ ကာမဂုဏ် ကိလေသာတို့ကြောင့် ဖြစ်ပေါ် တတ်သော ဆင်းရဲ ပင်ပန်းခြင်းမရှိ။ စိတ်နှလုံး ချမ်းမြေ့စွာ နေရ၏။

[အနုပဒဝဂ်၊ ကာယဂတာသတိသုတ်]

## ရွံ့နှင့် ကျောက်တုံး

စွတ်စိုသော ရွံ့ဗွက်ထဲသို့ ကျောက်တုံးကို ပစ်ချလိုက်သည် ရှိသော် အထဲသို့ ထိုးဖောက် ဝင်ရောက်သွားမည်သာ ဖြစ်၏။

ခန္ဓာကိုယ် ရုပ်ဒြပ်၏ အဖွဲ့အစည်း ဖြစ်သော အင်္ဂါ အစိတ်အပိုင်းများကို (ကျင်ကြီး၊ ကျင်ငယ်၊ တံတွေး၊ နှပ်၊ သလိပ်၊ ချွဲ စသည်ကို) အရှိအတိုင်း အမှန်အတိုင်း ရှုမြင် သုံးသပ်လေ့မရှိသူသည် ရွှံ့နှင့် တူ၏။ ကိလေသာမာရ်တည်းဟူသော နှောင့်ယှက် ဖျက်ဆီးခြင်းသည် ထိုရွှံ့နှင့်တူသူအား ဝင်ရောက် နှောင်ဖွဲ့နိုင်၏။ (က)

မီးဖြစ်ပေါ်ခြင်း

မီးကိုအလိုရှိသော သူသည် အစိုဓာတ်မရှိသည့်ထင်းစကိုယူဆောင်လာ၏။ မီးပွတ်ခုံသည်လည်း အသင့်ရှိနေ၏။ ထိုအခြေ၌ မီးသည် မုချဖြစ်ပေါ်လာတော့မည်တည်း။ မီးတောက်ရန် သေချာပြီတည်း။

ဤ ဥပမာ အတိုင်းပင် ခန္ဓာကိုယ်၌ အမှန်တကယ် ရှိနေသော၊ အမှန်တကယ် ဖြစ်ပေါ်နေသော အသား၊ အရေ၊ အကြော၊ အဆီ စသည်ကို ရှုမြင် သုံးသပ်ခြင်း မရှိသူအား တပ်မက်ခြင်း၊ နှစ်သက်ခြင်း၊ စွဲလမ်းခြင်း၊ လိုချင်မက်မောခြင်း စသည့် ကိလေသာစိတ်သည် မုချပင် ဖြစ်ပေါ် လာတော့မည်တည်း။ ကိလေသာ မာရ်၏ နှောင်ဖွဲ့ခြင်းကို အမှန်ပင် ခံရတော့မည်တည်း။ (ခ)

အိုးနှင့် ရေ

ရေမရှိသော အိုးစရည်းကြီးသည် ပွင့်လျက် အသင့် ရှိနေ၏။ အောက်ခံ အရွတ်ဖြင့် ကောင်းစွာ တည်ရှိနေ၏။ တစ်စုံတစ်ယောက်သော သူသည် ထိုအိုးစရည်းကြီးဆီသို့ ရေကို သယ်ဆောင်၍ လာ၏။ ယင်းသို့သော အခြေအနေ၌ ရေသယ်ဆောင်လာသူသည် ရေလောင်းရန် လွယ်ကူသည်သာတည်း။ ရေသည် အိုးစရည်းကြီးထဲသို့ မုချပင် ဝင်ရောက်မည့် အခြေအနေတည်း။

ခန္ဓာကိုယ်၌ အမှန်တကယ် တည်ရှိ ဖြစ်ပျက်နေသည်ကို သုံးသပ်ဆင်ခြင်မှု မရှိသူသည် ပွင့်နေသော အိုးစရည်းကြီးနှင့်တူပေ၏။ ကိလေသာမာရ် ဝင်ရောက် နှောင်ဖွဲ့ခြင်း ခံရမည့်သူမျိုးပေတည်း။ (ဂ)

ချည်လုံးနှင့် တံခါးပေါက်

တစ်စုံတစ်ယောက်သောသူသည် ပေါ့ပါးသောချည်လုံးကလေးဖြင့် တံခါးပေါက်ကို ပစ်သွင်း၏။ တံခါးပေါက်အား ပိတ်လျက် ရှိနေ၏။ တံခါးပျဉ်

တို့သည် လွန်စွာ တောင့်တင်းခိုင်မာကြကုန်၏။ ထိုအရာကို မည်သို့မှတ်ထင်ပါသနည်း။ ချည်လုံးကလေးသည် တံခါးပေါက်ထဲသို့ ဝင်ရောက်ပါမည်လော။(က)

မီးပြုလုပ်လိုသူ တစ်ဦးသည် မီးပွတ်ခုံရှိရာသို့ ထင်းစကိုသယ်ယူလာ၏။ မီးပွတ်ရန် စိတ်ကူး ရှိနေ၏။ သို့သော် သယ်ယူလာသော ထင်းစမှာ အခြောက်မဟုတ်၊ ထင်းစို ဖြစ်သည်။ ထိုအရာကို မည်သို့ မှတ်ထင်ပါသနည်း။ မီးဖြစ်နိုင်ပါမည်လော။(ခ)

အိုးစရည်းကြီးသည် ကရွတ်ခွေဖြင့် ကောင်းစွာ တည်ရှိနေလေ၏။ အထဲတွင် ရေအပြည့် ရှိနေ၏။ အိုးနှုတ်ခမ်းနှင့်အညီ ရေပြည့်လျက် ရှိနေ၏။ ရေထည့်လိုသူ တစ်ယောက်သည် ထို အိုးစရည်းဆီသို့ ရေကို သယ်ယူလာနေ၏။ ထိုအရာကို မည်သို့မှတ်ထင်ပါသနည်း။ အိုးစရည်းကြီးထဲသို့ နောက်ထပ် ရေ ဝင်ရောက်နိုင်ပါမည်လော။(ဂ)

တံခါးပေါက်သည် ခိုင်ခံ့စွာ ပိတ်လျက် ရှိသောကြောင့် ချည်လုံး မဝင်နိုင်။(က)

ထင်းချောင်းစသည် အစိုဓာတ်ဖြစ်သောကြောင့် မီးပွတ်၍ မရ။(ခ)

အိုးစရည်းကြီးသည် ရေအပြည့် ရှိနေသောကြောင့် နောက်ထပ် ရေ မဝစ်နိုင်။ ရေလောင်းရန် အကြောင်းမရှိ။(ဂ)

မိမိခန္ဓာကိုယ်၌ အသား၊ အသွေး၊ အကြော၊ အဆီ၊ သလိပ်၊ ခြွဲ၊ လက်သည်း၊ ခြေသည်း၊ ကျင်ကြီး၊ ကျင်ငယ် စသည်တို့ တည်ရှိဖွဲ့စည်းနေသည်ကို လည်းကောင်း၊ ဖြစ်ပျက် ပြုပြင် ပြောင်းလဲ ဖောက်ပြန်နေသည်ကို လည်းကောင်း၊ ရှုမြင် သုံးသပ်၍ ဆင်ခြင်ရာ၏။

ထိုသို့ ဆင်ခြင်တတ်သူအား လိုချင်တပ်မက်ခြင်း၊ နှစ်သက်စွဲလမ်းခြင်း၊ နှိပ်စက် ဖျက်ဆီးလိုခြင်း၊ မနာလို ဝန်တိုခြင်း စသော ကိလေသာမာရ် ဝင်ရောက်နှောင်ဖွဲ့ရန် အကြောင်းမရှိ။ ထိုအခါ ဆင်းရဲပင်ပန်းမှု မရှိနိုင်။ နိဗ္ဗာန်ချမ်းသာကို မျက်မှောက်ပြုသည် မည်၏။

[–ကာယဂတာသတိသုတ်]

## တောင်ပေါ်နှင့် တောင်အောက်

သူငယ်ချင်း နှစ်ယောက်တို့သည် တောင်ခြေသို့ ရောက်လာကြ၏။

တစ်ယောက်က တောင်ပေါ်သို့တက်သွားသည်။ ကျန်တစ်ယောက်က တောင်ခြေရင်း၌ စောင့်နေခဲ့သည်။

တောင်ပေါ်တက်သူသည် တောင်ထိပ်မှ နေ၍ အဝေးသို့ လှမ်းမျှော်ကြည့်ရှုပြီးလျှင် တောင်အောက်သို့ ပြန်ဆင်းလာ၏။

တောင်ခြေတွင် ကျန်ရစ်သူက "သူငယ်ချင်း၊ တောင်ထိပ်ကနေကြည့်တာ ဘာတွေမြင်ရသလဲ"ဟု မေးလေသည်။

"တော်တော် စုံအောင် မြင်ရတာပဲ၊ ရှုမျှော်ခင်းတွေ သိပ်လှတာပဲ၊ စိမ်းလန်း စိုပြည်တဲ့ ဥယျာဉ်ကိုလဲ မြင်ရတယ်၊ အစီအရီ တန်းနေတဲ့ သစ်ပင်တွေ တောအုပ်တွေလဲ မြင်ရတယ်၊ မြို့တွေ ရွာတွေကလဲ အစုလိုက် အကွက်လိုက် ရှုချင်စဖွယ်ပဲ၊ မြစ်တွေ ချောင်းတွေဆိုတာရစ်ခွေ စီးဆင်းနေလိုက်ကြတာ ကြည့်လို့ မဝနိုင်အောင် သာယာတယ်"ဟု ပြန်ပြောလေသည်။

"သူငယ်ချင်း၊ မင်းပြောတာ မဖြစ်နိုင်ပါဘူး၊ မဟုတ်တာတွေကို ကြံဖန် ပြောနေတာပါ" ဟူ၍ တောင် ခြေရင်း၌ ကျန်ရစ်သူကပြန်ပြောလေ၏။

ထိုအခါ တောင်ပေါ်တက်သူက "ကဲ-မယုံလျှင် တက်ကြည့် သူငယ်ချင်း၊ လိုက်ခဲ့"ဟု ဆို၍ ဆွဲခေါ်ကာ နှစ်ယောက်သား တောင်ထိပ်ပေါ်သို့ တက်သွားကြလေ၏။

တောင်ထိပ်ပေါ်သို့ ရောက်သောအခါ ပထမ သူငယ်ချင်းပြောသည့်အတိုင်းပင် အလုံးစုံ ရှုမြင်ရလေ၏။

"သူငယ်ချင်း၊ ငါပြောတာတွေ မဟုတ်ဘူးလား၊ ဘယ့်နှယ်လဲ၊ 'မဖြစ်နိုင်ပါဘူး မဟုတ်တာတွေကို ကြံဖန် ပြောနေတာပါ'လို့ ပြောဦးမှာလား"ဟု ပထမ တောင်ပေါ်တက်သူက မေးလေသည်။

ထိုအခါ ဒုတိယ တောင်ပေါ်တက်သူက "ဟုတ်ပေတယ် သူငယ်ချင်း၊ မင်း ပြောတာတွေ အမှန်ချည့်ပါ၊ သည်တောင်ကြီး ကာဆီးထားလို့ မြင်ကွင်းတွေ မမြင်ရတာ၊ ယခုတော့ သည်တောင်ကြီးကို ကျော်လွှားပြီး

တက်နိုင်လို့ ရှုမြင်ကွင်းတွေကို မြင်ရပါပြီ၊ ခင်းပြောတာတွေ မှန်ပါတယ်' ဟု ပြန်ပြောလေ၏။

ဤသည်ကား ဥပမာ အကြောင်းရပ် ဖြစ်ပေ၏။ ဤလောကအ၌ အဝိဇ္ဇာတည်းဟူသော တောင်ကြီးသည် ပိတ်ပင် တားဆီးလျက်ရှိနေ၏။ ဤအဝိဇ္ဇာ တောင်ကြီးကြောင့်ပင် လူအပေါင်းတို့သည် အမှန်ကိုမမြင်ကြ၊ မသိကြ။ မြင်သူ သိသူက ပြောသော်လည်း မယုံကြည်တတ်ကြ။ အဝိဇ္ဇာကို ကိုယ်တိုင် အောင်နိုင် ကျော်လွှားပြီးသူသာလျှင် လောကသစ္စာ အမှန်တရားကို သိမြင် လက်ခံတတ်ကြလေသည်။

အဝိဇ္ဇာဟူသည်မှာ အမိုက်မှောင်ပေတည်း။ အသိ အလိမ္မာ ဉာဏ်ပညာ ကင်းမဲ့ခြင်းပေတည်း။

အဝိဇ္ဇာ အမှောင် ဖုံးလွှမ်းခြင်းသည်ကား လိုချင် တပ်မက်မှု၊ စွဲလမ်း နှစ်သက်မှု၊ ဖျက်ဆီး နှိပ်စက်လိုမှု၊ မနာလို ဝန်တိုမှုစသော တစ်ဖက် စွန်းရောက် အလိုဆိုးများကြောင့် ဖြစ်ပေါ်ရပေ၏။ ထိုကိလေသာ အလိုဆိုးများ နည်းပါးသည်နှင့်အမျှ ကင်းရှင်းသည်နှင့်အမျှ၊ အသိ အလိမ္မာ ဉာဏ်ပညာ ရင့်သန်မြဲဖြစ်သည်။ အသိ အလိမ္မာ ဉာဏ်ပညာ ရင့်သန်သည်နှင့်အမျှလည်း လောက၌ အထက်တန်းရောက်က တိုးတက် တောက်ပြောင်နိုင်ပေသည်။ ပင်ပန်း ဆင်းရဲခြင်း မရှိသော နိဗ္ဗာန် ချမ်းသာကို ရရှိနိုင်ပေသည်။

[သုညတဝဂ်၊ ဒန္တဘူမိသုတ်]

## အကြောင်းမဟုတ် အလုပ်မမှန်

နွားနို့အလိုရှိသူသည် ကလေးငယ်ရှိသော နွားမ၏ ဦးချိုကို ညှစ်၏။ နွားနို့ကား မရပေ။ နွားနို့ ရရှိရန် အကြောင်း မဟုတ်သောကြောင့် ပေတည်း။

ဆီဦးကို အလိုရှိသူသည် အိုးထဲ၌ ရေလောင်း ထည့်၍ မွှေတံဖြင့် လှည့်ပတ်မွှေ၏။ ထို့နောက် မွှေတံဖြင့် ကော်၍ ဆွဲယူ၏။ ဆီဦးကိုကား မရပေ။ ဆီဦးရရှိရန် အကြောင်းမဟုတ်သောကြောင့်တည်း။

မီးကို အလိုရှိသူသည် စိုစွတ်သော သစ်သားစ နှစ်ခုကို ပွတ်တိုက်၏။ မီးကိုကား မရပေ။ မီးရရှိရန် အကြောင်း မဟုတ်သောကြောင့်တည်း။

ဤလောက၌ အကျိုးထူးကို ရရှိရန်ဟူ၍ မြတ်သော အကျင့်ကို ကျင့်သုံးအားထုတ်နေလေ့ ရှိကြကုန်၏။ ထိုသို့ အားထုတ်သူတို့သည် အကျိုးထူးကို မရနိုင်ပေ။ အဘယ်သူ မျိုးနည်း ဟူမူ အယူအဆ၌ လည်းကောင်း၊ စိတ်ကူး အကြံအစည်၌ လည်းကောင်း၊ အပြောအဆို၌ လည်းကောင်း၊ အပြုအမူ၌ လည်းကောင်း၊ အသက်မွေးမြူရာ၌ လည်းကောင်း၊ ကြိုးစားအားထုတ်မှု၌ လည်းကောင်း၊ အောက်မေ့ဆင်ခြင်မှု၌ လည်းကောင်း၊ မြှိမ်သက် တည်ကြည်မှု၌ လည်းကောင်း မှားယွင်းနေသူမျိုးပေတည်း။

ထိုလမ်းစဉ် ရှစ်မျိုးသည် လူသားတိုင်း၌ အရေးကြီးသော အရင်းခံတရားများဖြစ်၏။ ထိုအရင်းခံတရား၌ မမှန်ကန်ဘဲ ရှိနေလျှင် ကျင့်သုံးအားထုတ်သော်လည်း အကျိုးထူးကို မရရှိနိုင်ပေ။

[–ဘူမိဇသုတ်]

## ငုံးငှက် ဖမ်းခြင်း

ကောင်းစွာ ကြိုးစား အားထုတ်ခြင်းသည် အပြစ်ကင်း၏။ အကျိုးဖြစ်စေနိုင်၏။ အရာရာတိုင်း၌ ကောင်းစွာ ကြိုးစားအားထုတ်မှုသည် ရှိအပ်ပေ၏။ ကြိုးစားအားထုတ်မှုမရှိဘဲ အောင်မြင် ပြီးမြောက်သည် ဟူ၍ မရှိနိုင်ပေ။

သို့သော်လည်း ကြိုးစားအားထုတ်မှု ဟူသမျှကို အပြစ်ကင်းသည်ဟု မဆိုရာ။ အကျိုးပြုမည်ဟု မဆိုရာ။ အသိပညာနှင့် ယှဉ်သော ကြိုးစားအားထုတ်ခြင်းသည်သာလျှင် မြတ်၏။ အပြစ်ကင်း၏။ အကျိုးပြုနိုင်ပေ၏။

ငုံးငှက်ကို ဖမ်းသူသည် လက်ထဲ၌ မိထားသော ငုံးငှက်ကို လွတ်မသွားအောင် ဟူ၍ အားထုတ် ဖိဆုပ်လိုက်ပါက ငုံးငှက် သေဆုံးရာ၏။ အကျိုးမရှိရာ။ ဤသို့သော ကြိုးစားအားထုတ်မှုမျိုးကို အပြစ်မကင်းဟု ဆိုရာ၏။

ဤသို့သော အသိပညာမဲ့ ကြိုးစားအားထုတ်မှု မျိုးကြောင့် စိတ်လှုပ်ရှားပျံ့လွင့်နိုင်၏။ တည်ကြည်မှုသမာဓိ လျော့ပါး ကင်းကွာနိုင်၏။ ထိုအခါ မိမိရည်မှန်းထားသော အောင်မြင်မှုအကျိုးထူးများ ပျက်စီးဆုံးရှုံးနိုင်ပေ၏။

[ - ဥပက္ကိလေသသုတ်]

## လိပ်ကန်းနှင့် ပျဉ်ချပ်

ပျဉ်ပြားငယ် တစ်ချပ်ကို အပေါက်ဖောက်ပါ။ လက်မောင်းဝင်နိုင်ရုံ လောက်သော အပေါက်ကို ဖောက်ပါ။ ထို့နောက် ထိုပျဉ်ပြားကို သမုဒ္ဒရာထဲသို့ ပစ်ချလိုက်ပါ။

သမုဒ္ဒရာ၌ အရပ်လေးမျက်နှာမှ လေတိုက်ခတ်လျက် ရှိလေ၏။ ထို့ကြောင့် ပျဉ်ချပ်ကလေးသည်အရှေ့၊ အနောက်၊ တောင်၊ မြောက် လှည့်ပတ်ဆော တရစပ် လည်လျက် ရှိနေပေလိမ့်မည်။

ထိုသမုဒ္ဒရာ၌ မျက်စိကန်းသော လိပ်တစ်ကောင်ရှိ၏။ ထိုလိပ်သည် နှစ်ပေါင်း တစ်ရာကြာမှ ရေပေါ်သို့ ပေါ်ခွင့်ရ၏။

ထိုလိပ်ကန်းသည် ပျဉ်ပြားချပ်ကလေး၏ အပေါက်တွင် စွပ်မိရန် အကြောင်း ရှိပါမည်လော။ လွန်စွာ ကြုံကြိုက်ခဲလှသော အကြောင်း ပေတည်း။

ဤလောက၌ စိတ်ဖြင့် မကောင်းမှု ဒုစရိုက်ကို ကြံစည်တွေးတောလေ့ ရှိသူ၊ နှုတ်ဖြင့် မကောင်းသည် မမှန်သည်ကို ပြောဆိုလေ့ရှိသူ၊ ကိုယ်ဖြင့် မကောင်းသော အလုပ်ကို ပြုလုပ်လေ့ရှိသူ၊ ထိုသို့ မကောင်းမှုတို့၌ သာလျှင် အလေ့အကျင့် ပွား၍ ကျက်စားလေ့ရှိသူသည် အပြစ်ကင်းသော ကောင်းမှု သုစရိုက်ကို ပြောင်းလဲ၍ ကျက်စားရန် ခဲယဉ်းလှပေ၏။ လေ့ကျင့်ကျက်စားလျက်ရှိသော မကောင်းမှုကို စွန့်လွှတ်ရန် ခဲယဉ်းလှပေ၏။

မကောင်းမှု ဒုစရိုက်တို့၌ မွေ့လျော် ကျက်စားသော အပေါင်း အသင်း ပတ်ဝန်းကျင် အရပ်ဒေသကို စွန့်လွှတ်၍ ကောင်းမှုသုစရိုက်၌

မွေ့လျော် ကျက်စားသော အပေါင်းအသင်း ပတ်ဝန်းကျင် အရပ်ဒေသသို့ ပြောင်းရွှေ့ရန် ခဲယဉ်းလှပေ၏။

သမုဒ္ဒရာထဲက လိပ်ဓာန်းသည် ပျဉ်ပြားချပ်၏ အပေါက်ဝတွင် ဝင်မိစေရန် ခဲယဉ်းသကဲ့သို့တည်း။

မစင်၌ မွေ့လျော်၍ စင်ကို နှစ်ခြိုက် စားသုံးသော ပိုးလောက်ကောင်သည် မစင်ပုံမှ ဖယ်ခွာ၍ အရပ်တစ်ပါးသို့ ပြောင်းရွှေ့ရန် ခဲယဉ်းသကဲ့သို့တည်း။

[-ဗာလ ပဏ္ဍိတသုတ်]

## ဆုံးရှုံးခြင်း ဝို၍ ဆုံးရှုံးခြင်း

လောင်းကစား ကြူးသူသည် ထာဝစဉ် အရှုံးနှင့် ကြုံရ၏။ ပစ္စည်းဥစ္စာလည်း ဆုံးရှုံးရ၏။ သား သမီး ဇနီးကိုလည်း ဆုံးရှုံး ရ၏။ လောင်းကစားမှုကို အကြောင်းပြု၍ ရာဇဝတ်သင့်ကာ ဖမ်းဆီး ချုပ်နှောင်ခြင်းလည်း ခံရ၏။

ထို လောင်းကစားကြူးသူ၏ ဆုံးရှုံးခြင်းကား သာမန်မျှသာတည်း။

စိတ်ဖြင့် မကောင်းမှုကို ကြံစည် တွေးတောခြင်း၊ နှုတ်ဖြင့် မကောင်းသည်ကို ပြောဆိုခြင်း၊ ကိုယ်ဖြင့် မကောင်းသည်ကို ပြုလုပ်ခြင်းဟူသော ဒုစရိုက်၌ မွေ့လျော် ကျက်စားမိသူ၏ ဆုံးရှုံးခြင်းကား လွန်စွာကြီးမား လှပေ၏။ ပြုပြင် အစားထိုး၍ ရနိုင်ခဲသော ဆုံးရှုံးခြင်း ပေတည်း။ လောင်းကစားကြူးသူ၏ ဆုံးရှုံးခြင်းထက် အဆ များစွာ ပိုလွန်သော ဆုံးရှုံးခြင်းပေတည်း။

[-ဗာလ ပဏ္ဍိတသုတ်]

## အယဉ်နှင့် အရိုင်း

အိမ်ကြီး နှစ်ဆောင်သည် မျက်နှာချင်းဆိုင် တည်ရှိနေပေ၏။ မျက်စိ
မြောင်းသာကင်ပေါက်သည် ကို အိမ်ကြီးနှစ်ဆောင်၏ အလယ် ...

မြင်၌ ရပ်လျက်ရှိ၏။ ထို သူသည် အိမ်ကြီး နှစ်ဆောင်သို့ ဝင်လာသူများကိုလည်း ကောင်းစွာမြင်ရ၏။ အိမ်ကြီး နှစ်ဆောင်မှ ထွက်ခွာသွားသူများကိုလည်း ကောင်းစွာ မြင်ရ၏၊ မမြင်နိုင်ဖွယ်ရာ အကြောင်းမရှိပေ။ မျက်စိကောင်းသူ မဟုတ်လေစ။

ထိုနည်းတူပင် ငါဘုရားသည် သတ္တဝါ အမျိုးအစားကို ကောင်းစွာ သိမြင်တော်မူ၏။ မယဉ်ကျေးသူနှင့် ယဉ်ကျေးသူ၊ လမ်းမှားသူနှင့် လမ်းမှန်သူတို့ကိုလည်း ခွဲခြား၍ သိမြင်တော်မူ၏၊ ဆုံးမခက်သူနှင့် ဆုံးမလွယ်သူတို့ကိုလည်း ကောင်းစွာခွဲခြား၍ သိမြင်တော်မူသည်သာတည်း။ မသိမြင်နိုင်ဖွယ်ရာ အကြောင်းမရှိပေ။ ငါဘုရား၌ ဤအလုံးစုံကို ပိုင်းခြား ဝေဖန်နိုင်သည့် ဉာဏ်ပညာ ပြည့်စုံနေသည်သာတည်း။

[—ဒေဝဒူတသုတ်]

## လျင်မြန်ခြင်း ထိန်းသိမ်းခြင်း

ဗုဒ္ဓ လမ်းစဉ်ကို သိ၍ ဗုဒ္ဓ၏ ညွှန်ပြမှုကို ရရှိသော သူသည် စိတ်အစဉ်ကို စောင့်ရှောက်တတ်၏။ တွေ့ကြုံဆုံဆည်းလာသော အာရုံတို့၌ အသဖြီအတဖြီ နှလုံးသွင်းတတ်၏။ စိတ်ဆန္ဒ ဆွဲဆောင်ရာသို့ လိုက်ပါသော တစ်ဖက်စွန်းရောက် မဖြစ်အောင် ထိန်းသိမ်း စောင့်စည်း တတ်ပေ၏။

ထို ပုဂ္ဂိုလ်သည် အဆင်း၊ အသံ၊ အနံ့၊ အရသာ၊ အတွေ့ အထိ တည်းဟူသော အာရုံတို့ကို တွေ့ထိ ခံစားမိသောအခါ နှစ်သက် ကျေနပ်မှုလည်း ဖြစ်ပေါ်၏၊ မနှစ်သက် မကျေနပ်မှုလည်း ဖြစ်ပေါ်၏။

ယင်းတို့ ဖြစ်ပေါ်သော်လည်း ကြာရှည် စွဲမြဲခြင်းကား မရှိပေ။ ခဏချက်ချင်း ချုပ်ငြိမ်းသည်သာ ဖြစ်၏။

ထိုပုဂ္ဂိုလ်၏စိတ်အစဉ်၌ နှစ်သက်မှု၊မနှစ်သက်မှုသည် တည်တံ့၍မနေ။ ဗုဒ္ဓ လမ်းစဉ်အရ စိတ်အစဉ်ကို စောင့်ရှောက် ထိန်းသိမ်း တတ်သောကြောင့် ဖြစ်၏။ နှစ်သက် ကျေနပ်မှု၊ မနှစ်သက် မကျေနပ်မှုသည် လျင်မြန်စွာ ပျက်ပြယ် ချုပ်ငြိမ်းသွားသည်သာ ဖြစ်၏။

ကျန်းမာ သန်စွမ်းသော သူသည် မျက်စိကိုမှိတ်၍ ဖွင့်လိုက်သကဲ့သို့ လည်းကောင်း၊ ဖွင့်၍ မှိတ်လိုက်သကဲ့သို့ လည်းကောင်း၊

လက်မနှင့် လက်ညှိုးကို ထိ၍ အသာအယာ လက်ဖျစ်တီးလိုက်သကဲ့သို့ လည်းကောင်း၊

လျှာပေါ်၌ တင်ရှိနေသော တံတွေးကို ထွေးထုတ်လိုက်သကဲ့သို့ လည်းကောင်း၊

ကွေး၍ ထားသော လက်မောင်းကို ဆန့်တန်းလိုက်ဘိသကဲ့သို့ လည်းကောင်း၊

မီးဖိုပေါ်၌ ကြာမြင့်စွာ တင်ထားသော သံဒယ်အိုးထဲသို့ ရေပေါက် ချလိုက်သောအခါ ခဏချင်းဖြင့် ခန်းခြောက်သွားသကဲ့သို့လည်းကောင်း၊

အနည်းငယ် စောင်းငဲ့လျက်ရှိသော ကြာရွက်ပေါ်သို့ ရေပေါက် ကျသည့်အခါ ခဏချင်း လျှောကျ သွားသကဲ့သို့ လည်းကောင်း၊

ဣန္ဒြေကို စောင့်ရှောက်တတ်သူအား တွေ့ထိခံစားမိသော ကျေနပ် နှစ်သက်မှု၊ မကျေနပ် မနှစ်သက်မှုသည် အလွန် လျင်မြန်စွာ ချုပ်ငြိမ်း သွားသည်သာတည်း။

[-ဣန္ဒြိယ ဘာဝနာသုတ်]

## ပန်းတိုင်သို့

သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်၌ မြတ်စွာဘုရား သီတင်းသုံး နေတော်မူစဉ်အခါ ဖြစ်၏။ ပိင်္ဂလကောစ္ဆ အမည်ရှိသော ပုဏ္ဏားသည် မြတ်စွာဘုရားထံ ချဉ်းကပ်လာပြီး မေးလျှောက်လေ၏။

“အရှင် ဂေါတမ၊ ယခုအခါ၌ ကျော်စော ထင်ရှားသော ဂိုဏ်း ခေါင်းဆောင်ကြီးများ ရှိကြပါသည်၊ အယူဝါဒကို တီထွင်နိုင်သည့် သူတော်ကောင်း ပုဂ္ဂိုလ်များဟုလည်း လူအများက သမုတ် ထားကြ ပါသည်၊ ထိုပုဂ္ဂိုလ်ကြီးများမှာ ပူရဏကဿပ၊ မက္ခလိဂေါသာလ၊ အဇိတကေသကမ္ဗလ၊ ပကုဓကစ္စာယန၊ ဗေလဋ္ဌသဉ္စယ၊ နိဂဏ္ဌနာဋပုတ္တတို့ ဖြစ်ကြပါသည်၊ အရှင်ဂေါတမ၊ ထိုပုဂ္ဂိုလ်ခြောက်ဦးတို့သည် ‘သိသည်၊ မြင်သည်’ဟု ဝန်ခံပြောကြားကြပါသည်၊ ဝန်ခံသည့်အတိုင်း သူတို့

အားလုံး သိ-မြင်ကြပါသလား၊ အားလုံးပင် မသိ မမြင်ကြပါသလား သို့မဟုတ် အချို့က သိ-မြင်ကြပြီး အချို့က မသိ မမြင်ကြပါသလား။ ဖြေကြား ပေးတော်မူပါ အရှင်ဂေါတမ"

"ပုဏ္ဏား၊ သင်မေးလျှောက်ချက်သည် မသင့်လျော်ပေ၊ ရှိစေဦးတော့ ပုဏ္ဏား၊ သင့်အား ငါဘုရားဟောမည်၊ ကောင်းစွာ ကြားနာမှတ်သားပါလေလော့"

"ကောင်းလှပါပြီ အရှင်ဂေါတမ၊ ဟောကြားတော်မူပါ"

## အခက်အရွက်ကိုယူခြင်း

"ပုဏ္ဏား၊ ဥပမာအားဖြင့် သစ်ပင်၏ အနှစ်ကို အလိုရှိသော ယောကျ်ား တစ်ယောက်သည် အနှစ် ရှာဖွေရန်အတွက် တောသို့သွား၍ လှည့်လည် ကြည့်ရှုသည် ဆိုပါတော့၊ အို-ပုဏ္ဏား၊ သစ်ပင်၌ အခက် အရွက်၊ အပွေး၊ အခွံ၊ အခေါက်၊ အကာသား၊ အနှစ်ဟူ၍ တည်ရှိသည် မဟုတ်လော။

"အနှစ်ကို ရှာဖွေသော ထိုယောကျ်ားသည် သစ်ပင်ကြီးကို တွေ့ရှိလျှင် အခက် အရွက် တို့ကို ချိုးဖြတ်၍ ယူကာ ထွက်ခွာ သွားလေ၏၊ ထို ယောကျ်ား ပြုလုပ်ပုံများကို မြင် သိနေရသော အခြားသူတစ်ဦးက 'ဧြော်၊ သည်လူသည် သစ်ပင်၏ အနှစ်ကို မသိရှာပါကလား၊ အကာ၊ အခွံ၊ အပွေးနှင့် အခက်အရွက်တို့ကိုသည်း ခွဲခြား၍ မသိရှာပါကလား၊ ထိုသို့ မသိခြင်းကြောင့်သာလျှင် အခက် အရွက်ကို အနှစ်ဟု ထင်မှတ်ကာ ယူဆောင်သွားလေသည်တကား၊ ထိုသူသည် အနှစ်ဖြင့် ပြုလုပ်ရမည့် အရာဝတ္ထု တစ်စုံတစ်ခုမျှ ရရှိ ခံစားရမည် မဟုတ်ချေ တကား" ဟု ပြောဆိုပေရာ၏။

## အပွေးကိုယူခြင်း

"အို-ပုဏ္ဏား၊ ဒုတိယ ဥပမာကို နာကြားဦးလော့၊ အနှစ်ကို အလိုရှိ၍ ရှာဖွေသော ယောကျ်ားသည် မတော်၌ရှိသော သစ်ပင်ကြီး၏ အပွေးကို အနှစ်ဟု ထင်မှတ်ကာ လှီးဖြတ် ယူဆောင် သွားလေ၏၊ ထိုယောကျ်ား ပြုလုပ်ပုံများကို မြင် သိ နေရသော အခြားသူတစ်ဦးက 'ဧြော် သည်လူ

သည်ကား သစ်ပင်၏ အနှစ်ကို မသိလေခြင်း၊ သစ်ပင်၏ အကာ၊ အခွံ၊ အပွေးနှင့် အခက် အရွက်တို့ကိုလည်း ခွဲခြား၍ မသိလေခြင်း၊ ထိုသို့မသိခြင်းကြောင့်သာလျှင် အပွေးကို အနှစ်ဟု ထင်မှတ်ကာ ယူဆောင်သွားခြင်းပေ တကား၊ ထိုသူသည် အနှစ်ဖြင့် ပြုလုပ်ရမည့် အရာဝတ္ထု တစ်စုံတစ်ခုကိုမျှ ရရှိခံစားရမည် မဟုတ်ချေတကား’ဟု ပြောဆိုပေရာ၏။

## အခွံကို ယူခြင်း

“အို ပုဏ္ဏား၊ တတိယ ဥပမာကို နာကြားဦးလော့၊ အနှစ်ကို အလိုရှိ၍ ရှာဖွေသော ယောကျ်ားသည် တောင်၌ ရှိသော သစ်ပင်ကြီး၏ အခွံကို အနှစ်ဟု ထင်မှတ်ကာ ခွာ၍ယူဆောင်သွားလေ၏၊ ထိုယောကျ်ားပြုလုပ်ပုံများကို မြင်သိနေရသော အခြားသူတစ်ဦးက ‘ဩော်-သည်လူ့မျာမှာ သစ်ပင်၏ အနှစ်ကို မသိရှာပါကလား၊ သစ်ပင်၏ အကာ၊ အခွံ၊ အပွေးနှင့် အခက် အရွက်တို့ကိုလည်း ခွဲခြား၍ မသိရှာပါကလား၊ ထိုသို့ မသိခြင်းကြောင့်သာလျှင် အခွံကို အနှစ်ဟု ထင်မှတ်ကာ ယူဆောင်သွားလေသည် တကား၊ ထိုသူသည် အနှစ်ဖြင့် ပြုလုပ်ရမည့် အရာဝတ္ထု တစ်စုံတစ်ခုမျှ ရရှိခံစားရမည် မဟုတ်ချေတကား’ဟု ပြောဆိုပေရာ၏။

## အကာကို ယူခြင်း

“အို ပုဏ္ဏား၊ စတုတ္ထဥပမာကို နာကြားဦးလော့၊ အနှစ်ကို အလိုရှိ၍ ရှာဖွေသော ယောကျ်ားသည် တောင်၌ရှိသော သစ်ပင်ကြီး၏ အကာကို အနှစ်ဟု ထင်မှတ်ကာ ခုတ်ဖြတ် ယူဆောင်သွားလေ၏၊ ထိုယောကျ်ား ပြုလုပ်ပုံများကို မြင် သိနေရသော အခြားသူတစ်ဦးက ‘ဩော် သည်သူတား သစ်ပင်၏ အနှစ်ကို မသိရှာလေ၊ သစ်ပင်၏ အကာ၊ အခွံ၊ အပွေးနှင့် အခက် အရွက်တို့ကိုလည်း ခွဲခြား၍ မသိရှာပေ၊ ထိုသို့ မသိခြင်းကြောင့်သာလျှင် အကာကို အနှစ်ဟု ထင်မှတ်ကာ ယူဆောင်သွားလေသည် တကား၊ ထိုသူသည် အနှစ်ဖြင့် ပြုလုပ်ရမည့် အရာဝတ္ထု တစ်စုံတစ်ခုကိုမျှ ရရှိခံစားရမည် မဟုတ်ချေတကား’ဟု ပြောဆိုပေရာ၏။

## အနှစ်ကို ယူခြင်း

“အို ပုဏ္ဏား၊ ပဉ္စမ ဥပမာကို နာကြားဦးလော့၊ အနှစ်ကို အလိုရှိ၍ အနှစ်ရှာဖွေသော ယောကျ်ားသည် တောင်၌ ရှိသော သစ်ပင်ကြီး၏

အနှစ်ကိုသာလျှင် ခုတ်ဖြတ် ယူဆောင်သွားလေ၏၊ ထိုယောကျ်ားပြုလုပ်ပုံများကို မြင် သိနေရသော အခြားသူတစ်ဦးက 'အင်း-ဤသူသည် သစ်ပင်၏အနှစ်ကို သိသူပါတကား၊ သစ်ပင်၏ အကာ၊ အခွံ၊ အပွေးနှင့် အခက်အရွက်တို့ကိုလည်း ခွဲခြား၍ သိသူပါတကား၊ ထိုသို့သိခြင်းကြောင့် သာလျှင် အနှစ်ကို ခုတ်ဖြတ်ယူဆောင်သွားလေပြီ တကား၊ ထိုသူသည် အနှစ်ဖြင့် ပြုလုပ်ရမည့် အကျိုးကျေးဇူးကိုလည်း ရရှိ ခံစားရပေတော့မည် တကား'ဟု ပြောဆိုရာပေ၏။

''အို ပုဏ္ဏား၊ ဤသည်တို့မှာ သင် သိသာရန် ဥပမာ စကားရပ်တို့သာ ဖြစ်ပေ၏၊ ထိုဥပမာတို့၏ အနက်သဘောကိုလည်း နာကြားပေဦးလော့''

''ကောင်းလှပါပြီ အရှင်ဂေါတမ၊ ဆက်လက်၍ ဟောကြားတော်မူပါ၊ အကျွန်ုပ် ဝမ်းမြောက် ဝမ်းသာ နာကြားလိုပါသည်''

## အကျော်အစော

''အချင်း ပုဏ္ဏား၊ ဤသာသနာတော်၌ အချို့သော ပုဂ္ဂိုလ်သည် 'ပဋိသန္ဓေ နေရခြင်း၊ အိုရခြင်း၊ နာရခြင်း၊ သေရခြင်း၊ ပူဆွေး ငိုကြွေးရခြင်း အစရှိသော ဆင်းရဲပင်ပန်းမှုတို့၏ ဖိစီး နှိပ်စက်ခြင်းကို ခံနေရသည်'ဟု ဆင်ခြင်မိ၍ ထိုဘိုဘဝ ဒုက္ခတို့မှ လွတ်မြောက်ရန် အကျင့်သည် ထင်ရှားရှိပေလိမ့်မည် ဟူသော ယုံကြည်ချက်ဖြင့် လူ့ဘောင်မှ ရဟန်းဘောင်သို့ ကူးပြောင်း၏။

''ထို့နောက် ထိုရဟန်းသည် လာဘ်လာဘ အကျော်အစောကို ရရှိ၏ ထိုသို့ လာဘ်လာဘ ပေါများခြင်း၊ ထင်ပေါ် ကျော်ကြားခြင်း၌ နှစ်သိမ့် ကျေနပ်၍ နေ၏၊ ထို့ပြင် ထိုရဟန်းသည် 'ငါသာလျှင် လာဘ်ရှင်၍ ထင်ပေါ်လေသည် တကား၊ အခြား ရဟန်းတို့မှာမူ ငါကဲ့သို့ လာဘ်မရှင် မထင်ပေါ်သည်သာတကား'ဟု မိမိကို မြှောက်တင်၍ သူတစ်ပါးကို နှိမ့်ချ၏၊ လာဘ်ရပါ၍ ထင်ပေါ်ခြင်းထက် သာလွန်၍ မြင့်မြတ်သောတရားတို့ကို ရှာဖွေလိုလားခြင်းလည်း မရှိပေ၊ အားထုတ် ပွားများခြင်းလည်း မပြု၊ အဆုံးအမကိုလည်း အရေးထား၊ လေးစားခြင်း မရှိပေ။

"အချင်း ပုဏ္ဏား၊ ဤရဟန်းမျိုးအတွက် ပထမ ဥပမာကို ငါ ဟောကြား၏၊ အနှစ်ကို ရှာဖွေပါလျက် အခက် အရွက်ကိုသာ အနှစ် ထင်ပြီး ယူဆောင်သွားသူ ကဲ့သို့တည်း။

## အကျင့်သီလ

"အချင်း ပုဏ္ဏား၊ ဤ သာသနာတော်၌ အချို့သော ပုဂ္ဂိုလ်သည် 'ပဋိသန္ဓေနေရခြင်း၊ အိုရ နာရ သေရခြင်း၊ ပူဆွေး ငိုကြွေးရခြင်း အစ ရှိသော ဆင်းရဲ ပင်ပန်းမှုတို့၏ ဖိစီး နှိပ်စက်ခြင်းကို ခံနေရသည်' ဟု ဆင်ခြင်မိ၍ ထိုထိုဒုက္ခတို့မှ လွတ်မြောက်ရန် အကျိုးသည် ထင်ရှား ရှိပေလိမ့်မည် ဟူသော ယုံကြည်ချက်ဖြင့် လူ့ဘောင်မှ ရဟန်းဘောင်သို့ ကူးပြောင်း၏၊

"ထို့နောက် ထိုရဟန်းသည် လာဘ်လာဘ အကျော် အစောကို ရရှိ၏၊ သို့သော် ထိုရဟန်းသည် လာဘ်လာဘ အကျော် အစော၌ နှစ်သိမ့် ကျေနပ်၍မနေ၊ လာဘ်လာဘ အကျော်အစောဖြင့် မိမိကိုယ်ကို လည်း မမြှင့်တင်၊ အခြားသော ရဟန်းများကိုလည်း မနှိမ့်ချ၊ ထိုလာဘ် လာဘ အကျော်အစောထက် သာလွန်၍ မြင့်မြတ်သော တရားတို့ကို ရှေးရှု လိုလား၏၊ အားထုတ် ပွားများခြင်းလည်း ပြု၏၊ အဆုံးအမကို လည်း အရေးထား လေးစား၏၊ ထိုရဟန်းသည် အကျင့်သီလနှင့်ပြည့်စုံ သူပေတည်း။

"ထိုရဟန်းသည် အကျင့် သီလနှင့် ပြည့်စုံခြင်း၌ နှစ်သိမ့် ကျေနပ်၍ နေ၏၊ 'ငါသည် အကျင့် သီလနှင့် ပြည့်စုံသူ ဖြစ်၏၊ ကောင်းသော သဘော တရား ရှိသူဖြစ်၏၊ အခြားသော ရဟန်းများသည် အကျင့် သီလနှင့် မပြည့်စုံ၊ ယုတ်ညံ့သော သဘောတရား ရှိသူများဖြစ်၏' ဟု မိမိကိုယ်ကို မြှင့်တင်၍ အခြားသော ရဟန်းများအား နှိမ့်ချ၏၊ အကျင့် သီလနှင့် ပြည့်စုံခြင်းထက် သာလွန် မြင့်မြတ်သော တရားတို့ကို ရှေးရှု လိုလားခြင်းမရှိ၊ အားထုတ် ပွားများခြင်းလည်း မပြု၊ အဆုံးအမတို့ ကိုလည်း အရေးထား လေးစားခြင်း မရှိပေ။

"အချင်း ပုဏ္ဏား၊ ထိုသို့သော ရဟန်းမျိုးအတွက် ဒုတိယ ဥပမာကို ငါဟောကြား၏၊ အနှစ်ကို ရှာဖွေပါလျက် အပွေးကို အနှစ်ဟု ထင် မှတ်ပြီး ယူဆောင်သွားသူ ကဲ့သို့တည်း။

## သမာဓိ

"အချင်းပုဏ္ဏား၊ ဤ သာသနာတော်၌ အချို့သော ပုဂ္ဂိုလ်သည် 'ပဋိသန္ဓေ နေရခြင်း၊ အိုရ-နာရ-သေရခြင်း၊ ပူဆွေး-ငိုကြွေးရခြင်း အစ ရှိသော ဆင်းရဲ ပင်ပန်းမှုတို့၏ ဖိစီး နှိပ်စက်ခြင်းကို ခံနေရသည်' ဟု ဆင်ခြင်မိ၍ ထိုထိုဘဝ ဒုက္ခတို့မှ လွတ်မြောက်ရန် အကျင့်သည် ထင်ရှား ရှိပေလိမ့်မည် ဟူသော ယုံကြည်ချက်ဖြင့် လူ့ဘောင်မှ ရဟန်းဘောင်သို့ ကူးပြောင်း၏။

"ထို့နောက် ထိုရဟန်းသည် လာဘ်လာဘ အကျော်အစောကို ရရှိ၏၊ သို့သော် ထိုရဟန်းသည် လာဘ်လာဘ အကျော်အစော၌ နှစ်သိမ့် ကျေနပ်၍ မနေ၊ လာဘ်လာဘ အကျော်အစောဖြင့် မိမိကိုယ်ကိုလည်း မမြှင့်တင်၊ အခြားသော ရဟန်းများကိုလည်း မနှိမ့်ချ၊ ထို လာဘ် လာဘ အကျော်အစောထက် သာလွန်၍ မြင့်မြတ်သော တရားတို့ကို ရှေးရှု လိုလား၏၊ အားထုတ်ပွားများခြင်းလည်း ပြု၏၊ အဆုံးအမ ကိုလည်း အလေးထား လေးစား၏၊ ထို ရဟန်းသည် အကျင့်သီလနှင့် ပြည့်စုံသူပေတည်း။

"ထိုရဟန်းသည် အကျင့်သီလနှင့် ပြည့်စုံခြင်း၌ နှစ်သိမ့်ကျေနပ်၍ မနေ၊ အကျင့် သီလနှင့် ပြည့်စုံခြင်းဖြင့် မိမိကိုယ်ကိုလည်း မမြှင့်တင်၊ အခြားသော ရဟန်းတို့အားလည်း မနှိမ့်ချ၊ အကျင့်သီလနှင့် ပြည့်စုံ ခြင်းထက် သာလွန်၍ မြင့်မြတ်သော တရားတို့ကိုလည်း ရှေးရှုလိုလား၏၊ အားထုတ် ပွားများခြင်းလည်း ပြု၏၊ အဆုံးအမကိုလည်း အလေးထား လေးစားခြင်း ရှိ၏၊ ထိုရဟန်းသည် တည်ကြည်မှု သမာဓိနှင့် ပြည့်စုံ သူပေတည်း။

"ထိုရဟန်းသည် တည်ကြည်မှု သမာဓိနှင့် ပြည့်စုံခြင်း၌ နှစ်သိမ့် ကျေနပ်၍ နေ၏၊ 'ငါသည် တည်ကြည်မှု သမာဓိနှင့် ပြည့်စုံသူဖြစ်၏၊ အာရုံ တစ်ခုတည်း၌ တည်သော စိတ် ရှိသူဖြစ်၏၊ အခြားသော ရဟန်း တို့ကား တည်ကြည်မှု သမာဓိ မရှိကြ၊ တုန်လှုပ် ပျံ့လွင့်သော စိတ် ရှိ ကြ၏' ဟု မိမိကိုယ်ကို မြှင့်တင်၍ အခြားသော ရဟန်းတို့အား နှိမ့်ချ၏၊ တည်ကြည်မှု သမာဓိနှင့် ပြည့်စုံခြင်းထက် သာလွန်၍ မြင့်မြတ်သော တရား တို့ကိုလည်း ရှေးရှု လိုလားခြင်း မရှိပေ၊ အားထုတ်ပွားများ ခြင်းလည်းမပြု၊ အဆုံးအမကိုလည်း အလေးထား လေးစားခြင်း မရှိပေ။

"အချင်း ပုဏ္ဏား၊ ဤသို့သော ရဟန်းမျိုးအတွက် တတိယဥပမာကို ငါ ဟောကြား၏၊ အနှစ်ကို ရှာဖွေပါလျက် အခွံကို အနှစ်ဟု ထင်မှတ်ပြီး ယူဆောင်သွားသူကဲ့သို့တည်း။

## ဒိဋ္ဌစက္ခု၊

"အချင်း ပုဏ္ဏား၊ ဤသာသနာတော်၌ အချို့သောပုဂ္ဂိုလ်သည် 'ပဋိသန္ဓေ နေရခြင်း၊ အိုရ နာရ သေရခြင်း၊ ပူဆွေး ငိုကြွေးရခြင်း၊ အစရှိသော ဆင်းရဲ ပင်ပန်းမှုတို့၏ ဖိစီး နှိပ်စက်ခြင်းကို ခံနေရသည်' ဟု ဆင်ခြင်မိ၍ ထိုထို ဘဝ ဒုက္ခတို့မှ လွတ်မြောက်ရန် အကျင့်သည် ထင်ရှား ရှိပေလိမ့်မည် ဟူသော ယုံကြည်ချက်ဖြင့် လူ့ဘောင်မှ ရဟန်းဘောင်သို့ ကူးပြောင်း၏။

"ထို့နောက် ထိုရဟန်းသည် လာဘ်လာဘ အကျော်အစောကို ရရှိ၏၊ သို့သော် ထိုရဟန်းသည် လာဘ်လာဘ အကျော် အစော၌ နှစ်သိမ့် ကျေနပ်၍ မနေ၊ ထို လာဘ်လာဘ အကျော်အစောဖြင့် မိမိကိုယ်ကိုလည်း မမြှင့်တင်၊ အခြားသော ရဟန်းတို့အားလည်း မနှိမ့်ချ၊ ထိုလာဘ်လာဘ အကျော်အစောထက် သာလွန်၍ မြင့်မြတ်သော တရားတို့ကိုလည်း ရှေးရှု လိုလား၏၊ အားထုတ် ပွားများခြင်းလည်း ပြု၏၊ အဆုံးအမကိုလည်း အရေးထား လေးစားခြင်း ရှိ၏၊ ထိုရဟန်းသည် အကျင့်သီလနှင့် ပြည့်စုံသူပေတည်း။

"ထိုရဟန်းသည် အကျင့် သီလနှင့် ပြည့်စုံခြင်း၌ နှစ်သိမ့် ကျေနပ်၍ မနေ၊ အကျင့် သီလနှင့် ပြည့်စုံခြင်းဖြင့် မိမိကိုယ်ကိုလည်း မမြှင့်တင်၊ အခြားသော ရဟန်းတို့အားလည်း မနှိမ့်ချ၊ အကျင့် သီလနှင့် ပြည့်စုံခြင်းထက် သာလွန်၍ မြင့်မြတ်သော တရား တို့ကို ရှေးရှု လိုလား၏၊ အားထုတ်ပွားများခြင်းလည်း ပြု၏၊ အဆုံးအမကိုလည်း အရေးထား လေးစားခြင်း ရှိ၏၊ ထိုရဟန်းသည် တည်ကြည်မှု သမာဓိနှင့် ပြည့်စုံသူပေတည်း။

"ထိုရဟန်းသည် တည်ကြည်မှု သမာဓိနှင့် ပြည့်စုံခြင်း၌ နှစ်သိမ့် ကျေနပ်၍ မနေ၊ တည်ကြည်မှု သမာဓိနှင့် ပြည့်စုံရခြင်းဖြင့် မိမိကိုယ်ကိုလည်း မမြှင့်တင်၊ အခြားသော ရဟန်းတို့အားလည်း မနှိမ့်ချ၊ တည်ကြည်မှု သမာဓိနှင့် ပြည့်စုံခြင်းထက် သာလွန်၍ မြင့်မြတ်သော

တရား တို့ကိုလည်း ရှေးရှု လိုလား၏၊ အားထုတ် ပွားများခြင်းလည်း ပြု၏၊ အဆုံးအမကိုလည်း အရေးထား လေးစားခြင်း ရှိ၏၊ ထိုရဟန်း သည် ဒိဗ္ဗစက္ခု ဉာဏ်အမြင်ကို ရရှိလေ၏။

"ထိုရဟန်းသည် ဒိဗ္ဗစက္ခုဉာဏ်အမြင်ကို ရရှိခြင်း၌ နှစ်သိမ့်ကျေနပ်၍ နေ၏၊ 'ငါသည် သိမြင်လျက်နေ၏၊ အခြားသော ရဟန်းတို့ကား ငါ ကဲ့သို့ သိမြင်လျက်မနေ၊ ဒိဗ္ဗစက္ခုဉာဏ်အမြင်ကို မရရှိကြ' ဟု မိမိကိုယ်ကို လည်း မြှောက်တင်၏၊ အခြားသော ရဟန်းတို့အားလည်း နှိမ့်ချ၏၊ ဒိဗ္ဗစက္ခု ဉာဏ်အမြင်ထက် သာလွန်၍ မြင့်မြတ်သော တရားတို့ကိုလည်း ရှေးရှု လိုလားခြင်းမရှိ၊ အားထုတ် ပွားများခြင်းလည်း မပြု၊ အဆုံးအမကို လည်း အရေးထား လေးစားခြင်း မရှိပေ။

"အချင်း ပုဏ္ဏား၊ ဤသို့ သဘောရှိသော ရဟန်းမျိုးအတွက် စတုတ္ထ ဥပမာကို ငါ ဟောကြား၏၊ အနှစ်ကို ရှာဖွေပါလျက် အကာကို အနှစ် ဟု ထင်မှတ်ပြီး ယူဆောင်သွားသူကဲ့သို့တည်း။

## နိဂုံး

"အချင်း ပုဏ္ဏား၊ ဤသာသနာတော်၌ အချို့သော ပုဂ္ဂိုလ်သည် 'ပဋိသန္ဓေနေရခြင်း၊ အိုရ နာရ သေရခြင်း၊ ပူဆွေး ငိုကြွေးရခြင်းအစ ရှိသော ဆင်းရဲပင်ပန်းမှုတို့၏ ဖိစီးနှိပ်စက်ခြင်းကို ခံနေရသည်' ဟု ဆင်ခြင် မိသဖြင့် ထိုထို ဘဝဒုက္ခတို့မှ လွတ်မြောက်ရန် အကျင့်သည် ထင်ရှားရှိပေ လိမ့်မည် ဟူသော ယုံကြည်ချက်ဖြင့် လူ့ဘောင်မှ ရဟန်းဘောင်သို့ ကူးပြောင်း၏။

"ထို့နောက် ထိုရဟန်းသည် လာဘ်လာဘ အကျော် အစောကို ရရှိ၏၊ သို့သော် ထိုရဟန်းသည် လာဘ်လာဘ အကျော် အစော၌နှစ်သိမ့် ကျေနပ်၍မနေ၊ ထိုလာဘ်လာဘ အကျော်အစောဖြင့် မိမိကိုယ်ကိုလည်း မမြှင့်တင်၊ အခြားသော ရဟန်းတို့အားလည်း မနှိမ့်ချ၊ ထိုလာဘ်လာဘ အကျော် အစောထက် သာလွန်၍ မြင့်မြတ်သော တရားတို့ကိုလည်း ရှေးရှုလိုလား၏၊ အားထုတ် ပွားများခြင်းလည်း ပြု၏၊ အဆုံးအမကို လည်း အရေးထား လေးစား၏၊ ထိုရဟန်းသည် အကျင့်သီလနှင့်ပြည့်စုံ သူပေတည်း။

"ထိုရဟန်းသည် အကျင့်သီလနှင့် ပြည့်စုံခြင်း၌ နှစ်သိမ့် ကျေနပ်၍ မနေ၊ အကျင့်သီလနှင့် ပြည့်စုံခြင်းဖြင့် မိမိကိုယ်ကိုလည်း မမြှောက်တင်၊

အခြားသော ရဟန်းတို့အားလည်း မနှိမ်ချ၊ အကျင့်သီလနှင့် ပြည့်စုံခြင်းထက် သာလွန်၍ မြင့်မြတ်သော တရားတို့ကိုလည်း ရှာရှ လိုလား၏၊ အားထုတ် ပွားများခြင်းလည်း ပြု၏၊ အဆုံးအမကိုလည်း အရေးထား လေးစား၏၊ ထိုရဟန်းသည် တည်ကြည်မှု သမာဓိနှင့် ပြည့်စုံသူပေတည်း

"ထိုရဟန်းသည် တည်ကြည်မှု သမာဓိနှင့် ပြည့်စုံခြင်း၌ နှစ်သိမ့်ကျေနပ်၍မနေ၊ တည်ကြည်မှု သမာဓိနှင့် ပြည့်စုံခြင်းဖြင့် မိမိကိုယ်ကိုလည်း မမြှင့်တင်၊ အခြားသော ရဟန်းတို့အားလည်း မနှိမ့်ချ၊ တည်ကြည်မှု သမာဓိနှင့် ပြည့်စုံခြင်းထက် သာလွန်၍ မြင့်မြတ်သော တရားတို့ကိုလည်း ရှာရှလိုလား၏၊ အားထုတ် ပွားများခြင်းလည်း ပြု၏၊ အဆုံးအမကိုလည်း အရေးထား လေးစား၏၊ ထိုရဟန်းသည် ဒိဗ္ဗစက္ခုဉာဏ်အမြင်ကို ရရှိလေ၏။

"ထိုရဟန်းသည် ဒိဗ္ဗစက္ခုဉာဏ်အမြင်ကို ရရှိခြင်း၌ နှစ်သိမ့်ကျေနပ်၍မနေ၊ ထိုဒိဗ္ဗစက္ခု ဉာဏ်အမြင်ကို ရရှိခြင်းဖြင့် မိမိကိုယ်ကိုလည်း မမြှင့်တင်၊ အခြားသော ရဟန်းတို့အားလည်း မနှိမ့်ချ၊ ဒိဗ္ဗစက္ခုဉာဏ်အမြင်ထက် သာလွန်၍ မြင့်မြတ်သော တရားတို့ကိုလည်း ရှာရှလိုလား၏၊ အားထုတ် ပွားများခြင်းလည်း ပြု၏၊ အဆုံးအမကိုလည်း အရေးထား လေးစား၏။

"အချင်း ပုဏ္ဏား၊ ဒိဗ္ဗစက္ခုဉာဏ် အမြင်ထက် သာလွန်၍ မြင့်မြတ်သော တရားဟူသည်မှာ ဤသာသနာတော်၌ ရဟန်းသည်-

"ကာမဂုဏ်၊ အကုသိုလ်တို့မှ ကင်းကွာ ဆိတ်သုဉ်း၍သာလျှင် ကြံစည်ခြင်း 'ဝိတက်'၊ သုံးသပ် ဆင်ခြင်ခြင်း 'ဝိစာရ' တို့နှင့်တကွ ဖြစ်သော-နီဝရဏ ငါးပါးတို့မှ ကင်းကွာ ဆိတ်သုဉ်းခြင်းကြောင့် ဖြစ်သော-နှစ်သိမ့်ခြင်း 'ပီတိ'၊ ချမ်းသာခြင်း 'သုခ' ရှိသော ပဌမဈာန်သို့ရောက်၍နေ၏၊ ဤတရားသည်လည်း ဒိဗ္ဗစက္ခုဉာဏ်အမြင်ထက် သာလွန်၍ မြင့်မြတ်ပေ၏။

"ထို့ပြင် ရဟန်းသည် ပဌမဈာန်ထက် သာလွန်သော ဒုတိယဈာန်သို့ ရောက်၍ နေခြင်းသည် လည်းကောင်း၊ ဒုတိယဈာန်ထက်သာလွန်သော တတိယဈာန်သို့ ရောက်၍ နေခြင်းသည် လည်းကောင်း၊ တတိယဈာန်ထက် သာလွန်သော စတုတ္ထဈာန်သို့ ရောက်၍ နေခြင်းသည်

လည်းကောင်း၊ စတုတ္ထဈာန်ထက် သာလွန်သော ပဉ္စမဈာန်သို့ ရောက်၍ နေခြင်းသည်လည်းကောင်း၊ ဒိဗ္ဗစက္ခုဉာဏ်အမြင်ထက် သာလွန်၍ မြတ်ပေ၏။

"အချင်းပုဏ္ဏား၊ ရဟန်းသည် ပဉ္စမဈာန်ဖြစ်သော နေ၀သညာနှာသညာယတနဈာန်ကို လွန်မြောက်၍ မှတ်ခြင်း၊ သိခြင်း၊ ခံစားခြင်းတို့ ချုပ်ငြိမ်းရာ နိရောဓသမာပတ်ကို ပြည့်စုံစေလျက် နေ၏၊ ထိုရဟန်းသည် အာသဝေါတရားကို ကုန်ခန်းပြီတည်း၊ ဤတရားသည် ဒိဗ္ဗစက္ခုဉာဏ် အမြင်ထက် အထူးသဖြင့် သာလွန်၍ မြင့်မြတ်သော တရားပေတည်း။

"အချင်း ပုဏ္ဏား၊ ဤသို့သော သဘောရှိသည့် ရဟန်းမျိုးအတွက် ပဉ္စမ ဥပမာကို ငါဟောကြားပေ၏၊ အနှစ်ကို ရှာဖွေလျက် အနှစ်ကို သာလျှင် ရွေးချယ်၍ ယူဆောင် သွားသူကဲ့သို့တည်း။

## ပန်းတိုင်အတွက်သာ

"အို အချင်း ပုဏ္ဏား၊ ဤသာသနာတော်သည် မည်သည့်အတွက် ဟူ၍ သိလာပြီ မဟုတ်လား၊ ပုဏ္ဏား၊ ဤသာသနာတော်သည်—

"လာဘ်သပ်ပကာ အကျော် အစော ဟူသော အကျိုးရှိမှု အတွက် မဟုတ်၊ အကျင့်သီလနှင့် ပြည့်စုံခြင်းဟူသော အကျိုးရှိမှုအတွက်မျှလည်း မဟုတ်၊ တည်ကြည်မှု သမာဓိ ဟူသော အကျိုးရှိမှု အတွက်မျှလည်း မဟုတ်၊ ဒိဗ္ဗစက္ခု ဉာဏ်အမြင် ဟူသော အကျိုးရှိမှုအတွက်မျှလည်း မဟုတ်ပေ။

"အို ပုဏ္ဏား၊ 'မပျက်စီးသော စိတ်၏ လွတ်မြောက်မှု'သည် ရှိ၏၊ ဤသာသနာတော်သည် ထို'မပျက်စီးသော စိတ် လွတ်မြောက်မှု'အတွက် သာလျှင် ဖြစ်၏၊ ထို'မပျက်စီးသော စိတ် လွတ်မြောက်မှု'သည် အနှစ် ပေတည်း၊ အဆုံးပန်းတိုင်ပေတည်း။

ပိင်္ဂလကောစ္ဆသည် ထိုတရားတော်ကို နာကြားရသဖြင့် လွန်စွာ ကျေနပ် ဝမ်းမြောက်ခြင်းဖြစ်ကာ ဥပါသကာ တပည့်အဖြစ် ခံယူလေ၏။

[မူလပဏ္ဏာသ၊ ဩပမ္မဝဂ်၊ စူဠသာရောပမသုတ်]

## ခွေးချည်တိုင်

ငုတ်တိုင်တွင် ကြိုးချည်၍ ထားသော ခွေးကို ကြည့်ပါ။ ထိုခွေးသည် အိပ်လျှင်သော်လည်းကောင်း၊ ထိုင်လျှင် သော်လည်းကောင်း၊ သွားလာ လှုပ်ရှားလျှင်သော် လည်းကောင်း ငုတ်တိုင် အနီး၌ သာလျှင် ရှိ၏။ ငုတ်တိုင်နှင့် ဝေးရာသို့ မရောက်ရှိနိုင်။ အဘယ့်ကြောင့်နည်း။



# သံယုတ္တနိကာယ်

## ရေကူးသူ

မြစ်များ ချောင်းများတွင် ရေကူးသူကို ကြည့်ပါ။ ဤဘက်ကမ်းမှ ဟိုဘက်ကမ်းသို့ ရောက်ရှိရန်အတွက် အားထုတ် ကူးခတ်လျက် ရှိနေပေလိမ့်မည်။ ထိုသူသည် ခြေဖြင့် အလှမ်းမမီအောင် ထောက်တည်ရာမရသေးသမျှ ကာလပတ်လုံး ကူးကာ ယက်ကာ အားထုတ်လျက် ရှိနေပေလိမ့်မည်။

ထောက်တည်ရာ အရပ်သို့ ရောက်ရှိလျှင်ကား ထို ရေကူးသူသည် ကူးကာ ယက်ကာဖြင့် အားထုတ်ခြင်း မပြုတော့ပေ။ တစ်ဖက်ကမ်းသို့ ရောက်ရှိရန် လှမ်းကာ လှမ်းကာသာလျှင် သွားနိုင်ပေပြီ။ ထိုသူသည် တစ်ဖက်ကမ်းသို့ ကူးမြောက်ပြီးသူမည်ပေ၏။

မစေ့အောင်းမှုကိုလေသာ၊ အညစ်အကြေးတို့ကို နှိမ်နင်းပယ်ဖျက်ပြီးသော ပုဂ္ဂိုလ်သည် ထောက်တည်ရာ ရရှိပြီးသော ရေကူးသူ ကဲ့သို့တည်း။

အားထုတ်ရန် ပြုဖွယ်ကိစ္စဟူ၍ မရှိတော့ပေ။ ထိုပုဂ္ဂိုလ်သည် မကောင်းမှု ဟူသမျှကို ပယ်ဖျက်ပြီး၊ လွတ်မြောက်ပြီးသူပင် မည်၏။ ရဟန္တာပုဂ္ဂိုလ် မြတ် ဖြစ်ပြီးသူတည်း။

[ဒေဝပုတ္တသံယုတ်၊ ဒါမလိသုတ်]

## ထောင်ချောက်မိသော သမင်

စည်းစိမ်ဥစ္စာ ကာမဂုဏ်တို့၌ လွန်စွာစွဲလမ်း၍ တပ်မက်လွန်းသူတို့သည် ထောင်ချောက် ကျော့ကွင်းကို မသိမမြင်သော သား၊ သမင်နှင့်တူကုန်၏။

အစာကို တွယ်တာ မက်မောလွန်းသဖြင့် ထောင်ချောက်ကျော့ကွင်း ကို မသိ မမြင်သော သား သမင်သည် ထောင်ချောက်ကျော့ကွင်းတွင် မိ၍ ပျက်စီးခြင်းသို့ ရောက်ရလေသည်။

စည်းစိမ် ဥစ္စာ ကာမဂုဏ်တို့၌ တွယ်တာယစ်မူး၍နေသူသည် မကောင်း မှု၌ မိမိ ကျူးလွန်နေသည်ကိုလည်း မသိ၊ သူတစ်ပါးအား ပြစ်မှားမိသည် ကိုလည်း မသိ၊ မေ့လျော့၍သာ နေ၏။

ထိုသူသည် ထောင်ချောက်မိသော သား သမင်ကဲ့သို့ ခါးသီး စပ် ရှားသော မကောင်းကျိုးကို ရရှိခံစားရမည်မှာ မလွဲပေ။

[ကောသလသံယုတ်၊ အပ္ပကသုတ်]

## အနှောင်အဖွဲ့

သာဝတ္ထိပြည်ကို ကောသလဘုရင် အုပ်ချုပ်နေသည့် အခါသမယ ဖြစ် လေသည်။

များစွာသော ရဟန်းတို့သည် နံနက်ချိန်၌ သာဝတ္ထိ မြို့တွင်းသို့ ဆွမ်းခံ လှည့်လည် ကြကုန်၏။ ထိုအခါ ရဟန်းတို့သည် ရာဇဝတ်သား များကို တွေ့မြင်ကြရလေသည်။ ကြိုးဖြင့် ချည်နှောင်ထားသူ၊ လက်

ထိတ်ဖြစ်၍ ခတ်ထားသူ၊ သံခြေကျင်း ခတ်ထားသူ စသည်ဖြစ်၍ အကျဉ်းသား များစွာကို တွေ့မြင်ကြရသည်။

ရဟန်းတို့သည် ဆွမ်းခံပြီး ဆွမ်းစားပြီးသောအခါ မြတ်စွာဘုရား ထံသို့ ချဉ်းကပ်၍ အချုပ်ခံ အကျဉ်းသားများကို တွေ့မြင်ခဲ့ရကြောင်း လျှောက်ထားကြလေ၏။ ထိုအခါ မြတ်စွာဘုရားက မြွက်ကြားတော်မူ လေသည်။

"ရဟန်းတို့၊ သံဖြင့် ပြုလုပ်အပ်သော အနှောင်အဖွဲ့ကိုလည်းကောင်း၊ သစ်သား တို့ဖြင့် ပြုလုပ် အပ်သော အနှောင် အဖွဲ့ကို လည်းကောင်း၊ ချည်ကြိုး လျှော်ကြိုးတို့ဖြင့် ပြုလုပ်အပ်သော အနှောင် အဖွဲ့ကို လည်း ကောင်း 'ခိုင်မြဲသော အနှောင်အဖွဲ့' ဟူ၍ ပညာရှိတို့ မဆိုကုန်။

"ရွှေ ငွေ စိန် ကျောက်၊ နားတောင်း၊ လည်ဆွဲ စသည်တို့၌ လည်းကောင်း၊ သား သမီး ဇနီး ခင်ပွန်းစသည်တို့၌ လည်းကောင်း အလွန်အမင်း တပ်မက်ခြင်း ငဲ့ကွက်ခြင်းသည် ရှိ၏၊ ထို လျော့ရဲသော၊ ဖြေရန်ခက်သော ငဲ့ကွက်ခြင်းကိုသာလျှင် 'ခိုင်မြဲသော အနှောင်အဖွဲ့' ဟူ၍ ပညာရှိတို့ ဆိုကုန်၏၊ ပညာရှိတို့သည် ထို အနှောင်အဖွဲ့ကို ဖြတ် တောက်၍ လွတ်အောင် ရုန်းကြ၏၊ ထွက်မြောက်ကြကုန်၏"

[=ဗန္ဓနသုတ်]

## ရေကန်ကြီး နှစ်ကန်

လူမရှိသော အရပ်၌ ရေကန်ကြီးတစ်ကန်ရှိ၏။ ထို ရေကန်ကြီး၌ သန့်ရှင်း ကြည်လင်သော ရေလည်း ရှိသည်။ ဘေးပတ်ဝန်းကျင်တွင် သစ်ပင် ပန်းပင်များလည်း ကြည်နူးဖွယ်ရာ ပေါက်ရောက်လျက် ရှိသည်။ နှလုံး မွေ့လျော် ပျော်ရွှင်ဖွယ်ကောင်းသော ရေကန်ကြီးပေတည်း။

လူ အပေါင်းတို့သည် ထို ရေကန်ကြီး၏ ရေကို ခပ်မယူကြရကုန်။ သောက်ခြင်း၊ ချိုးခြင်း၊ သုံးဆောင်ခြင်း မပြုကြရကုန်။ သို့ဖြစ်လျက် ထို ရေကန်ကြီး၏ ရေတို့သည် အချည်းနှီး ခန်းခြောက်ရသည်သာတည်း။

မြို့ရွာ လူနေနှင့် နီးသော အရပ်၌ အလားတူ ရေကန်ကြီးတစ်ကန် ရှိနေလေ၏။ လူအပေါင်းတို့သည် ထိုရေကန်ကြီး၏ ရေတို့ကို ခပ်ယူကြလေသည်။ သောက်ခြင်း၊ ချိုးခြင်း၊ သုံးဆောင်ခြင်း ပြုကြလေသည်။ ရေတို့သည် အကျိုးမဲ့ ခန်းခြောက်ခြင်း မရှိကြကုန်။

ပညာမရှိသော လူမိုက်တို့၌ ပစ္စည်းဥစ္စာများစွာ ကြွယ်ဝသော်လည်း အချည်းနှီး ဖြစ်၏။ မိမိသည်း အကျိုးမရှိ။ ကောင်းသော အသုံးပြုခြင်းဖြင့် မသုံးဆောင်တတ်။ မိဘ ဆွေမျိုး မိတ်ဆွေများ အတွက်လည်းကောင်း၊ အခြား လူသူအပေါင်းတို့အတွက် လည်းကောင်း အကျိုး မရှိပေ။ ကောင်းသော အသုံးပြုခြင်းဖြင့် သုံးဆောင်ခြင်းသို့ မရောက်ဘဲ ပျက်စီးဆုံးရှုံးရသည်သာတည်း။

အသိပညာ ရှိသော သူတော်ကောင်းတို့၌ ပစ္စည်း ဥစ္စာ ကြွယ်ဝလျှင်ကား မိမိအတွက်လည်း အကျိုးရှိ၏။ ကောင်းသောအသုံးပြုခြင်းဖြင့် သုံးဆောင်လေ၏။ မိဘ ဆွေမျိုး မိတ်ဆွေတို့အတွက် လည်းကောင်း၊ အများသူငါ လူအပေါင်းတို့အတွက်လည်းကောင်း အကျိုးရှိ၏။ ကောင်းမြတ်သော အသုံးပြုခြင်းဖြင့် သုံးဆောင်ခြင်းသို့ ရောက်လေသတည်း။

[—ပထမ အပုတ္တကသုတ်]

## အမှောင် အလင်း အဆင်း အတက်

ဤလောက၌ ပုဂ္ဂိုလ်လေးမျိုး ရှိ၏။ အမှောင်မှ လာ၍ အမှောင်သို့ သွားသူ၊ အမှောင်မှ လာ၍ အလင်းသို့ သွားသူ၊ အလင်းမှ လာ၍ အမှောင်သို့ သွားသူ၊ အလင်းမှလာ၍ အလင်းသို့သွားသူ၊ ဤလေးမျိုးတို့ ပေတည်း။

အချို့သော သူသည် ဘဝ ရပ်တည်မှု နိမ့်ကျလျက် ဆင်းရဲပင်ပန်းလှ၏။ စားဝတ်နေရေး၊ လူမှုရေးတို့၌ ချို့တဲ့ခေါင်းပါးလှ၏။ အသက်မွေးဝမ်းကျောင်း လုပ်ငန်းမှာလည်း ပင်ပန်းကြီးစွာ ရှာဖွေလုပ်ကိုင်ရ၏။ ပစ္စည်းဥစ္စာဟူ၍ လက်ညှိုးထိုးပြစရာပင်မရှိ။ ရုပ်ရေ ရူပကာယမှာလည်း လှပတင့်တယ်ခြင်း မရှိ။ လူတကာ၏ မနှစ်သက်ဖွယ်ရာသော ကိုယ်အင်္ဂါ မျက်နှာနှင့်တကွ ရှုချင်ဖွယ်ရာ မရှိသော ဟန်ပန် အမူအရာတို့သာလျှင် ရှိကုန်၏။

ထိုသူသည် စိတ်ဖြင့် မကောင်းမှုတို့ကို ကြံစည်တွေးတော၏။ နှုတ်ဖြင့် မမှန်မကန်သည်တို့ကို ပြောဆို၏။ ကိုယ်ဖြင့်မကောင်းသော အကျင့်တို့ကို ပြုမူ လုပ်ဆောင်၏။

ထိုသူမျိုးသည် အမှောင်မှ လာ၍ အမှောင်သို့ သွားသူမည်၏။ အညစ်အကြေးရှိရာမှ အညစ်အကြေး ရှိရာသို့ သွားသူနှင့် တူလေ၏။

*　　*　　*

အချို့သော သူသည် ဘဝ ရပ်တည်မှု နိမ့်ကျလျက် ဆင်းရဲ ပင်ပန်းလှ၏။ စား ဝတ်နေရေး၊ လူမှုရေးတို့၌ ချို့တဲ့ခေါင်းပါးလှ၏။ သက်မွေးဝမ်းကျောင်း လုပ်ငန်းမှာလည်း ပင်ပန်းကြီးစွာ ရှာဖွေ လုပ်ကိုင်ရ၏။ ပစ္စည်း ဥစ္စာဟူ၍ လက်ညှိုးထိုးပြစရာပင် မရှိ။ ရုပ်ရေရူပကာယမှာလည်း လှပ တင့်တယ်ခြင်းမရှိ။ လူတကာ၏ မနှစ်သက်ဖွယ်ရာသော ကိုယ်အင်္ဂါမျက်နှာနှင့်တကွ ရှုချင်ဖွယ်ရာမရှိသော ဟန်ပန် အမူအရာတို့ သာလျှင် ရှိကုန်၏။

ထိုသူသည် စိတ်ဖြင့် အပြစ်မရှိသော ကောင်းမှုတို့ကို ကြံစည် တွေးတော၏။ နှုတ်ဖြင့် မှန်ကန်သည်တို့ကို ပြောဆို၏။ ကိုယ်ဖြင့် ကောင်းသော အကျင့်တို့ကို ပြုမူ လုပ်ဆောင်၏။

ထိုသူမျိုးသည် အမှောင်မှ လာ၍ အလင်းသို့ သွားသူ မည်၏။

မြေပြင်မှ ပလ္လင်သို့ တက်ရာသကဲ့သို့၊ ပလ္လင်မှ မြင်းပေါ်သို့ တက်ရာသကဲ့သို့၊ မြင်းပေါ်မှ ဆင်ပေါ်သို့၊ တက်ရာသကဲ့သို့၊ ဆင်ပေါ်မှ ပြာသာဒ်ပေါ်သို့ တက်ရာသကဲ့သို့ ထိုသူ၏ ဘဝရပ်တည်မှုသည် အဆင့်ဆင့် မြင့်လာနိုင်သည်သာတည်း။

*　　*　　*

အချို့သော သူသည် ဘဝ ရပ်တည်မှု အဆင့်အတန်း မြင့်၍ ချမ်းသာကြွယ်ဝ၏။ စား ဝတ်နေရေး၊ လူမှုရေးတို့၌ ပြည့်စုံ ပေါများလှ၏။ အသက်မွေးဝမ်းကျောင်း လုပ်ငန်းမှာလည်း သက်သက်သာသာ လုပ်ကိုင်ရ၏။ ပစ္စည်းဥစ္စာ ရတနာများ သုံး၍ မကုန်နိုင်လောက်အောင် ရှိ၏။ အဆင်းရူပသည် လှပ တင့်တယ် ရှုချင်ဖွယ် ရှိ၏။ အများ သူငါ နှစ်လိုဖွယ်ရာသော ကိုယ်အင်္ဂါမျက်နှာ အမူအရာနှင့် ပြည့်စုံပေ၏။

ထိုသူသည် စိတ်ဖြင့် မကောင်းမှုကို ကြံစည် တွေးတော၏။ နှုတ်ဖြင့် မမှန်ကန်သည်တို့ကို ပြောဆို၏။ ကိုယ်ဖြင့် မကောင်းသော အကျင့်တို့ကို ပြုမူ လုပ်ဆောင်၏။

ထိုသူသည် အလင်းမှ လာ၍ အမှောင်သို့ သွားသူမည်၏။

ပြာသာဒ်ထက်မှ ဆင်ကျောက်ကုန်းသို့ ဆင်းရာသကဲ့သို့၊ ဆင်ပေါ်မှ မြင်းကျောက်ကုန်းသို့ ဆင်းရာသကဲ့သို့၊ မြင်းပေါ်မှ ပလ္လင်သို့ ဆင်းရာသကဲ့သို့၊ ပလ္လင်ပေါ်မှ မြေပြင်သို့ ဆင်းရာသကဲ့သို့ ထိုသူ၏ ဘဝရပ်တည်မှုသည် အဆင့်ဆင့် နိမ့်ကျ၍ ပျက်စီးနိုင်သာတည်း။

* * *

အချို့သောသူသည် ဘဝရပ်တည်မှု အဆင့်အတန်း မြင့်၍ ချမ်းသာကြွယ်ဝ၏။ စားဝတ် နေရေး၊ လူမှုရေးတို့၌ ပြည့်စုံ ပေါများလှ၏။ အသက်မွေး ဝမ်းကျောင်း လုပ်ငန်းမှာလည်း သက်သက်သာသာ လုပ်ကိုင်ရ၏။ ပစ္စည်း ဥစ္စာ ရတနာ ရွှေငွေမှာ သုံးစွဲ၍ မကုန်နိုင်လောက်အောင် ရှိ၏။ အဆင်းရုပ်မှာ လှပ တင့်တယ် ရှုချင်စဖွယ် ရှိ၏။ အများ သူငါ နှစ်လိုဖွယ်ရာသော ကိုယ်အင်္ဂါမျက်နှာ အမူအရာနှင့် ပြည့်စုံပေ၏။

ထိုသူသည် စိတ်ဖြင့် အပြစ်မရှိသော ကောင်းမှုတို့ကို ကြံစည် တွေးတော၏။ နှုတ်ဖြင့် မှန်ကန်သည်တို့ကိုသာ ပြောဆို၏။ ကိုယ်ဖြင့် ကောင်းသော အကျင့်ကို ပြုမူ လုပ်ဆောင်၏။

ထိုသူမျိုးသည် အလင်းမှ လာ၍ အလင်းသို့ သွားသောသူ မည်၏။

ပလ္လင်မှ အခြားပလ္လင်သို့ ပြောင်းရွှေ့ရာသကဲ့သို့၊ မြင်းပေါ်မှ အခြား မြင်းပေါ်သို့ ပြောင်းရွှေ့ရာသကဲ့သို့၊ ဆင်ပေါ်မှ အခြား ဆင်ပေါ်သို့ ပြောင်းရွှေ့ရာသကဲ့သို့၊ ပြာသာဒ်ပေါ်မှ အခြား ပြာသာဒ်ပေါ်သို့ ပြောင်းရွှေ့ရာသကဲ့သို့ ထိုသူ၏ ဘဝ ရပ်တည်မှုသည် နိမ့်ကျခြင်း မရှိနိုင်ပေ။ တိုးပွားစည်ပင်ရန်သာ ရှိပေ၏။

[-ပုဂ္ဂလသုတ်]

## မိုးထိ တောင်ကြီးများ

မြေပြင်မှသည် မိုးကောင်းကင်အထိ မြင့်မားသော ကျောက်တောင်ကြီးများသည် ထက်ဝန်းကျင်မှ အရပ်လေးမျက်နှာ မလပ် ထိစပ်လျက် သတ္တဝါ ဟူသမျှကို ကြိတ်ခြေကာ အစဉ်လိမ့်၍ လာသကဲ့သို့—

အိုခြင်းတရားနှင့် သေခြင်းတရားသည် သတ္တဝါ ဟူသမျှကို လွှမ်းမိုးနှိပ်စက်ကုန်၏။ ကြီးငယ် မဟူ၊ ဆင်းရဲ ချမ်းသာမရှောင်၊ အယုတ်အလတ် အမြတ်မရွေး၊ သတ္တဝါ အလုံးစုံကို လွှမ်းမိုးချေမှုန်း၏။ အိုခြင်း နာခြင်း သဘောကို မည်သူ တစ်ဦးတစ်ယောက်ကမျှ ဖယ်ရှားနိုင်စွမ်းမရှိပေ။ ပုန်းကွယ် ရှောင်ရှား၍လည်း မရပေ။

[ပဗ္ဗတူပမသုတ်]

## ခွေးချည်တိုင်

ငုတ်တိုင်တွင် ကြိုးချည်၍ ထားသော ခွေးကို ကြည့်ပါ။ ထို ခွေးသည် အိပ်လျှင်သော်လည်းကောင်း၊ ထိုင်လျှင်သော်လည်းကောင်း၊ သွားလာလှုပ်ရှားလျှင် သော် လည်းကောင်း ငုတ်တိုင် အနီး၌ သာလျှင် ရှိ၏။ ငုတ်တိုင်နှင့် ဝေးရာသို့ မရောက်နိုင်။ ငုတ်တိုင်၏ အနီး၌သာလျှင် လှည့်ပတ်၍ နေ၏။ ကျင်လည်ကျက်စား၍ နေ၏။ ငုတ်တိုင်တွင် ကြိုးဖြင့် ချည်နှောင်၍ ထားသောကြောင့်ပေတည်း။

ဤလောက၌ အကြားအမြင် ဆင်ခြင်ဉာဏ် နည်းသူတို့သည် စည်းစိမ်ဥစ္စာကို တွယ်တာ စွဲလမ်းလွန်းကုန်၏။ မိမိကိုယ်ကိုလည်းကောင်း၊ မိမိနှင့် ပတ်သက်သော သားသမီး၊ ဇနီး ခင်ပွန်း၊ ပစ္စည်း အိုးအိမ်၊ ရာထူး အခွင့်အလမ်း၊ ကျော်စောခြင်း စသည်ကိုလည်းကောင်း တွယ်တာ မက်မောလွန်း၏။ နှစ်သက် စွဲလမ်းလွန်း၏။

ထိုသူမျိုးသည် ငုတ်တိုင်၌ ကြိုးဖြင့် ချည်နှောင်ထားသော ခွေးကဲ့သို့တည်း။

[ခန္ဓဝဂ္ဂသံယုတ်၊ ဂဒ္ဒုလဗဒ္ဓသုတ်]

## အိုးနှင့် ကရွတ်ခွေ

ကရွတ်ခွေမရှိသော အိုးသည် တိမ်းစောင်းလွယ်၏၊ လိမ့်လွယ်၏။ ကရွတ်ခွေ ရှိသော အိုးသည် တိမ်းစောင်းနိုင်ခဲ၏။ လိမ့်နိုင်ခဲ၏။

တည်ရာ မှီရာ မရှိသော စိတ်သည် ပျံ့လွင့်လွယ်၏၊ လှုပ်ရှားပြောင်းလဲလွယ်၏။ တည်ရာ မှီရာ ရှိသော စိတ်သည် ပျံ့လွင့်နိုင်ခဲ၏။ လှုပ်ရှားပြောင်းလဲနိုင်ခဲ၏။

စိတ်၏ တည်ရာ မှီရာ ဟူသည်မှာ အဘယ်နည်း။

မှန်ကန်သောအမြင်၊ ကောင်းမြတ်သော အကြံအစည်၊ မှန်ကန်သော စကား၊ ကောင်းမြတ်သော အပြုအမူ၊ မှန်ကန်သော အသက်မွေးမှု၊ ကောင်းမြတ်သော အားထုတ်မှု၊ မှန်ကန်သော ဆင်ခြင်အောက်မေ့မှု၊ ကောင်းမြတ်သော တည်ကြည်မှု၊ ဤ အင်္ဂါရှစ်ပါးနှင့် ပြည့်စုံသော အရိယာမဂ်သည် စိတ်၏ တည်ရာ မှီရာပေတည်း။

ကရွတ်ခွေသည် အိုးကို မလိမ့်လဲ မတိမ်းစောင်းအောင် ထိန်းသကဲ့သို့ ဤမဂ္ဂင်ရှစ်ပါးသည် စိတ်ကို မပျံ့လွင့်အောင်၊ မလှုပ်ရှား မပြောင်းလဲအောင် ထိန်းနိုင်သည်သာတည်း။

[မဟာဝဂ္ဂသံယုတ်၊ ကုမ္ဘသုတ်]

## စည်းစိမ်နှင့် မစင်ပိုး

ပစ္စည်း ဥစ္စာ ပေါများခြင်း၊ ရာထူးစည်းစိမ် ကြီးမြင့်ခြင်း၊ ထင်ပေါ်ကျော်ကြားခြင်းတို့သည် ဉာဏ်ပညာ မရှိသူအဖို့ အနှောင့်အယှက်ဖြစ်၏။ အနှောင် အဖွဲ့ အပိတ် အပင် ဖြစ်၏။ မစင်ပိုးကောင်ကဲ့သို့ ဖြစ်၏။

မစင် စားသော ပိုးကောင်သည် မစင်ဖြင့် နစ်မွန်း၍ နေလေသည်။ ရှေ့၌လည်း မစင်အတိ ပြီး၏။ နောက်၌လည်းကောင်း၊ ဘေးပတ်ဝန်းကျင်၊ ထက် အောက် ဝန်းကျင်၌ လည်းကောင်း မစင် တို့ဖြင့် ဝိုင်းဝိုင်းလည်အောင် ပြည့်နှက်၍ နေ၏။

မစင်ပိုးကောင်သည် ယင်းသို့လျှင် မစင်တို့ဖြင့် ပြည့်နှက် ဝန်းရံလျက်ရှိသည်ကိုပင် ကျေနပ်အားရကာ ဝင့်ကြွားလေ၏။ "ငါ၏ ရှေ့တွင်

လည်းကောင်း၊ နောက်တွင် လည်းကောင်း၊ ဘေးပတ်ဝန်းကျင်တို့တွင် လည်းကောင်း မစင်တို့သည် အပြည့်အနှက် ရှိနေသည် တကား” ဟူ၍ မော်ကြွား ထောင်လွှားလေ၏။

ဉာဏ်ပညာ ကင်းမဲ့သူအား ပစ္စည်း ဥစ္စာ ပေါများခြင်း၊ ရာထူး စည်းစိမ် ကြီးမြင့်ခြင်း၊ ထင်ပေါ် ကျော်ကြားခြင်းသည်လည်း ထိုသူအဖို့ ဝင့်ကြွား ထောင်လွှားရန် ဖြစ်ပေ၏။

ထို့ကြောင့် ထို ပညာမရှိသူအား မစင်စားသော၊ မစင်၌မွေ့လျော်တတ်သော မစင်ပိုးနှင့် တူသည်ဟု ဆိုအပ်ပေ၏။

[နိဒါနဝဂ္ဂသံယုတ်၊ မီဠှကသုတ်]

## ရှေ့ပြေးနိမိတ်

နံနက်အခါ အရုဏ်တက်ခြင်းသည် နေထွက်ပေါ်လာမည့် ပုဗ္ဗ နိမိတ် ဖြစ်၏။ ရှေ့သွားဖြစ်၏။

မိတ်ဆွေကောင်း ရှိခြင်းသည် မဂ္ဂင် ရှစ်ပါး (အရိယာမဂ် တရား) ဖြစ်ပေါ်ရန် ပုဗ္ဗ နိမိတ် ဖြစ်၏။ ရှေ့သွားဖြစ်၏။

သီလနှင့်ပြည့်စုံခြင်းသည် လည်းကောင်း၊ သင့်လျော်သော အကြောင်းအားဖြင့် နှလုံးသွင်းမှု (ယောနိသော မနသိကာရ)နှင့် ပြည့်စုံခြင်းသည် လည်းကောင်း မဂ္ဂင်ရှစ်ပါး (အရိယာမဂ်တရား) ဖြစ်ပေါ်လာမည့် ပုဗ္ဗ နိမိတ်ဖြစ်၏။

[မဂ္ဂသံယုတ်၊ ပထမ၊ ဒုတိယ၊ သတ္တမသုတ်]

## မလွဲသော လမ်းကြောင်း

ဂင်္ဂါ၊ ယမုနာ စသော မြစ်တို့သည် မဟာသမုဒ္ဒရာသို့ ကိုင်းညွတ်ရသည် သာ ဖြစ်သကဲ့သို့ မဂ္ဂင်ရှစ်ပါး (အရိယာမဂ်)ကို ပွားများသော ပုဂ္ဂိုလ်တို့သည် နိဗ္ဗာန်သို့ ရှေးရှုသည်သာတည်း။

[–သမုဒ္ဒနိန္နသုတ်]

## ဆင်ခြေရာ

ကုန်းနေသတ္တဝါတို့၏ ခြေရာ ဟူသမျှသည် ဆင်ခြေရာ၌ အကျုံးဝင်ကုန်၏။ ဆင်ခြေရာသည် အခြား ကုန်းနေ သတ္တဝါတို့၏ ခြေရာထက် ကြီးမားသည်သာ ဖြစ်၏။

ကုသိုလ်တရား ဟူသမျှတို့သည် မမေ့လျော့ခြင်း 'အပ္ပမာဒ' တရားသာလျှင် အကြောင်းရင်း ရှိကုန်၏။

[=ပဒသုတ်]

## အိမ်အမိုး

ထုပ်၊ လျှောက်၊ ဒိုင်း၊ မြား၊ အခြင်၊ ရနယ် ဟူသမျှတို့သည် အိမ်၏ အထွတ် သို့သာ ကိုင်းညွတ် စုဝေးကြရကုန်သကဲ့သို့ ကုသိုလ်တရားဟူသမျှတို့သည် မမေ့လျော့ခြင်း 'အပ္ပမာဒ' တရားလျှင် အရင်းခံ ရှိကုန်၏။

[=ကူဋာဒိသုတ်]

## မြေကိုမှီရသော လုပ်ငန်းများ

ခွန်အားဖြင့် စီမံပြုလုပ်ရသော လုပ်ငန်းဟူသမျှသည် မြေကြီးလျှင်အရင်းခံ ဖြစ်၏။ မြေကြီးလျှင် ဆောက်တည်ရာ ဖြစ်၏။

မဂ္ဂင် ရှစ်ပါး (အရိယာမဂ်တရား) ကို ပွားများ အားထုတ်သော ပုဂ္ဂိုလ်သည် သီလလျှင် အရင်းခံရှိလေ၏။ သီလကိုမှီ၍၊ သီလ၌တည်၍ ပွားများ အားထုတ်ရသည်သာတည်း။

[=ဗလသုတ်]

## မြေ၌တည်သော သစ်ပင်များ

သစ်ပင် ဟူသမျှသည် မြေကြီးကို မှီ၍၊ မြေကြီး၌တည်၍ စည်ပင် ပြန့်ပြောခြင်းသို့ ရောက်ကုန်သကဲ့သို့ အကြင် ပုဂ္ဂိုလ်သည် သီလကို မှီ၍၊

သီလ၌ တည်၍ အရိယာမဂ်ကို ပွားများ၊ အားထုတ်လေသည် ရှိသော် ထိုပုဂ္ဂိုလ်သည် တရားတို့၌ စည်ပင် ပြန့်ပြောခြင်းသို့ ရောက်လေ၏။

[-မိဇာသုတ်]

## သွန်ပြီးသော ရေများ

ရေအိုးကို မှောက်လိုက်သော် ရေတို့သည် အန်ထွက်ကြလိမ့်မည်။ ထိုရေတို့သည် ထိုအိုးထဲသို့ တစ်ဖန် ပြန်၍ ဝင်မလာနိုင်ကြတော့ပေ။

အကြင်ပုဂ္ဂိုလ်သည် သီလ၌ တည်၍ မဂ္ဂင်ရှစ်ပါးတရားတို့ကို ပွားများ၊ အားထုတ်သည်ရှိသော် ယုတ်ညံ့သော အကုသိုလ် တရားတို့သည် ကင်းပြတ် ချုပ်ငြိမ်းသွားလေ၏။ ထိုပုဂ္ဂိုလ်အား ယုတ်ညံ့သော အကုသိုလ် တရားတို့သည် တစ်ဖန်ပြန်၍ ချဉ်းကပ် ဖွဲ့နှောင်ခြင်း မရှိတော့သည် သာတည်း။

## မြစ်ကို ပြောင်းရွှေ့၍မရ

ဂင်္ဂါမြစ်သည် အရှေ့အရပ်သို့ ကိုင်းညွတ်လျက် စီးသွားနေ၏။ လူတို့သည် ထိုဂင်္ဂါမြစ်ကို အရှေ့အရပ်သို့ မကိုင်းညွတ် မစီးဆင်းစေရန်၊ အနောက်အရပ်သို့ ကိုင်းညွတ်စီးဆင်းစေရန် ဟူ၍ အားထုတ်ကုန်ရာ၏။ ပေါက်တူးဖြင့် တူးဆွ၍ လည်းကောင်း၊ ခြင်းတောင်းတို့ဖြင့် သယ်ယူ၍ လည်းကောင်း အားထုတ် လုပ်ဆောင်ကုန်ရာ၏။

ထိုအရာကို မည်သို့ ထင်မှတ်တော်မူကြသနည်း။

ထိုလူတို့သည် အချည်းနှီးသာ ဖြစ်ကုန်ရာ၏။ ပင်ပန်း ဆင်းရဲရုံမျှသာ ရှိကုန်ရာ၏။

အကြင်ပုဂ္ဂိုလ်သည် သီလ၌ တည်လျက် မဂ္ဂင်ရှစ်ပါး၊ အရိယာမဂ်တရားတို့ကို ပွားများ၊ အားထုတ်ပြီးသည်ဖြစ်ငြားအံ့။ ထိုပုဂ္ဂိုလ်အား ပစ္စည်းဥစ္စာ ကာမဂုဏ် စည်းစိမ်တို့ဖြင့် လည်းကောင်း၊ ရာထူးအာဏာ အခွင့်အရေးတို့ဖြင့် လည်းကောင်း မပြောင်းလဲ စေနိုင်ပေ။ ဖြားယောင်း၍ မရတော့ပေ။ နှစ်သက် တပ်မက်ခြင်း ကင်းပြတ်ပြီးသည်သာတည်း။

[-နဒီသုတ်]

## လွှမ်းမိုး ဖျက်ဆီးခြင်း ဟူသည်မှာ

အနေ့ငယ်ပြီး ပင်စည်ကြီးမားသော သစ်ပင်မျိုးတို့သည် ရှိလေကုန်၏။ ၎င်းတို့ကား ညောင်ဗုဒ္ဓဟောင်၊ ညောင်ကြတ်ပင်၊ ပညောင်ပင်၊ ညောင်ချဉ်ပင်၊ ရေသဖန်းပင်၊ ခနအောင်းပင်တို့တည်း။

ထိုသစ်ပင်တို့သည် နီးစပ်ရာ အခြားသော သစ်ပင်များကို လွှမ်းမိုးတတ်ကုန်၏။ ကျိုးပြတ် ပျက်စီးအောင် ဖျက်ဆီးတတ်ကုန်၏။

ဤလောက၌ အကြင်ပုဂ္ဂိုလ်သည် နီဝရဏ ခြောက်ပါးတို့ အနက် တပါးပါး၌ ကျက်စားမိငြားအံ့၊ ထိုပုဂ္ဂိုလ်သည် ပျက်စီး ဆုံးရှုံးခြင်းသို့ မုချပင် ရောက်ရပေမည်။

နီဝရဏ ခြောက်ပါးသည် လွှမ်းမိုးတတ်၊ ပိတ်ပင် နှောင့်ဖွဲ့တတ်၊ ဖျက်ဆီးတတ်သောကြောင့်တည်း။

## ဘယ်တရားကို ရှုမြင်မလဲ

ဤလောက၌ တရားအားထုတ်သော ပုဂ္ဂိုလ်သည် မိမိ ရှုမှတ် ဆင်ခြင်သော တရားသည် မိမိ၌ ဖြစ်ပေါ်လျက် ရှိသော စိတ်အစဉ်နှင့် ကိုက်ညီ ဟပ်စပ်မှု ရှိသည် မရှိသည်ကို သိမြင်ထားရန် လိုပေ၏။ ကိုက်ညီ ဟပ်စပ်မှု ရှိမှသာလျှင် တရားအားထုတ်ရကျိုး နပ်ပေသည်။ သို့မဟုတ်ပါက ပင်ပန်းရုံမျှသာ ရှိပေမည်။ ထို့ထက် မကိုက်ညီ မဟပ်စပ်သော အားထုတ်မှုကြောင့် မလိုလားအပ်သော အကျိုးတရားလည်း ဖြစ်ပေါ်လာပေလိမ့်ဦးမည်။

အကြင်ပုဂ္ဂိုလ်သည် စိတ်၌ တွန့်တို ဆုတ်နစ်မှု ဖြစ်ပေါ်နေသည် ဖြစ်အံ့၊ ထိုပုဂ္ဂိုလ်သည် ပဿဒ္ဓိသမ္ဗောဇ္ဈင်၊ သမာဓိသမ္ဗောဇ္ဈင်၊ ဥပေက္ခာသမ္ဗောဇ္ဈင်တို့ကို ရှုမှတ် ပွားများရန် အခါမဟုတ်ပေ။

စိတ်၌ တွန့်တို ဆုတ်နစ်မှု ဖြစ်ပေါ်နေသည့်အခါ ထိုဗောဇ္ဈင် သုံးပါးမှ တပါးပါးကို လည်းကောင်း၊ သုံးပါးလုံးကိုလည်းကောင်း ပွားများ အားထုတ်ငြားအံ့၊ မှန်ကန်သော အားထုတ်ခြင်း မဟုတ်ပေ။ ဥပမာအားဖြင့်—

## မီးမွှေးခြင်း နှစ်မျိုး

မီး အရှိန် မရှိဘဲ ငြိမ်သက်နေသော မီးပုံကို မီးတောက်စေလိုသူသည် ထိုမီးပုံထဲသို့ မြက်စိုများ၊ ထင်းစိုများ၊ မြေမှုန့်များထည့်၍ ရေပါသော လေဖြင့် မှုတ်ပေးသကဲ့သို့တည်း။ မီးကား တောက်မလာပေရာ။ မီးငြိမ်းသွားရန်သာ ရှိသည် မဟုတ်ပါလော၊

စိတ်၌ တွန့်တို ဆုတ်နစ်မှု ဖြစ်ပေါ်နေသော သူသည် ဓမ္မဝိစယ သမ္ဗောဇ္ဈင်ကို ပွားများရပေမည်။ ဝီရိယ သမ္ဗောဇ္ဈင်ကို သော်လည်း ပွားများရပေမည်။ ပီတိသမ္ဗောဇ္ဈင်ကို သော်လည်း ပွားများရပေမည်။

ဤသို့ ပွားများအားထုတ်သည် ရှိသော် စိတ်၌ တွန့်တို ဆုတ်နစ်မှု ကင်းပျောက်လျက် လိုအပ်သော အကျိုးတရား ဖြစ်ပေါ်လာမည်သာ တည်း။ ဥပမာအားဖြင့်—

ငြိမ်သက်လျက် ရှိသော မီးပုံကို မီးလျှံ တောက်စေလိုသူသည် မြက်ခြောက်ကို ထည့်၍၊ ထင်းခြောက်ကို ထည့်၍ ရေမပါသော လေဖြင့် မှုတ်ပေးသကဲ့သို့တည်း။

## မီးငြိမ်းခြင်း နှစ်မျိုး

အကြင်ပုဂ္ဂိုလ်သည် စိတ်၌ မတည်ငြိမ် ပျံ့လွင့်ခြင်း ဖြစ်ပေါ် နေသည် ဖြစ်အံ့၊ ထိုပုဂ္ဂိုလ်သည် ဓမ္မဝိစယ သမ္ဗောဇ္ဈင်ကို မပွားများသင့်။ ဝီရိယသမ္ဗောဇ္ဈင်ကိုလည်း မပွားများသင့်။ ပီတိသမ္ဗောဇ္ဈင်ကိုလည်း မပွားများသင့်။ သုံးပါးစလုံးကိုသော်လည်း မပွားများသင့်ပေ။

ထိုဗောဇ္ဈင် သုံးပါးသည် စိတ်၌ မတည်ငြိမ် ပျံ့လွင့်မှုကို ငြိမ်းရန် ခက်သောကြောင့်တည်း။ ဥပမာအားဖြင့်—

မီးအလျှံနှင့် တကွသော မီးပုံကြီးကို ငြိမ်းအေးစေလိုသူသည် ထိုမီးပုံကြီးထဲသို့ မြက်ခြောက်၊ ထင်းခြောက်၊ နွားချေးခြောက်များထည့်လျက် လေယပ်ဖြင့် ယပ်ခတ်ပေးသကဲ့သို့တည်း။

စိတ် မတည်ငြိမ် ပျံ့လွင့်သော အခါ၌ ပဿဒ္ဓိ သမ္ဗောဇ္ဈင်ကို ပွားများ သင့်၏၊ သမာဓိသမ္ဗောဇ္ဈင်ကိုသော်လည်း ပွားများသင့်၏။ ဥပေက္ခာ

သမွေခုချော်ကိုသော်လည်း ပွားများသင့်၏။ သုံးပါးလုံးကို သော်လည်း ပွားများသင့်ပေ၏။

ထိုသို့ ပွားများခြင်းသည် အာလျှင် မှန်ကန်သောအား ထုတ်ခြင်း မည်ပေသည်။ လိုလားအပ်သော အကျိုးတရားသည်လည်း မုချပင် ဖြစ်ပေါ်နိုင်ပေသည်။ ဥပမာအားဖြင့်—

မီးလျှံနှင့် တကွသော မီးပုံကြီးကို ငြိမ်းစေလိုသူသည် ထို မီးပုံကြီးထဲသို့ မြက်စို၊ မြေမှုန့်၊ နွားချေး စို တို့ကို ထည့်လျက် ရေဖြင့် ပက်ဖျန်း သကဲ့သို့တည်း။

[နေမာဠ်ဂ်သံယုတ်၊ အဋ္ဌသုတ်]

## နယ်မြေကျူးကျော်ခြင်း

ဟိမဝန္တာတောကြီး၌ နေရာအရပ် သုံးမျိုးခွဲခြား၍ ရှိလေ၏။ တစ်မျိုးသော အရပ်သည် လူတို့လည်း မရောက်ပေါက်နိုင်။ မျောက်တို့လည်း မရောက်ပေါက်နိုင်ပေ။ သွားလာရန် အလွန် ခက်ခဲလှပေ၏။ ဒုတိယ အရပ်သည် လူတို့ မရောက်ပေါက်နိုင်ပေ။ မျောက်တို့သာ ရောက်ပေါက်နိုင်သော အရပ်ဖြစ်၏။ တတိယအရပ်ကား၊ လူတို့လည်း ရောက်ပေါက်နိုင်၏။ မျောက်တို့လည်း ရောက်ပေါက်နိုင်ပေ၏။

ထိုတောကြီး၌ ကျက်စားလျက်ရှိသော မျောက်တို့သည် မျောက်တို့သာလျှင် သွားလာ ရောက်ပေါက်နိုင်သည့် အရပ်ကို အမှီပြု၍ မွေ့လျော်လေ့ရှိ၏။ လူတို့ ရောက်ပေါက်နိုင်သည့် တောအရပ်သို့ သွားရောက် နယ်မလွန်ကြရန် မျောက် အစဉ် အဆက်တို့ မှာကြား ဆုံးမထား၏။

လူရော မျောက်ပါ သွားလာ ရောက်ပေါက်နိုင်သည့် တောအရပ်၌ မုဆိုးတို့သည် မျောက်များကို ဖမ်းယူရန် မျောက်နှဲစေးဖြင့် ထောင်လေ့ရှိပေသည်။

ထို့ကြောင့် အမြော်အမြင်ရှိသော မျောက်တို့သည် မိဘရိုးရာ အစဉ်အလာအတိုင်းသာလျှင် နယ်မလွန်ဘဲ ကျက်စားကြကုန်၏။

## ညွတ်ကွင်းမိသောအခါ

အချို့သော မျောက်တို့သည်ကား မိမိတို့၏ ရိုးရာ ထုံးတမ်းစဉ်လာကို ချိုးဖောက်လျက် နယ်လွန် ကျက်စားကြကုန်၏။

ထို့ကြောင့် မိမိတို့၏ မျိုးရိုးစဉ်လာကို ဖောက်ဖျက်သော ထိုမျောက်တို့သည် မုဆိုးတို့ ထောင်ထားသော မျောက်နှဲ့ခေး၌ ကပ်ငြိကြရလေတော့သည်။ ထိုသို့ မျောက်နှဲ့ခေး ညွတ်ကွင်း၌မိလေသော မျောက်သည် ယာဘက်လက်မိသည်ကို ဘယ်လက်ဖြင့် ဆွဲ၍ဖြေသည်။ ထိုဘယ်ဘက်လက်လည်း မျောက်နှဲ့ခေး၌ ကပ်ငြိရလေသည်။ ခြေထောက်တို့ဖြင့် ဆွဲယူဖြေပြန်လျှင် ထိုခြေထောက်တို့လည်း ကပ်ငြိရပြန်လေသည်။ နှုတ်သီးဖြင့် ဆွဲယူ ဖြေပြန်သော် နှုတ်သီးလည်း ကပ်ငြိရပြန်လေသည်။

ထိုမျောက်သည် မျောက်နှဲ့ခေး ထောင်ချောက်မှ ရုန်း၍ မလွတ်မြောက်နိုင်ပေ။ ထိုအခါ မုဆိုးသည် ဖမ်းယူ သတ်ဖြတ်၍ မီးကျီးစု၌ ကင်လေ၏။

ဤကား ဥပမာတည်း။

## ကာမဂုဏ် မျောက်နှဲ့ခေး

ဤလောက၌ အကျင့်ပုဂ္ဂိုလ်သည် မကျက်စားသင့်သော အရပ်၌ ကျူးကျော် ကျက်စားမိငြားအံ့၊ ထိုပုဂ္ဂိုလ်သည် ကိလေသာမာရ်၌ ဖမ်းဆီးချုပ်နှောင်ခြင်းကို ခံရမည် ဖြစ်၏။ ဖျက်ဆီး၊ နှိပ်စက်ခြင်းကို ခံရမည်သာ ဖြစ်၏။

မကျက်စားသင့်သော အရပ်ဟူသည်ကား၊ ကာမဂုဏ် ငါးပါးတို့ပေတည်း။

နှစ်သက်ဖွယ်၊ ကြည်နူးမွေ့လျော်ဖွယ်ဟူ၍ ထင်မှတ်ရသော ရူပါရုံ၊ သဒ္ဒါရုံ၊ ဂန္ဓာရုံ၊ ရသာရုံ၊ ဖောဋ္ဌဗ္ဗာရုံတို့၌ တွယ်တာ မက်မောသောသူသည် ထို ကာမဂုဏ်တို့၌ နစ်မွန်းကာ အေးငြိမ်း ချမ်းသာခြင်းအစစ်သို့ ရုန်းထွက်ရန် ခဲယဉ်းမည်သာ ဖြစ်ပေ၏။

မျောက်နှဲ့ခေး တည်းဟူသော ကာမဂုဏ် ညွတ်ကွင်း၌ မငြိကပ်ရန်၊ မုဆိုး တည်းဟူသော ကိလေသာမာရ်၏ ဖျက်ဆီး၊ သတ်ဖြတ်ခြင်းမှ ကင်းလွတ်ရန်ကား မကျူးလွန်သင့်သော နယ်မြေသို့ မသွား ရောက် မကျက်စားခြင်းသည် အကြောင်းရင်းပေတည်း။

ထို မကျက်စားသင့်သော နယ်မြေ ဟူသည့် ကာမဂုဏ်တို့ကို စက်ဆုပ်ဖွယ်ရာဟူ၍ ရှုမြင် သုံးသပ်ရပေမည်တည်း။

ဤအရာ၌ သတိပဋ္ဌာန် လေးပါးကို အလေးအနက် ပြု၍ ဆင်ခြင်ရာ၏။

ဤခန္ဓာကိုယ် ရုပ်၌လည်းကောင်း၊ ခံစားမှုဝေဒနာ၌ လည်းကောင်း၊ ဖြစ်ပေါ်သော စိတ်အစဉ်၌ လည်းကောင်း၊ ကျိုးကြောင်းဆက် အမှန်သဘောတရား၌ လည်းကောင်း၊ ဆင်ခြင်ဉာဏ်ဖြင့် အောက်မေ့လျက်၊ မပြတ်ဆင်ခြင်အောက်မေ့လျက် ယုတ်ညံ့သော အဘိဇ္ဈာတရား၊ ဒေါမနဿတရားတို့ကို ပယ်ဖျက်ပစ်ရာ၏။ အဖန်ဖန် အားထုတ်ပွားများ၍ ပယ်ဖျက်ပစ်ရာ၏။

ဤသည်ပင်လျှင် သတိပဋ္ဌာန် တရားလေးပါးတို့ ပေတည်း။ ဤသည်ပင်လျှင် ကာမဂုဏ် မျောက်နှံ့စေး ညွှတ်ကွင်း၌ မငြိကပ်ရန် အကြောင်း ပေတည်း။ ကိလေသာမာရ် တည်းဟူသော သားသတ်မုဆိုး၏ လက်ထဲသို့ မကျရောက်ကြောင်း ပေတည်း။

[သတိပဋ္ဌာနသံယုတ်၊ မက္ကဋသုတ်]

## အရေးအကြီးဆုံး

တရား အားထုတ်သော ပုဂ္ဂိုလ်သည် သတိပဋ္ဌာန် လေးပါးဖြင့် ဆင်ခြင်ပွားများရာ၌ မိမိ၏စိတ် အာရုံကို မှတ်ယူရန် လွန်စွာ အရေးကြီးပေ၏။

မိမိစိတ်၏ အာရုံကို မမှတ်ယူဘဲ ပွားများအားထုတ်သည် ရှိသော် စိတ် ကြည်လင်ခြင်း မဖြစ်နိုင်ပေ။ စိတ် မတည်ကြည်နိုင်ပေ။ စိတ်မတည်ကြည်သဖြင့် ညစ်ညူးစေတတ်သော ကိလေသာတို့ကို မပယ်ဖျက်နိုင်ပေ။ ထို့ကြောင့် တရားကို အားထုတ် ပွားများရကျိုး မရ။ ချမ်းသာခြင်းသို့ မရောက်။ ဥပမာအားဖြင့်—

### စားတော်ကဲ၏ အရည်အချင်း

စားတော်ကဲ ရာထူးကို ရရှိသူသည် ရှင်ဘုရင်အား ပွဲတော်ဆက်ရာ၌ အထူး သတိပြုရမည့်အချက် ရှိပေသည်။ ထိုအချက်ကား မိမိ စီမံပြုလုပ်ထားသော စားသောက်ဖွယ်ရာ အမျိုးမျိုးတို့ အနက် ရှင်ဘုရင်သည်

မည်သည့်ဟင်းကို များစွာ သုံးဆောင်၏၊ မည်သည့်ဟင်းကို အနည်းငယ်သာ သုံးဆောင်၏၊ မည်သည့်ဟင်းကို လုံးဝမသုံးဆောင် စသည်ဖြင့် ဂရုတစိုက် မှတ်သားအပ်ပေသည်။

ယင်းသို့ မှတ်သားမှုသာလျှင် ရှင်ဘုရင် နှစ်သက်သည့် စားသောက်ဖွယ်ကို စိမ်ချက်ပြုတ်တတ်ပေမည်။ သို့မှသာလျှင် ရှင်ဘုရင်၏ မြှောက်စားခြင်းခံရ၍ ဆုလာဘ်လည်း ရပေမည်။

ထိုစားတော်ကဲသည် ရှင်ဘုရင် ဘယ်ဟင်းကို ကြိုက်သည်၊ မကြိုက်သည် ဟူ၍ မမှတ်သားငြားအံ့၊ စိတ်ကြိုက်ကို စိမ့် ချက်ပြုတ်နိုင်မည် မဟုတ်ပေ။ ချီးမြှောက်ခြင်း ခံရမည်လည်း မဟုတ်ပေ။ ဆုလာဘ် ရမည်လည်း မဟုတ်ပေ။ စားတော်ကဲရာထူးမှ ထုတ်ပယ်ခြင်း ခံရပေလိမ့်မည်။

[—သူဒသုတ်]

## ကိုယ့်အကျိုး သူ့အကျိုး

အခါတစ်ပါး၌ ဗုဒ္ဓမြတ်စွာသည် သုမ္ဘတိုင်း ဒေသကနိဂုံး၌ သီတင်းသုံးနေတော်မူ၏။

ထိုစဉ်အခါဝယ် ဗုဒ္ဓသည် ရဟန်းတို့အား စောင့်ရှောက်ခြင်းတရားနှင့် စပ်လျဉ်း၍ ဟောကြားတော် မူလေသည်။

"ရဟန်းတို့၊ မိမိကိုယ်ကို စောင့်ရှောက်အံ့ ဟူ၍ သတိပဋ္ဌာန်ကို ဆောက်တည် ပွားများ အပ်၏၊ သူတစ်ပါးကို စောင့်ရှောက်အံ့ ဟူ၍ သတိပဋ္ဌာန်ကို ဆောက်တည် ပွားများအပ်၏။

"ရဟန်းတို့၊ မိမိကိုယ်ကို စောင့်ရှောက်သည် ရှိသော် သူတစ်ပါးကိုလည်း စောင့်ရှောက်ရာ ရောက်ပေ၏၊ သူတစ်ပါးကို စောင့်ရှောက်သည် ရှိသော် မိမိကိုလည်း စောင့်ရှောက်ရာ ရောက်ပေ၏၊ အဘယ်သို့နည်း ဟူမူ—

"အဖန်တလဲလဲ ဆောက်တည်ပွားများခြင်း၊ အားထုတ်ခြင်းဖြင့် မိမိကိုယ်ကို စောင့်ရှောက်သည် ရှိသော် သူတစ်ပါးကိုလည်း စောင့်ရှောက်ပြီးသည်သာတည်း။

"သည်းခံခြင်း၊ မညှဉ်းဆဲခြင်း၊ မေတ္တာစိတ်ရှိခြင်း၊ အစဉ် သနား ညှာတာခြင်းဖြင့် သူတစ်ပါးကို စောင့်ရှောက်သည် ရှိသော် မိမိကိုယ်ကို လည်း စောင့်ရှောက်ပြီးသည်သာတည်း။

"ထို့ကြောင့် ရဟန်းတို့၊ မိမိကိုယ်ကို စောင့်ရှောက်အံ့ဟူ၍ သတိ ပဋ္ဌာန်ကို ဆောက်တည် ပွားများကုန်လော့၊ သူတစ်ပါးကို စောင့်ရှောက် အံ့ဟူ၍ သတိပဋ္ဌာန်ကို ဆောက်တည် ပွားများကုန်လော့။

"ရဟန်းတို့၊ ရှေး၌ ဖြစ်ခဲ့ဖူးသည်ကို ဥပမာအားဖြင့် ဆိုပေဦးအံ့။

## ဟန်ချက်မလွဲအောင် စောင့်ရှောက်

"ရှေးအခါက ဝါးတိုင်တက်သော ဆရာသည် ရှိလေ၏၊ ထိုဆရာသည် ရှည်စွာသော ဝါးလုံးကို စိုက်ထူ၍ ထိပ်ဖျားသို့ တက်ရောက်ကာ ကြည့်ရှု ချင်စဖွယ် အမျိုးမျိုး အဖုံဖုံ သရုပ်ဆောင် ပြတတ်ပေ၏၊ ဝါးလုံး ထိပ်ဖျား၌ ခြေတစ်ဖက်တည်း ရပ်တည်ကာ လှည့်ပတ်၍ ပြတတ်၏၊ လက်တစ်ဖက်တည်း ရပ်ကာ လှည့်ပတ်၍ ပြတတ်၏၊ ဦးခေါင်းဖြင့်စိုက် လျက်တည်ကာ လှည့်ပတ်၍ ပြတတ်၏၊ ထိုဆရာသည် ဝါးတိုင်ထက်သို့ ဦးစောက် ပြောင်းပြန်ပြု၍ တက်ရောက်၏၊ ဆင်းလည်း ဆင်းတတ်၏၊ တပည့်ဖြစ်သူအား ပခုံးထက်၌ ရပ်တည်စေကာ ဝါးလုံးထိပ်၌ လှည့် ပတ်၍လည်း ပြတတ်၏၊ ထိုတပည့်ဖြစ်သူအား ပခုံးပေါ်၌ ရပ်တည် စေကာ ဝါးလုံးခြေရင်းသို့ ဆင်းပြတတ်ပေ၏။

"ရဟန်းတို့၊ ထို ဝါးတိုင်တက်ဆရာသည် တပည့်အား ဤသို့ပြော၏၊ 'အမောင်တပည့်၊ ငါသည် သင့်ကို စောင့်ရှောက်မည်၊ သင် လွဲချော်၍ မကျစေရန် စောင့်ရှောက်မည်၊ သင်သည်လည်း ငါ့ကို စောင့်ရှောက်ပါ၊ ငါ၏ ခြေ လက်တို့ လွဲချော် တိမ်းစောင်းခြင်းမဖြစ်လေအောင် စောင့် ရှောက်ပါလေ၊ သို့မှသာလျှင် ငါတို့၏ ဝါးတိုင်တက်ပွဲသည် အောင်မြင် လျက် ငွေကြေး များစွာ ရပေလိမ့်မည်' ဟု ပြောလေသည်။

"ရဟန်းတို့၊ ထိုအခါ တပည့် ဖြစ်သူသည် ဆရာအား ပြန်ပြော လေသည်။

"ဆရာ၊ ဤသို့ မဟုတ်ပါ၊ ဤသို့ မဖြစ်သင့်ပါ၊ ဆရာ့ကိုယ်ဆရာ ဟန်ချက် မလွဲချော်အောင် စောင့်ရှောက်ပါ၊ ကျွန်ုပ်ကိုယ် ကျွန်ုပ်လည်း ဟန်ချက် မလွဲချော်အောင် စောင့်ရှောက်ပါမည်။

"ဆရာ့ကိုယ်ဆရာ စောင့်ရှောက်လျှင် ကျွန်ုပ်ကိုလည်း စောင့်ရှောက်ပြီး ဖြစ်ပါသည်၊ ကျွန်ုပ်ကိုယ်ကျွန်ုပ်စောင့်ရှောက်လျှင်လည်း ဆရာ့ကိုပါ စောင့်ရှောက်ပြီး ဖြစ်ပါသည်" ဟု ပြန်ပြောလေသည်။

"ရဟန်းတို့၊ ဤသည်ကား ဥပမာပေတည်း၊ ဤဥပမာ၏ အနက်သဘောကို သင်တို့သည် ကောင်းစွာ နှလုံးသွင်းကြကုန်လော့" ဟု ဗုဒ္ဓက မိန့်ကြားတော်မူ၏။

[—သေဒကသုတ်]

## အလှမယ်၏ ကပွဲ

"ရဟန်းတို့၊ သင်တို့အား ဥပမာဖြင့် ထင်စွာ သိစေအံ့၊ ကောင်းစွာ နာကြားကြကုန်လော့၊

"နိုင်ငံအဝန်း၌ အလွန်ကျော်ကြားသော ကချေသည် အလှမယ်သည် ရှိရာ၏၊ ထိုအလှမယ်သည် ရုပ်လက္ခဏာအားဖြင့် လှပတင့်တယ် ရှုမောဖွယ်ရာ ရှိသည့်အပြင် သီချင်းဆိုရာ၊ ကပြရာ၌လည်း နှစ်သက် စွဲလမ်းဖွယ်ရာ စွမ်းဆောင်နိုင်ပေ၏။

"ထိုအလှမယ် ကပြ ဖြေဖျော်ရာ သတင်းဝယ် လူ အပေါင်းတို့သည် သူ့ထက်ငါဦး ရောက်ရှိ လာကြကုန်၏၊ အလွန် များပြား စည်ကား၊ လှသော ပရိသတ်ဖြင့် ကြိတ်ကြိတ်တိုးလျှက် ရှိနေပေ၏။

## ဆီ မဖိတ်စေနှင့်

"ထိုစဉ်အခါဝယ် ယောကျ်ားတစ်ယောက်အား နှုတ်ခမ်းနှင့်အညီ ဆီအပြည့်ထည့်ထားသော ခွက်ယ်ကို ပေးအပ်၍ 'သင်သည် ဤဆီခွက်ကို ကိုင်ဆောင်လျက် အလှမယ်ထံသို့ ရောက်အောင်သွားပါလေ၊ ခွက်ထဲက ဆီကိုမူ တစ်စက်သော်မျှ မဖိတ်ပါစေနှင့်၊ အကယ်၍ ဆီဖိတ်ကျလျှင် သင်၏ဦးခေါင်းကို ဖြတ်ချပစ်ပါမည်' ဟု ပြော၏၊ သန်လျက်ဓားကို အသင့်ကိုင်မိုးထားသော ယောကျ်ားတစ်ယောက်သည်လည်း ထိုသူ့အနီး၌ အသင့် ရှိနေ၏။

"ရဟန်းတို့၊ ထိုအရာကို မည်သို့ မှတ်ထင်ကြသနည်း၊ ထိုယောကျ်ားသည် ဆီခွက်ကို နှလုံးမသွင်းမဘဲ အခြားပြင်ပအာရုံကို နှလုံးသွင်းပါမည်လော။

"စင်စစ်အားဖြင့် ထို ယောကျ်ားသည် အသက်မသေ မဆုံးရှုံးလိုသဖြင့် ဆီခွက်ကို အာရုံစူးစိုက် နှလုံးပိုက်လျက်သာလျှင် ကိုင်ဆောင်ပေမည်တည်း။

"ရဟန်းတို့၊ နှုတ်ခမ်းနှင့်အညီ ဆီ အပြည့်ပါရှိသော ခွက်ဟူသည်မှာ 'ကာယဂတာသတိ၏' အမည်ပေတည်း။

"ကာယဂတာသတိကို ဆောက်တည် ပွားများအပ်၏၊ ကြိမ်ဖန်များစွာ လေ့ကျင့် ပွားများအပ်၏၊ ကောင်းစွာ တည်စေအပ်၏"

[-ဇနပဒကလျာဏီသုတ်]

## ထင်းချောင်းနှစ်ခုတို့ တွေ့ထိခြင်း

ဣန္ဒြေ ငါးပါး ရှိလေသည်။ သုခိန္ဒြေ၊ ဒုက္ခိန္ဒြေ၊ သောမနဿိန္ဒြေ၊ ဒေါမနဿိန္ဒြေ၊ ဥပေက္ခိန္ဒြေတို့ ပေတည်း။

ဣန္ဒြေငါးပါးတို့ ဖြစ်ပေါ်မှု၊ ချုပ်ငြိမ်းမှု၊ ဖြစ်ပေါ်ခြင်း၊ ချုပ်ငြိမ်းခြင်းကို သိမှု ဟူ၍ ရှိလေသည်။

'ဝေဒနာ'ဟူသော ခံစားမှုသည် 'ဖဿ'ဟူသော တွေ့ထိမှုကြောင့် ဖြစ်ပေါ်လေသည်။

ထိုဖဿကို အစွဲပြု၍ပင် ဣန္ဒြေတို့ ဖြစ်ပေါ်လေသည်။

ဖဿချုပ်လျှင်လည်း ဣန္ဒြေတို့ ချုပ်ငြိမ်းလေသည်။

ရှင်းလင်း ဖော်ပြဦးအံ့-

သုခဝေဒနာ၏ အကြောင်းဖြစ်သော တွေ့ထိမှု ဖဿကိုစွဲ၍ သုခိန္ဒြေ ဖြစ်ပေါ်လေသည်။ ထိုအခါ 'ငါချမ်းသာ၏'ဟု သိလေသည်။ ထိုဖဿ ချုပ်ပျောက်သွားသော် သုခိန္ဒြေသည်လည်း ချုပ်ငြိမ်းလေသည်။ ထိုအခါ သုခိန္ဒြေ ချုပ်ငြိမ်း၏ဟုလည်း သိလေသည်။

ဒုက္ခဝေဒနာ၏ အကြောင်းဖြစ်သော တွေ့ထိမှု ဖဿကို စွဲ၍ ဒုက္ခိန္ဒြေ ဖြစ်ပေါ်လေသည်။ ထိုအခါ 'ငါ ဆင်းရဲ၏'ဟု သိလေသည်။ ထိုဖဿ ချုပ်ပျောက် သွားသော် ဒုက္ခိန္ဒြေသည်လည်း ချုပ်ငြိမ်းလေသည်။ ထိုအခါ 'ဒုက္ခိန္ဒြေ ချုပ်ငြိမ်း၏'ဟုလည်း သိလေသည်။

သောမနဿ ဝေဒနာ၏ အကြောင်းဖြစ်သော တွေ့ထိမှု ဖဿကိုစွဲ၍ သောမနဿိန္ဒြေ ဖြစ်ပေါ်လေသည်။ ထိုအခါ 'ငါ ဝမ်းမြောက်၏' ဟု သိလေသည်။ ထိုဖဿ ချုပ်ပျောက်သွားသော် သောမနဿိန္ဒြေသည်လည်း ချုပ်ငြိမ်းလေသည်။ ထိုအခါ 'သောမနဿိန္ဒြေသည် ချုပ်ငြိမ်း၏'ဟုလည်း သိလေသည်။

ဒေါမနဿဝေဒနာ၏ အကြောင်းဖြစ်သော ဖဿကိုစွဲ၍ဒေါမနဿိန္ဒြေ ဖြစ်ပေါ်လေသည်။ ထိုအခါ 'ငါ နှလုံး မသာယာခြင်းဖြစ်၏'ဟု သိလေသည်။ ထိုဖဿ ချုပ်ပျောက်သွားသော် ဒေါမနဿိန္ဒြေသည်း ချုပ်ငြိမ်းလေသည်။ ထိုအခါ 'ဒေါမနဿိန္ဒြေ ချုပ်ငြိမ်း၏'ဟုလည်း သိလေသည်။

ဥပေက္ခာဝေဒနာ၏ အကြောင်းဖြစ်သော တွေ့ထိမှု ဖဿကို စွဲ၍ ဥပေက္ခိန္ဒြေ ဖြစ်ပေါ်လေသည်။ ထိုအခါ 'ငါ လျစ်လျူရှု၏'ဟု သိလေသည်။ ထိုဖဿ ချုပ်ပျောက် သွားလေသော် ဥပေက္ခိန္ဒြေသည်လည်း ချုပ်ငြိမ်းလေသည်။ ထိုအခါ 'ဥပေက္ခိန္ဒြေ ချုပ်ငြိမ်း၏' ဟူ၍လည်း သိလေသည်။

ဥပမာအားဖြင့်-

ခြောက်သွေ့သော သစ်သား နှစ်ခုတို့ ပေါင်းဆုံထိခိုက်ခြင်းကြောင့် အပူဓာတ် ဖြစ်ပေါ်လေသည်။ ပွတ်တိုက်ခြင်းကြောင့် မီးဖြစ်ပေါ်လာလေသည်။

ထို သစ်သားစ နှစ်ခုကို တခြားစီ ခွဲခြား၍ ထားပြန်လျှင် အပူဓာတ်တည်း ချုပ်ပျောက်လေသည်။ မီးသည် ငြိမ်းအေးသွားလေသည်။

[ဣန္ဒြိယသံယုတ်၊ ကဋ္ဌောပမသုတ်]

## ဗောဓိပက္ခိယ တရားတော်၏ ရှေ့ဆောင်

ဇမ္ဗူဒိပါကျွန်း၌ ပေါက်ရောက်သော သစ်ပင်အပေါင်းတို့တွင် ဇမ္ဗုသပြေပင်ကို ရှေ့သွားဦးဆောင် အကြီးအမြတ်ဆုံးဟု ဆိုရသကဲ့သို့—

တာဝတိံသာ အရပ်၌ ပေါက်ရောက်ကုန်သော သစ်ပင် အပေါင်းတို့တွင် ပင်လယ်ကသစ်ပင်ကို ရှေ့သွားဦးဆောင် အကြီးအမြတ်ဆုံးဟု ဆိုရသကဲ့သို့—

အသူရာတို့ နေရာအရပ်၌ ပေါက်ရောက်ကုန်သော သစ်ပင်အပေါင်းတို့တွင် သခွတ်ပင်ကို ရှေ့သွားဦးဆောင် အကြီးအမြတ်ဆုံးဟု ဆိုရသကဲ့သို့—

ဂဠုန်တို့၏ နေရာ အရပ်၌ ပေါက်ရောက်ကုန်သော သစ်ပင်အပေါင်းတို့တွင် လက်ပံပင်ကို ရှေ့သွားဦးဆောင် အကြီးအမြတ်ဆုံးဟု ဆိုရသကဲ့သို့၊

ဗောဓိပက္ခိယတရား ၃၇ ပါးတို့တွင် ပညိန္ဒြေကို ရှေ့သွားဦးဆောင် အကြီးအမြတ်ဆုံးဟု ဆိုရလေသည်။

ဗောဓိပက္ခိယတရားတို့သည် သိရန်ဖြစ်၏။ ဆောက်တည်ပွားများရန် ဖြစ်၏။

ဗောဓိပက္ခိယ တရားတို့ကို သိရန် ပညိန္ဒြေသည် အရင်းခံမူလဖြစ်၏။ ပညိန္ဒြေသည် ဗောဓိပက္ခိယ တရားတို့ကို သိရန် အခြေခံ ပဓာန ဖြစ်လေ၏။

[-ရကွသုတ်]

## မကောင်းမှုကို ဖျက်ဆီးခြင်း

လမ်းဆုံ လမ်းခွ၌ ရှိသော မြေမှုန့်ပုံ၊ အမှိုက်သရိုက်ပုံကို ကြည့်ထားပါလေလော့။

ထိုအပုံကြီးကို အရှေ့ဘက်မှ လာသော နွားလှည်း၊ မြင်းလှည်းတို့သည်လည်း နင်းခြေ ဖျက်ဆီးကြလေ၏။ အနောက်အရပ်မှ လာသော နွားလှည်း၊ မြင်းလှည်းတို့သည် လည်းကောင်း၊ တောင်အရပ်၊ မြောက်

အချပ်မှသာသော နွားလှည်း၊ မြင်းလှည်းတို့သည်လည်းကောင်း ထိုအပုံကြီးကို နင်းခြေ ဖျက်ဆီးလေသည်သာ ဖြစ်၏။ ထို့နည်းအတူပင်–

တရားကို ဆောက်တည် ပွားများသော ပုဂ္ဂိုလ်သည် ရုပ်အပေါင်း၌ အကြိမ်ကြိမ် ရှုဆင်ခြင်လျက် နေသည် ဖြစ်အံ့၊ အကုသိုလ် အယုတ်တရားတို့ကို ဖျက်ဆီးပစ်နိုင်ပေ၏။

ဝေဒနာတို့၌ လည်းကောင်း၊ သညာတို့၌ လည်းကောင်း၊ သင်္ခါရတို့၌ လည်းကောင်း၊ စိတ်၌ လည်းကောင်း အကြိမ်ကြိမ် ရှုဆင်ခြင်လျက်နေသည် ဖြစ်အံ့၊ အကုသိုလ်အယုတ်တရားတို့ကို ဖျက်ဆီးနိုင်သည် သာတည်း။

[အာနာပါနသံယုတ်၊ ကိမိလသုတ်]

## ကောင်းသော သေခြင်း

ယောကျ်ားတစ်ယောက်သည် ထောပတ်အိုး၊ ဆီအိုးတို့ကို ရေအိုင်၏ အလယ်၌ ခွဲလိုက်သည် ဆိုပါတော့။ အိုးခြမ်းကွဲများသည် အဘယ်သို့ ရောက်ရှိသွားမည်နည်း။ ထောပတ် ဆီများသည် အဘယ်သို့ ရောက်ရှိသွားမည်နည်း။

အိုးခြမ်းကွဲများသည် ရေအောက်သို့ သက်ဆင်း ရောက်ရှိမည်သာတည်း။ ထောပတ်၊ ဆီများသည် ရေပေါ်သို့ တက်၍ တည်နေမည်သာတည်း။

အကြင် ပုဂ္ဂိုလ်သည် သဒ္ဓါ၊ သီလ၊ သုတ၊ စာဂ၊ ပညာ၊ ဟိရီ၊ ဩတ္တပ္ပ တရားတို့၌ ဆောက်တည် ပွားများခဲ့လေသည် ဖြစ်ငြားအံ့၊ ထိုပုဂ္ဂိုလ် သေလွန်လေပြီးသောအခါ သူ၏ ရုပ်ခန္ဓာ ကိုယ်အား မြေ၌သော်လည်း မြှုပ်ရာ၏။ ပိုးလောက်တို့သော်လည်း ခဲစားရာ၏။ ကျီး၊ ခွေး၊ လင်းတတို့သော်လည်း ထိုးဆိတ် ခဲစားရာ၏။

ထိုပုဂ္ဂိုလ်၏ စိတ်သည်ကား ရှည်မြင့်စွာသော ကာလပတ်လုံး သဒ္ဓါ သီလ စသည်တို့ဖြင့် ထုံမွမ်းထားခဲ့သည် ဖြစ်၍ ကောင်းရာသုဂတိသို့ သွားရောက်နိုင်ပေ၏။ ထိုသူသည် ကောင်းသောသေခြင်းဖြင့် သေသည် မည်၏။

[သောတာပတ္တိသံယုတ်၊ မဟာနာမသုတ်]

## ဆရာကောင်းမှ ပန်းကောင်း ပန်ရမည်

လယ်ကွက်သည် မြေကလည်း ညံ့၏။ ပေါင်းမြက် သစ်ငုတ်များလည်း ထူပြော၏။ ထိုလယ်ကွက်၌ စိုက်ပျိုးရန် မျိုးစေ့သည်လည်း အဖျင်း၊ အအောက်၊ အပုပ်တို့ ဖြစ်ကုန်၏၊ မိုးသည်လည်း မရွာသွန်းပေ။

မည်သို့ ဖြစ်ပေလိမ့်မည်နည်း။

ဤ လယ်ကွက်၌ ထိုမျိုးစေ့များသည် အပင်ပေါက်၍ ရှင်သန် ကြီးထွားရန် အကြောင်းမရှိသည်သာတည်း။

ဤလောက၌ အချို့သော ဆရာတို့သည် မိမိတွေးမိရာဆိုကို တရား ဟူ၍ ဟောကြားလေ့ ရှိကုန်၏။ ကျိုးကြောင်းဆက် သဘောအားဖြင့် မှန်ကန်သည် မဟုတ်သော၊ အေးငြိမ်း ချမ်းသာမှုသို့လည်း မရောက်စေ နိုင်သော၊ မြတ်စွာဘုရားတို့ ဟောကြားတော်မူသည့် တရားမျိုးလည်း မဟုတ်သော ရောက်တတ်ရာရာ အယူဝါဒတို့ကို ဟော ကြား လေ့ ရှိကုန်၏။

ထိုဆရာညံ့တို့၏တရားကို ကောင်းစွာ လိုက်နာ ကျင့်သုံးသူများလည်း ရှိကြပေ၏။

မည်သို့ ဖြစ်ပေလိမ့်မည်နည်း။

ထိုဆရာညံ့တို့ ဟောသော တရားသည် လယ်မြေညံ့နှင့် တူပေ၏။ ထိုမမှန်တရားကို လိုက်နာ ကျင့်သုံးခြင်းသည် မျိုးစေ့ အဖျင်း အပုပ်နှင့် တူပေ၏။

[—သရဏာနိသက္ကသုတ်]

## ထင်းရှူးရွက်နှင့် ကြာရွက်

အကြင်ပုဂ္ဂိုလ်သည် ဆင်းရဲခြင်းဒုက္ခသစ္စာကို ဟုတ်တိုင်းမှန်စွာ မသိမမြင် သေးလျှင်၊ ဆင်းရဲဖြစ်ပေါ်စေသည့် အကြောင်းတရား သမုဒယသစ္စာကို ဟုတ်တိုင်းမှန်စွာ မသိမမြင်သေးလျှင်၊ ဆင်းရဲခြင်း ကင်းရာ ချုပ်ငြိမ်းရာ နိဗ္ဗာန် နိရောဓသစ္စာကို ဟုတ်တိုင်းမှန်စွာ မသိမမြင်သေးလျှင်၊ ဆင်းရဲခြင်း ကင်းချုပ်ရာသို့ ရောက်ကြောင်းတရား မဂ္ဂ သစ္စာကို ဟုတ်တိုင်း မှန်စွာ

ဂသိ မမြင်သေးလျှင် ထိုပုဂ္ဂိုလ်သည် ဆင်းရဲခြင်းအဆုံးသို့ ရောက်လိမ့်မည် မဟုတ်ပေ။ ဆင်းရဲခြင်း ကင်းချုပ်ရာ နိဗ္ဗာန်ကို မျက်မှောက်ပြုလိမ့်မည် မဟုတ်သည်သာတည်း။

ထင်း၊ ရှူးရွက်၊ ရှားရွက်တို့ဖြင့် ရေခွက်ပြုလုပ်ကာ ရေကို မယူဆောင်နိုင်သည်သာတည်း။

အကြင် ပုဂ္ဂိုလ်သည် ဆင်းရဲခြင်း ဒုက္ခသစ္စာ ကို၊ ဆင်းရဲကြောင်း သမုဒယသစ္စာကို၊ ဆင်းရဲခြင်းကင်းရာ နိရောဓ သစ္စာကို၊ ဆင်းရဲကင်းရာသို့ ရောက်ကြောင်း မဂ္ဂသစ္စာကို ဟုတ်တိုင်း မှန်စွာ သိမြင် ပြီးအံ့၊ ထိုပုဂ္ဂိုလ်သည် ဆင်းရဲခြင်းကင်းရာ နိဗ္ဗာန်ကို ကောင်းစွာ မျက်မှောက်ပြုနိုင်သည်သာတည်း။

ပဒုမ္မာ ကြာရွက်၊ ပေါက်ရွက်တို့ဖြင့် ရေခွက် ပြုလုပ်ကာ ရေကို ယူဆောင်နိုင်သည် သာတည်း။

[သစ္စသံယုတ်၊ ခဒိရပတ္တသုတ်]

## မသိ၍ ပြေးသွားရခြင်း

ကောင်းကင်ထက်သို့ ပစ်လွှင့်လိုက်သော တုတ်ချောင်းသည် တစ်ခါတစ်ရံ အရင်းဘက်ဖြင့် မြေသို့ ကျ၏။ တစ်ခါတစ်ရံ အဖျားဘက်ဖြင့် မြေသို့ ကျလေ၏။ အကြိမ်ကြိမ် ပစ်လွှင့်သော် အခါခါ ကျရောက်ရပေ၏။

အဝိဇ္ဇာ တဏှာ ပိတ်ဆို့နှောင်ဖွဲ့သဖြင့် ပြေးလွှား ကျင်လည် ရကုန်သော သတ္တဝါတို့သည် တစ်ခါတစ်ရံ ဤလောကမှ တမလွန် ဘဝသို့ ရောက်ရလေ၏။ တစ်ခါတစ်ရံ တမလွန်ဘဝမှ ဤလောကသို့ ရောက်ရလေ၏။

ဤသို့လျှင် သတ္တဝါတို့သည် ကျင်လည် ပြေးသွား နေရခြင်းကား အဘယ့်ကြောင့်နည်း။

ဆင်းရဲခြင်း ဒုက္ခ၊ ဆင်းရဲကြောင်း သမုဒယ၊ ဆင်းရဲကင်းရာ နိရောဓ၊ ဆင်းရဲ ကင်းရာသို့ ရောက်ကြောင်း မဂ္ဂတို့ကို ဟုတ်တိုင်းမှန်စွာ မသိမမြင် သေးသောကြောင့် ပေတည်း။

[-ဒဏ္ဍသုတ်]

## သစ္စာတရားသည်သာ ပထမ

မြေအသာဒ်ဆောင်နှင့်တကွသော အိမ်ကို ဆောက်လုပ်ရာ၌ အိမ်၏အောက်ပိုင်းကို မပြုလုပ်ရသေးမူဘဲ ပြာသာဒ်ဆောင် တင်ပေတော့မည် ဟု ပြော ဆိုသော် ဆိုစကားသည် မဖြစ်နိုင်၊ မဖြစ်ကောင်း၊ ရာသော စကား ပေတည်း၊

အကြင် ပုဂ္ဂိုလ်သည် ဆင်းရဲခြင်း ဒုက္ခသစ္စာ၊ ဆင်းရဲကြောင်း သမုဒယ သစ္စာ၊ ဆင်းရဲကင်းကြောင်း နိရောဓ သစ္စာ၊ ဆင်းရဲ ကင်းရာသို့ ရောက်ကြောင်း မဂ္ဂသစ္စာ တို့ကို ဟုတ်တိုင်းမှန်စွာ မသိမမြင်ရသေးမူဘဲ ဆင်းရဲ ဆုံးရာ နိဗ္ဗာန်ကို မျက်မှောက်ပြုပေအံ့ဟု ပြောဆိုငြားအံ့။ ထို ပုဂ္ဂိုလ်၏ စကားသည် မဖြစ်နိုင်။ မဖြစ်ကောင်းသော စကားပေတည်း။

[ကူဋာဂါရသုတ်]

## နားတောင်းအတုများ

အဆင်းသဏ္ဌာန်ဖြင့်၊ လူကို သိလွယ်သည် မဟုတ်ချေ။ အခေပါယံ အမြင် ဗန်းမျှဖြင့် လူ၏ သဘောကို သိလွယ်သည် မဟုတ်ချေ။ ဤ လောက၌ အချို့သော သူသည် ကိုယ်၊ နှုတ်၊ နှလုံး မစောင့်စည်းသူ ဖြစ်လျက် စောင့်စည်းသူ၏ အပြုအမူမျိုးဖြင့် ဟန်ဆောင်လေ့ရှိ၏။

အခိုက်အတန့် မြင်ကာမျှဖြင့် အကျွမ်းမဝင်ရာ။

အတွင်း၌ မစင်ကြယ်ဘဲလျက် ဟန်ဆောင်သူတို့သည် ရွှေရည် ပွတ် ထားသော ရွှံနားတောင်း အတုကဲ့သို့တည်း။

[ခုဒ္ဒကသလ သံယုတ်၊ သတ္တဇဋိလသုတ်]

## မလှူသင့်သူ လှူသင့်သူ

တစ်ရံခါ၌ ပသေနဒီကောသလမင်းသည် မြတ်စွာဘုရားအား လျှောက် ထားလေ၏။

"အရှင်ဘုရား၊ အဘယ် ပုဂ္ဂိုလ်မျိုးအား ပေးလှူအပ်ပါသနည်း"

ထိုအခါ မြတ်စွာဘုရားက ပြန်လည် မြွက်ကြားလေသည်။

"မင်းကြီး၊ စိတ်၌ ကြည်ညိုသောပုဂ္ဂိုလ်အား ပေးလှူအပ်၏"

"အရှင်ဘုရား၊ အဘယ်ပုဂ္ဂိုလ်မျိုးအား ပေးလှူရခြင်းသည် အကျိုးကြီးပါသနည်း"

"မင်းကြီး၊ အဘယ်ပုဂ္ဂိုလ်ကား ပေးလှူအပ်ပါသနည်း ဟူသော အမေးနှင့် အဘယ် ပုဂ္ဂိုလ်အား ပေးလှူရခြင်းသည် အကျိုး ကြီးမားပါသနည်း ဟူသော အမေးသည် မတူပေ၊ ကွဲပြားခြားနားမှု ရှိပေ၏။

"မင်းကြီး၊ စင်စစ်အားဖြင့် သီလရှိသော ပုဂ္ဂိုလ်အား ပေးလှူခြင်းသည် အကျိုးကြီး၏၊ သီလ မရှိသော ပုဂ္ဂိုလ်အား ပေးလှူခြင်းသည် အကျိုးမကြီးပေ။

"ထိုအရာ၌ သင်မင်းကြီးကိုပင်လျှင် တဖန် မေးဦးအံ့၊ သင် နှစ်သက်သလို ဖြေကြားလော့။

## စစ်သားညံ့နှင့် စစ်သားကောင်း

"အို-မင်းကြီး၊ သင့်၌ စစ်တိုက်ခိုက်ရန် အရေးအခင်း ကြုံလာသဖြင့် ကျွမ်းကျင်သော စစ်သည်ကောင်းများ စုဆောင်းရန် လိုအပ်လာသော် လေးပစ် အတတ်ကို မသင်ကြားခဲ့ရဖူးသေးသူ၊ မကျွမ်းကျင်သေးသူ၊ ကြောက်ရွံ့ တုန်လှုပ်တတ်သူကို ခေါ်ယူ မွေးမြူမည်လား၊ ထိုသို့ခေါ်ယူ မွေးမြူသော သင့်အား အကျိုးပြုနိုင်မည်လား"

"အရှင်ဘုရား၊ တပည့်တော်သည် ထိုသို့သော သူမျိုးကို ခေါ်ယူ မွေးမြူခြင်း မပြုပါ၊ တပည့်တော် အဖို့ ထိုသူမျိုးသည် အချည်းနှီးသာတည်း"

"မင်းကြီး၊ သင်၏ စစ်ပွဲများအတွက် လေးအတတ်ကို သင်ကြားပြီးသူ၊ ကောင်းစွာ ကျွမ်းကျင်ပြီးသူ၊ မကြောက်မရွံ့တတ်သူ ခေါ်ယူ မွေးမြူမည်လား၊ ထိုသို့သော သူမျိုးသည် သင့်အတွက် အကျိုး ပြုနိုင်သလား"

"အရှင်ဘုရား၊ တပည့်တော်သည် ထိုသူမျိုးကို ကောင်းစွာ မေးမြန်းပါသည်၊ တပည့်တော်အတွက် အချည်းနှီး မဟုတ်သူမျိုးပင် ဖြစ်ပါ၏။ အကျိုးကျေးဇူး များသူမျိုး ဖြစ်ပါ၏"

"မင်းကြီး၊ သီလရတ်၊ သမာဓိရတ်၊ ပညာရတ် နှင့် ပြည့်စုံသော ပုဂ္ဂိုလ်အား ပေးလှူခြင်းသည်သာ အကျိုးကျေးဇူး များနိုင်ပေ၏။ သီလ၊ သမာဓိ၊ ပညာ ကင်းမဲ့သူတို့အား ပေးလှူခြင်းသည် အကျိုးကျေးဇူး မများပေ"

[—ဣသဿတ္တသုတ်]

## ဝေဒနာပျက်ပြယ်ခြင်း

အိုးဖုတ်သော ဖိုမှ ရဲရဲပူလျက်ရှိသော အိုးကို ထုတ်ယူ၍ မြေပြင်၌ ချထားသည် ရှိသော် အပူဓာတ်သည် တဖြည်းဖြည်း ကုန်၏။ ထိုအိုးသည် ထိုနေရာ၌ပင်လျှင် တည်ရှိနေသော်လည်း၊ အပူဓာတ်ကား မရှိတော့ပေ။ ငြိမ်းပျောက်သွားပြီ ဖြစ်၏။

မျက်စိ၊ နား၊ နှာခေါင်း၊ လျှာ၊ ကိုယ်တည်းဟူသော ငါးဒွါရတို့ဖြင့် ထိတွေ့ ခံစားရသော သုခဝေဒနာ၊ ဒုက္ခဝေဒနာ၊ ဥပေက္ခာ ဝေဒနာတို့သည် ကိုယ်ခန္ဓာ ပျက်စီးသည်ရှိသော် ငြိမ်းပျောက်ကုန်၏။ ခန္ဓာကိုယ်ကြီးသည်သာ ကြွင်းကျန်ရစ်ခဲ့လေ၏။

[နိဒါနသံယုတ်၊ ပရိဝိမံသနသုတ်]

## မီးခွက် ဥပမာ

ထွန်းညှိထားသော မီးခွက်ကို ကြည့်ပါလော့။ မီးစာနှင့် ဆီ မကုန်မချင်း မီးတောက် ဖြစ်ပေါ်၍နေသည် မဟုတ်လား။

မီးစာကုန်ခါနီး၌ မီးစာထပ်ထည့်ပေးသော်၊ ဆီကုန်ခါနီး၌ ဆီထပ်ထည့်ပေးသော် ထိုမီးခွက်၏ မီးတောက်သည် အလျဉ် မပြတ် တောက်လောင်နေသည် မဟုတ်လား။

မီးစာကိုလည်း ထပ်မထည့်ဘဲ၊ ဆီကိုလည်း ထပ်မထည့်ဘဲ မူလရှိရင်းစွဲ ဆီနှင့် မီးစာ ကုန်သည်နှင့် တပြိုင်နက် ထိုမီးခွက်၏ မီးတောက်သည် ချုပ်ငြိမ်း သွားသည်သာလျှင်တည်း။

ဤကား ဥပမာ ဖြစ်၏။

## တဏှာကြောင့်

ကိလေသာ အာရုံ ကာမဂုဏ် တရားတို့၌ နှစ်သက် သာယာဖွယ်ရာ ဟူ၍ ရှုမြင်လျက် နေသူသည် တပ်မက်ခြင်း တဏှာဖြစ်ပွား၏။ ထိုတဏှာကြောင့် စွဲလမ်းခြင်း ဥပါဒါန် ဖြစ်ပွား၏။ ထိုဥပါဒါန်ကြောင့် ဘဝ ဖြစ်၏။ ဘဝကြောင့် ပဋိသန္ဓေနေရခြင်း ဇာတိ ဖြစ်၏။ ဇာတိကြောင့် အိုခြင်း ဇရာ၊ သေခြင်း မရဏ၊ စိုးရိမ်ခြင်း သောက၊ ငိုကြွေးခြင်း ပရိဒေဝ၊ ဆင်းရဲခြင်း ဒုက္ခ၊ နှလုံး မသာယာခြင်း ဒေါမနဿ၊ ပြင်းစွာ ပင်ပန်းခြင်း ဥပါယာသတို့ ဖြစ်ကုန်၏။

ကိလေသာ အာရုံ ကာမဂုဏ် တရားတို့၌ နှစ်သက် သာယာ ဖွယ်ရာ ဟူ၍ မရှုမြင်ဘဲ အပြစ်ဟု ရှုမြင်လျက် နေသူအား တပ်မက်မှု တဏှာ ချုပ်၏။ တဏှာချုပ်သောကြောင့် စွဲလမ်းမှု ဥပါဒါန် ချုပ်၏။ ဥပါဒါန် ချုပ်သောကြောင့် ဘဝချုပ်၏။ ဘဝချုပ်သောကြောင့် ဇာတိချုပ်၏။ ဇာတိ ချုပ်သောကြောင့် ဇရာ၊ မရဏ၊ သောက၊ ပရိဒေဝ၊ ဒုက္ခ၊ ဒေါမနဿ၊ ဥပါယာသတို့ ချုပ်ငြိမ်းကုန်၏။

## မီးပုံကြီး၏ လောင်စာများ

တောက်လောင်လျက် ရှိသော မီးပုံကြီးကို ကြည့်ကြပါလော့။

ထိုမီးပုံကြီး၏ မူလ ရှိရင်းစွဲ ထင်းများ ကုန်၍ သွားလျှင် မီးအရှိန်သည်လည်း ကုန် သွားသည်သာတည်း။ ကျ သွားသည်သာတည်း။ နောက်ဆုံး၌ အလုံးစုံသော အပူဓာတ်တို့ ကင်းပျောက် သွားသည်သာတည်း။

ထင်းများ၊ နွားချေးခြောက်များ၊ အမှိုက်သရိုက်များကို တစ်ဖန် ထပ်၍ ထည့်ပေးလျှင်မူ ထိုမီးပုံကြီးသည် တောက်လောင်မြဲ တောက်လောင်နေမည်သာတည်း။

## သစ်ပင်၏ အမြစ်များ

**သစ်ပင် တစ်ပင်ကို ကြည့်ပါလော့။**

ထိုသစ်ပင်၏ အမြစ်တို့သည် မြေဓာတ်၊ ရေဓာတ် ဟူသော သြဇာကို ရယူနေသော်၊ သြဇာ ရအူနိုင်ရန် ပြုပြင် စီမံ၍ ပေးလျက်ရှိသော် ထိုသစ်ပင်သည် ရှင်သန် ကြီးထွားမည်သာတည်း။ မြေဓာတ် ရေဓာတ် ဟူသော သြဇာကို မရယူနိုင်ရန် သစ်ပင်၏ အမြစ်ကို ဖြတ်တောက် ဖြိုဖျက်ပစ်သည် ရှိသော် ထိုသစ်ပင်သည် ရှင်သန်ကြီးထွားရန် အကြောင်းမရှိပေ။ သြဇာ အစေးများ ညှိုးရော် ခြောက်ခန်းလျက် ထိုသစ်ပင် ပျက်စီးခြင်းသို့ ရောက်သည်သာတည်း။

[ဥပါဒါနသံယုတ်၊ မဟာဝဂ္ဂသုတ်]

## မျောက် သစ်ကိုင်းဆွဲ

စိတ် ဟူ၍ လည်းကောင်း၊ မနော ဟူ၍ လည်းကောင်း၊ ဝိညာဏ် ဟူ၍ လည်းကောင်း ဆိုအပ်သော သဘောသည် အစဉ်သဖြင့် ပြောင်း၍ ပြောင်း၍ ဖြစ်ပေါ်လေ၏၊ အစဉ်သဖြင့် ပြောင်း၍ ပြောင်း၍ ချုပ်ပျောက်လေ၏။

ဖြစ်ပေါ်ပြီးလျှင် ချုပ်၏။ အခြား အသစ် ဖြစ်ပေါ်ပြီးလျှင် ချုပ်ပြန်၏။ တဖန် အခြား အသစ် ဖြစ်ပေါ်ပြီးလျှင် ချုပ်၏။ ဤသို့လျှင် ဖြစ်ပေါ်၍ ချုပ်၍ ချုပ်၍ သာလျှင် ရှိပေ၏။

ဥပမာအားဖြင့် တောထဲ၌ ကျင်လည် ကျက်စားလေသော မျောက်သည် သစ်ကိုင်းကို ဆုပ်ကိုင်၏။ ထိုသစ်ကိုင်းမှ အခြား သစ်ကိုင်းသို့ ကူးပြောင်း ဆုပ်ကိုင်၏။ တစ်ဖန်အခြားသစ်ကိုင်းသို့ကူးပြောင်းဆုပ်ကိုင်၏။ ဤသို့လျှင် တောမျောက်သည် သစ်ကိုင်းတစ်ကိုင်းမှ အခြား သစ်ကိုင်း တစ်ကိုင်းသို့ ပြောင်း၍ ပြောင်း၍ ဆုပ်ကိုင်သကဲ့သို့တည်း။

[-အဿုတဝါသုတ်]

## ရှေးဟောင်းမြို့ကြီးကို တွေ့ခြင်း

ခရီးသွား ယောကျ်ားတစ်ယောက်သည် တောအုပ်ကြီးတစ်ခု အတွင်းသို့ လှည့်လည်၏၊ တောနက်ကြီး အတွင်း၌ ရှေး လူ တို့ သွားလာသော လမ်းဟောင်း လမ်းအိုကို တွေ့၏။ ထိုလမ်းအတိုင်း ဆက်လက်၍ သွားလေသော် ရှေး ယခင် နှစ်ပေါင်းများစွာက တည်ရှိခဲ့ဖူးသော မင်း၏ နေပြည်တော် အဟောင်းကို တွေ့မြင်ရလေ၏။ လမ်းမ လမ်းသွယ်များ၊ ဥယျာဉ် ရေကန်များ၊ ကျုံး၊ မြို့ရိုး၊ တံတိုင်း အဆောက်အအုံများကို တွေ့မြင်လေ၏။

ထိုယောကျ်ားသည် လာလမ်းအတိုင်း ပြန်ခဲ့၍ မိမိနေရပ်သို့ ရောက်သောအခါ နိုင်ငံအုပ်ချုပ်သော မင်းထံသို့ သတင်း ပေးပို့လေသည်။ တွေ့ကြုံခဲ့ရလေသော အရာဝတ္ထုများကို စုံလင်စွာ ပြောပြလေသည်။ တွေ့မြင်ခဲ့ရသော မင်းနေပြည်တော်ဟောင်းကို ပြုပြင်ဖန်တီးသင့်ကြောင်းလည်း ထိုမင်းအား တိုက်တွန်းလေ၏။

ထိုအခါ၌ မင်းနှင့်တကွသော မှူးမတ် ဗိုလ်ပါတို့သည် တောနက်ကြီးအတွင်းသို့ သွားရောက်ကြကာ ခရီးသွား ယောကျ်ား တွေ့ရှိခဲ့သော မြို့တော်ဟောင်းကို အသစ်တစ်ဖန် ပြုပြင် မွမ်းမံ ဆောက်လုပ်ကြလေ၏။ ထို့ကြောင့် ထိုမြို့ကြီး၌ လူအပေါင်းတို့ မှီခို နေထိုင်ကြအာ စည်ပင်သာယာလျက် ရှိလေသည်။ စည်ကား ခမ်းနားလျက် ရှိလေသည်။

ရဟန်းတို့၊ ဤသည်ကား ဥပမာပေတည်း။ ငါဘုရားသည် ရှေးဘုရားတို့ကြွသွားတော်မူပြီးသော လမ်းခရီးဟောင်းကို မြင်၏။

## အရိယာမဂ် လမ်းခရီး

ထို လမ်းခရီးဟောင်းကား အရိယာမဂ် လမ်းခရီးပေတည်း။ သမ္မာဒိဋ္ဌိ၊ သမ္မာသင်္ကပ္ပ၊ သမ္မာဝါစာ၊ သမ္မာကမ္မန္တ၊ သမ္မာအာဇီဝ၊ သမ္မာဝါယမ၊ သမ္မာသတိ၊ သမ္မာသမာဓိ ဟူသော မဂ္ဂင်ရှစ်ပါး တရား လမ်းဟောင်းပေတည်း။

ထို တရားလမ်း ခရီးဟောင်းကို လိုက်သော ငါဘုရားသည် ဒုက္ခသစ္စာကို သိမြင်၏။ သမုဒယသစ္စာကို သိမြင်၏။ နိရောဓသစ္စာကို သိမြင်၏။ မဂ္ဂသစ္စာကို သိမြင်၏။

လူ အပေါင်းတို့အားလည်း ဤ သစ္စာလေးပါးတရားကို ဟောကြား ခဲ့လေပြီ။ အကြိမ်ကြိမ် အထပ်ထပ်ပင် ငါ ဘုရားသည် သစ္စာလေးပါး တရားကို ဟောကြားခဲ့ပေပြီ။

ဇာတိ-ဇရာ-ဗျာဓိ-မရဏ တရားတို့ကို သိ၏။ ထို ဇာတိ-ဇရာ-ဗျာဓိ-မရဏ တရားတို့ ဖြစ်ပေါ် စေတတ်သည့် အကြောင်းကို လည်းကောင်း၊ ချုပ်ငြိမ်းစေတတ်သည့် အကြောင်းကိုလည်းကောင်း သိ၏။

လူ အပေါင်းတို့အားလည်း ထိုတရားကို ဟောကြားခဲ့ဖူးလေပြီ။

[—နဂရသုတ်]

## မစင်နှင့်မစင် နွားနို့နှင့် နွားနို့

ဤလောကၶ သတ္တဝါအပေါင်းတို့သည် ဓာတ်သဘောအားဖြင့် တစ်ပေါင်း တစ်စုတည်း ဖြဲ့ကုန်၏။

မကောင်း ယုတ်ညံ့သော စိတ်နှလုံးထား ရှိသူတို့သည် အချင်းချင်း ပေါင်းသင်း ဆက်ဆံကြ၏။ အစုအဝေး ပြုကြ၏။

မစင် ကျင်ကြီးသည် မစင်ကျင်ကြီးနှင့် တစ်ပေါင်းတည်း တစ်စုတည်း ဖြစ်သကဲ့သို့၊ ကျင်ငယ်သည် ကျင်ငယ်နှင့် တစ်ပေါင်းတည်း တစ်စုတည်း ဖြစ်သကဲ့သို့၊ တံတွေးသည် တံတွေးနှင့် တစ်ပေါင်းတည်း တစ်စုတည်း ဖြစ်သကဲ့သို့။

ကောင်းမြတ် စင်ကြယ်သော စိတ်နှလုံးထားရှိသူတို့သည် အချင်းချင်း ပေါင်းသင်း ဆက်ဆံကြ၏။ အစုအဝေး ပြုကြ၏။

နို့ရည်သည် နို့ရည်နှင့်သာ တစ်ပေါင်း၊ တစ်စုတည်း ဖြစ်သကဲ့သို့၊ ထောပတ်သည် ထောပတ်နှင့်သာ တစ်ပေါင်းတစ်စုတည်း ဖြစ်သကဲ့သို့၊ ပျားရည်သည်လည်း ပျားရည်နှင့်သာ တစ်ပေါင်းတစ်စုတည်းဖြစ်သကဲ့သို့။

သတ္တဝါတို့သည် ဓာတ်သဘောအားဖြင့် တစ်ပေါင်း တစ်စုတည်း၊ တစ်သားတည်း ဖြစ်ကြလေ၏။

[ဓာတုသံယုတ်၊ သဂါထာသုတ်]

## ထိန်းချုပ်ရခြင်း

ရဟန်းဟူသည် လူ ဒါယကာတို့ထံ ချဉ်းကပ် ဆက်ဆံရာ၌ ကိုယ်နှုတ်စိတ်ကို ထိန်းချုပ်မှု ရှိရ၏။ ကြမ်းကြုတ် ခက်ထန်မှု မရှိစေရ။

မညီညာသော တောင်ပေါ်လမ်း၌ လျှောက်သောအခါ မြစ်ကမ်းပါး၌ လျှောက်သောအခါ ကိုယ်နှင့် စိတ်ကို ထိန်းချုပ်သကဲ့သို့ ထိန်းချုပ်ရ၏။

## လက်ကို ဝှေ့ယမ်းရာ၌ကဲ့သို့

ရဟန်းသည် လူ ဒါယကာတို့ထံ ချဉ်းကပ် ဆက်ဆံရာ၌ ကိုယ်နှုတ် နှလုံးကို ထိန်းချုပ်ရ၏။ ကပ်ငြိခြင်း မရှိစေရ။

လာဘ်ကို အလိုရှိသော သူသည် လာဘ်ရပါစေ၊ ကောင်းမှုကို အလိုရှိသော သူသည် ကောင်းမှု ရပါစေဟု နှလုံးသွင်းရ၏။ မိမိလာဘ်ရလျှင် ဝမ်းမြောက်ခြင်း ဖြစ်သကဲ့သို့ သူတစ်ပါး လာဘ်ရခြင်းကို ဝမ်းမြောက်ခြင်း ရှိရ၏။

လက်ကို ကောင်းကင်၌ ဝှေ့ယမ်းသောအခါ တစ်စုံတစ်ရာမျှ ကပ်ငြိစွဲလမ်းခြင်း မရှိသကဲ့သို့ ရဟန်းသည် လူ ဒါယကာတို့ထံ ချဉ်းကပ် ဆက်ဆံရာ၌ တစ်စုံတစ်ရာ ကပ်ငြိ စွဲလမ်းခြင်း မရှိရပေ။

[ကဿပသံယုတ်၊ မဇ္ဈိုပမသုတ်]

## အတုနှင့် အစစ်

လောက၌ ရွှေတု မဖြစ်ပေါ် သေးသမျှ ကာလပတ်လုံး ရွှေစစ် မကွယ်ပျောက်ပေ။ ရွှေတု ဖြစ်ပေါ်လာသော အခါ၌ကား ရွှေစစ် ကွယ်ပျောက်ကြောင်း ဖြစ်ပေါ်လာပြီတည်း။

သူတော်ကောင်းတရား၊ အတု အယောင် မဖြစ်ပေါ်သေးသမျှကာလပတ်လုံး သူတော်ကောင်းတရား အစစ်အမှန်သည် ဤလောက၌ တည်ရှိ ထွန်းကား နေပေ၏။ သူတော်ကောင်းတရား အတုအယောင် ပေါ်ပေါက်လာသော်ကား သူတော်ကောင်းတရား အစစ်အမှန် ကွယ်ပျောက်ကြောင်း ဖြစ်ပေါ်လာပြီတည်း။

## နှစ်မြုပ်ရသော လှေ

ပထဝီဓာတ်သည် သူတော်ကောင်းတရားကို မကွယ်ပျောက် စေနိုင်။ အာပေါဓာတ်၊ တေဇောဓာတ်၊ ဝါယောဓာတ်တို့သည် သူတော်ကောင်းတရားကို မကွယ်ပျောက်စေနိုင်ကုန်။

စင်စစ်အားဖြင့် သူတော်ကောင်းတရားကို ကွယ်ပျောက်စေသည်ကား ပညာမရှိ မိုက်မဲသော ယောကျ်ား၊ မိန်းမတို့သာတည်း။

လှေသည် ဝန်ကို သယ်ပိုးဆောင်ယူခြင်းဖြင့် နှစ်မြုပ်ရသကဲ့သို့တည်း။

[—သဒ္ဓမ္မပ္ပတိရူပကသုတ်]

## ငါးမျှားချိတ်ကိုကြည့်ပါ

လောကလောဘ အကျော် အစောဟူသည်မှာ ခက်ထန် ကြမ်းတမ်းခြင်း သဘော ရှိ၏။ အနှောင့် အယှက်သဘော ရှိပေ၏။ အရဟတ္တဖိုလ် ရောက်ကြောင်း၏ အတားအဆီး အန္တရာယ်လည်း ဖြစ်၏။

တံငါသည်သည် အစာတပ်သော ငါးမျှားချိတ်ကို ရေအိုင်ထဲသို့ ပစ်ချလိုက်သောအခါ အစာကို မြင်ရသော ငါးသည် ထိုငါးမျှားချိတ်ကို မျို၏။ ထိုငါးသည် ဆင်းရဲပျက်စီးခြင်းသို့ ရောက်လေသည်။ တံငါသည်၏ အလိုရှိတိုင်း ပြုလုပ်ခြင်းကို ခံရလေသည်။

'တံငါသည်' ဟူသော အခေါ်သည် ယုတ်ညံ့သော ကိလေသာမာရ်၏ အမည်တည်း။ 'ငါးမျှားချိတ်' ဟူသော အခေါ်သည် လောကလောဘ အကျော် အစော၏ အမည်တည်း။

ဖြစ်ပေါ်လာသော လာဘ် ပူဇော်အကာ အကျော်အစော၌ သာယာ နှစ်သက် စွဲမက်သူသည် ကိလေသာမာရ်၏ ငါးမျှားချိတ်ကို မျိုသည်ဖြစ်၍ ဆင်းရဲ ပျက်ဆီးခြင်းသို့ ရောက်ရ၏။ ကိလေသာမာရ်၏ အလိုရှိတိုင်း ပြုလုပ်ခြင်းကို ခံရလေ၏။

[ဠိသလာဘသက္ကာရသံယုတ်၊ ဗဠိသသုတ်]

# မှိန်းချက်မိသောလိပ်ကြီး

ရှေး၌ ဖြစ်ခဲ့ဖူးသည်တား ရေအိုင်ကြီးတစ်ခု၌ လိပ်ကြီးမျိုးသည် ကြာမြင့်စွာ နေလေ၏။

လိပ်တစ်ကောင်သည် အခြားလိပ်တစ်ကောင်အား "အမောင်လိပ်၊ သင်သည် ဟိုဘက်ဆမ်းစပ်နေရာကို သိသည် မဟုတ်လား၊ ထို နေရာကို မသွားလေနှင့်၊ မကျက်စားလေနှင့်၊ အန္တရာယ်ရှိသော နေရာဖြစ်၏"ဟု သတိပေး၏။

သို့သော် ထိုလိပ်သည် မိတ်ဆွေလိပ် သတိပေးသည်ကို နားမထောင်။ ထိုနေရာသို့ သွားရောက် ကျက်စားမိ၏။

ထို့ကြောင့် ထိုလိပ်သည် မုဆိုး၏ မှိန်းချက် အထိခံရလေ၏။ ကြိုးရှည် တပ်ထားသော မှိန်းဖြစ်၏။

မှိန်းချက်မိသောလိပ်သည် မိတ်ဆွေလိပ်ရှိရာသို့ ပြေးသွားလေသည်။ "မိတ်ဆွေ၊ သင်က မသွားနှင့်ဟု တားမြစ်သော နေရာသို့ ငါ သွားခဲ့မိ၏"ဟုလည်း ပြောကြားလေသည်။

"အမောင်လိပ်၊ သင့်ကို မုဆိုးက မှိန်းဖြင့် မထိုးဘူးလား၊ မသတ်ဘူးလား"ဟု မိတ်ဆွေလိပ်က မေး၏။

"မိတ်ဆွေ၊ မှိန်းဖြင့် အထိုးမခံရပါ၊ သတ်ဖြတ်ခြင်းလည်း မခံရပါ၊ သို့သော် ငါ့နောက်မှ ကြိုးရှည်သည် အစဉ်လိုက်ပါနေ၏" ဟု ပြန်ပြောလေသည်။

"အမောင်၊ စင်စစ်အားဖြင့် သင့်ကို မုဆိုးက မှိန်းဖြင့် ထိုးလိုက်သည်သာတည်း၊ သင်သည် အသတ်ခံရသည်သာတည်း၊ အမောင်လိပ်၊ ဤ ကြိုးဖြင့် သင့်အဖေသည်လည်းကောင်း၊ သင်၏အဘိုးသည် လည်းကောင်း ဒုက္ခရောက်ဖူးခဲ့ရပြီ၊ ဆင်းရဲ ပျက်စီးခဲ့ရပြီ"ဟု ပြောလေ၏။

မုဆိုး ဟူသော အမည်သည် ယုတ်ညံ့သော ကိလေသာ မာရ်၏ အမည်တည်း။ 'ကြိုးရှည် တပ်ထားသော မှိန်း' ဟူသော အမည်သည် လာဘ်ပူဇော်သက္ကာ အကျော်အစော၏ အမည်တည်း။ 'ကြိုး' ဟူသော အမည်သည် သာယာနှစ်သက် စွဲမက်ခြင်း နန္ဒီရာဂ၏ အမည်တည်း။

[—ကုမ္မသုတ်]

## ဝဲစွဲ ခွေးအိုကြီး

နှိုနက်လင်းဝေါနီး အချိန်၌ ညည်းညူသော ခွေးအို၏ အသံကို ကြားဖူးကြသည် မဟုတ်လား။

ထို ခွေးအိုသည် ဝဲနာစွဲကပ်နေသည်ဖြစ်၍ ပျော်ရွှင်ချမ်းမြေ့မှုကို မရနိုင်ဘဲ ရှိနေ၏။ အစာစားရာ၌လည်းကောင်း၊ သွားလာရာ၌ လည်းကောင်း၊ အိပ်ရာ၌ လည်းကောင်း မွေ့လျော် ပျော်ရွှင်ခြင်းမရှိ။ ဆင်းရဲ ပင်ပန်းလျက်သာ ရှိနေ၏။

ဤသာသနာတော်၌ လာဘ် ပူဇော် သက္ကာကို သာယာ နှစ်သက် စွဲမက်သော ရဟန်းသည် ထိုလာဘ် ပူဇော် သက္ကာ တည်းဟူသော ရောဂါ၏ ဆွဲဆောင် နှောင်ဖွဲ့ နှိပ်စက်ခြင်းကြောင့် ဆိတ်ငြိမ်ရာ အရပ်၌လည်း မွေ့လျော် ချမ်းမြေ့မှု မရှိ။ လွင်တီးခေါင်၌ လည်းကောင်း၊ အိပ်ရာ စားရာ သွားရာ၌ လည်းကောင်း မွေ့လျော် ချမ်းမြေ့မှု မရှိသည်သာတည်း။

[—သိဂ်ါလသုတ်]

## ရိုးတွင်းခြင်ဆီသို့ ခိုက်ခြင်း

ခိုင်ခံ့သော နန်းသေးကြိုးဖြင့် ခြေသလုံးကို ပတ်လျက် ပွတ်တိုက်ဆွဲသည် ရှိသော် ပထမ အရေပါးကို ဖြတ်၏။ ထို့နောက် အရေထူကို ဖြတ်၏။ ထို့နောက် အသားကို ဖြတ်၏။ ထို့နောက် အကြောကို ဖြတ်၏။ ထို့နောက် အရိုးကို ဖြတ်၏။ ထို့နောက်တွင်ကား ရိုးတွင်း ခြင်ဆီသို့ ထိ၍ တည်လေ၏။

ဤနည်းတူပင် လာဘ်ပူဇော်သက္ကာသည် အရေ၊ အသား၊ အကြော၊ အရိုးတို့ကို လွန်၍ ဖြတ်၍ ရိုးတွင်းခြင်ဆီသို့တိုင်အောင် ထိလျက်တည်၏။

ထို့ကြောင့် လာဘ် ပူဇော်သက္ကာ ဟူသည် ကြမ်းတမ်း ခက်ထန်၏။ နှိပ်စက် ဖျက်ဆီးတတ်၏။ ဆင်းရဲပင်ပန်းစေတတ်၏။

[—ရဇ္ဇုသုတ်]

## အထုပ်ထက် အပိုး လေးလတ္တံ့

ရှေး၌ ဖြစ်ခဲ့ဖူးသည်ကား ဒသာရဟ မင်းတို့အား အာနက မည်သော မုရိုးစည်သည် ရှိလေ၏။

ထို ဒသာရဟ မင်းတို့သည် မုရိုးစည်ကို တီးခတ်လေ့ရှိကြလေသည်။ ကြာသော် ထိုမုရိုးစည်၌ အခြားသော မယ်နအစပ်ကို သည့်သွင်းဆက်စပ် ကြကုန်၏။

အာနက မုရိုးစည်၏ စည်ခေါင်းသည် တစ်စတစ်စ ကွယ်ပျောက် လေသော် နောက်မှ ထည့်သွင်း ဆက်စပ်သော မယ်န အစပ်သည်သာ လျှင် တည်ရှိလေ၏။

နောင်သောအခါ၌ မြတ်စွာ ဘုရား ဟော ကြား တော် မူသော လောကမှ လွတ်မြောက်ကြောင်းတရား၊ ကိလေသာ ဆိတ်သုဉ်းကြောင်း တရားတို့သည် ကွယ်ပျောက်ကုန်လျက် အဆန်းတကြယ် သာယာနာပျော် ဖွယ်ရာသော၊ လောက၌ နှစ်သက် သာယာ တွယ်တာဖွယ် တရားတို့သည် လွှမ်းမိုးလတ္တံ့။

[ဩပမ္မသံယုတ်၊ သံအာဏိသုတ်]

## အိမ်သို့ ကပ်တတ်သော ရဟန်း

ဗုဒ္ဓမြတ်စွာ သာဝတ္ထိပြည် ဇေတဝန်ကျောင်း၌ သီတင်းသုံး နေတော်မူစဉ်အခါ ဖြစ်သည်။

ရဟန်းငယ်တစ်ပါးသည် ရပ်ထဲ ရွာထဲ လူတကာတို့၏အိမ်၌ အချိန် ကြာမြင့်စွာ နေထိုင်လေ့ ရှိ၏။

ထိုရဟန်းငယ်အား အခြားသော ရဟန်းများက လူတို့၏ နေအိမ်၌ အချိန်ကြာမြင့်စွာ မနေထိုင်သင့်ကြောင်း သတိပေး ပြောကြားသော အခါ ထိုရဟန်းငယ်က "မည်သည့်ပုဂ္ဂိုလ်၊ မည်သည့် ပုဂ္ဂိုလ်ကြီးများ သည်ပင်လျှင် လူတို့၏နေအိမ်၌ အချိန် ကြာမြင့်စွာ နေထိုင်ကုန်သေး၏၊ ငါသည်လည်း နေထိုင်သင့်သည်သာလျှင်တည်း" ဟု မထေရ်ကြီးများနှင့် နှိုင်းတု၍ ချေပ ပြောကြားလေသည်။

ထိုအကြောင်းကို ရဟန်းတို့က မြတ်စွာဘုရားအား ပြန်လည်လျှောက်ထားသောအခါ မြတ်စွာဘုရားသည် ဥပမာပြု၍ ရှင်းလင်းဟောကြားတော်မူ၏။

## ဆင်ကြီးနှင့် ဆင်ငယ်

"ရဟန်းတို့၊ တောနက်ကြီးအထဲ၌ ရေအိုင်ကြီးတစ်ခု ရှိ၏၊ ထိုရေအိုင်ကြီးကို တောဆင်အပေါင်းတို့ အမှီသဟဲပြု၍ နေကြ၏၊ အသက်ကြီးကုန်သော ဆင်တို့သည် ရေအိုင်သို့ သက်ဆင်းကာ ကြာစွယ် ကြာရင်းကို ဆွဲနုတ်လေ၏၊ ထိုရေထဲတွင် လှုပ်ယမ်း ဆေးကြော၏၊ ရွှံ့ညွန် အမှိုက်သရိုက်၊ ပိုးမွှားများ မပါပါအောင် လှုပ်၍ ခါ၍ ဆေးကြောပြီးလျှင် ကျွတ်ကျွတ် ဝါးစားလေ၏။

ယင်းသို့ စားခြင်းကြောင့် ထိုဆင်ကြီးတို့အား အစာ အာဟာရ ဟူသော အကျိုးကျေးဇူး ရှိကုန်၏၊ ဘေးအန္တရာယ် မဖြစ်ကုန်၊ ဆင်းရဲ ပင်ပန်းခြင်း၊ သေဆုံးခြင်းလည်း မဖြစ်ကုန်။

"ငယ်ကုန်သော ဆင်တို့သည် ဆင်ကြီးတို့၏ အပြုအမူကို အားကျသဖြင့် ရေအိုင်သို့ သက်ဆင်းကာ ကြာစွယ် ကြာရင်းကို ဆွဲယူလျက် ရွှံ့ညွန် အမှိုက်သရိုက် ပိုးမွှားများ စင်ကြယ်အောင် ဆေးကြော လှုပ်ခါခြင်း မပြုလေဘဲ ကြေညက်အောင်လည်း ကောင်းစွာ မဝါးဘဲသာလျှင် မျိုချကြကုန်၏။

"ထိုသို့ မျိုချခြင်းကြောင့် ဆင်ငယ်တို့အား အစာ အာဟာရ ဟူသော အကျိုးကျေးဇူး မရှိပေ၊ အန္တရာယ်သာလျှင် ဖြစ်ရကုန်၏၊ ဆင်းရဲ ပင်ပန်းခြင်း၊ သေဆုံး ပျက်စီးခြင်းသာလျှင် ဖြစ်ရကုန်၏။

"ရဟန်းတို့၊ ဤအတူသာလျှင်တည်း၊ ဤသာသနာတော်၌ မထေရ်ကြီး ရဟန်းတို့သည် ရွာ နိဂုံးတို့သို့ ဝင်၍ ဆွမ်းခံကုန်၏၊ တရားလည်းဟော ကြားကုန်၏၊ ထိုအခါ လူတို့သည် ကြည်ညိုသဖြင့် လှူဒါန်း ပူဇော်ခြင်း ပြုကြကုန်၏။

"မထေရ်ကြီး ရဟန်းတို့သည် ပညာနှင့် ပြည့်စုံကုန်သည် ဖြစ်သော ကြောင့် ထိုထိုသော လာဘ်တို့ကို မတပ်မက်ကုန်သည်ဖြစ်၍၊ သာယာ နှစ်သက်ခြင်း၊ တွေဝေခြင်း၊ နှောင်ဖွဲ့ခြင်း မရှိကုန်သည် ဖြစ်၍သာလျှင် သုံးဆောင်ကြကုန်၏။

"ထို့ကြောင့် ထို မထေရ်ကြီး ရဟန်းတို့အား ထိုထိုသော လာဘ် ပူဇော်ခြင်းများကြောင့် အစာ အာဟာရ ဟူသော အကျိုးကျေးဇူး သာလျှင် ရရှိကုန်၏၊ အန္တရာယ် မဖြစ်ကုန်၊ ဆင်းရဲပင်ပန်းခြင်း၊ သေဆုံး ပျက်စီးခြင်းသို့ မရောက်ရှိနိုင်ကုန်သည်သာတည်း။

"ရဟန်းငယ်တို့သည် မထေရ်ကြီး၊ ရဟန်းတို့ကို အတူ လိုက်၍ ရွာ နိဂုံးသို့ ဝင်၍ ဆွမ်းခံကုန်၏၊ တရားလည်း ဟောကြားကုန်၏၊ ထိုအခါ လူတို့သည် ကြည်ညိုသဖြင့် လှူဒါန်းပူဇော်ခြင်း ပြုကြကုန်၏။

"ထိုရဟန်းငယ်တို့သည် ပညာ နုနယ်သည်သာ ဖြစ်ရကား ထိုထိုသော လာဘ်တို့ကို တပ်မက် တွယ်တာကြကုန်သည်ဖြစ်၍ သာယာနှစ်သက်ခြင်း၊ တွေဝေခြင်း၊ နှောင်ဖွဲ့ခြင်း ရှိကုန်သည် ဖြစ်၍ သုံးဆောင်ကြကုန်၏။

"ထို့ကြောင့် ရဟန်းငယ်တို့အား ထိုထိုသော လာဘ်ပူဇော်ခြင်းများ ကြောင့် အစာ အာဟာရ ဟူသော အကျိုးကျေးဇူး မဖြစ်နိုင်ပေ၊ အန္တရာယ်သာလျှင် ဖြစ်နိုင်ကုန်၏၊ ဆင်းရဲပင်ပန်းခြင်း၊ သေဆုံးပျက်စီး ခြင်းသို့သာလျှင် ရောက်နိုင်ရာသည်တည်း။

"ရဟန်းတို့၊ ငါ့သာသနာတော်၌ သေဆုံး ပျက်စီးခြင်း ဟူသော အမည်သည် ရဟန်း၏ ကျင့်ဝတ် သိက္ခာ ဆုံးရှုံးခြင်း၏ အမည်တည်း၊ ဆင်းရဲ ပင်ပန်းခြင်း ဟူသော အမည်သည် ရဟန်း၏ ကျင့်ဝတ် သိက္ခာ လွန်စွာ ညှိုးနွမ်းခြင်း၏ အမည်တည်း"

[-နာဂသုတ်]

## ကြောင်နှင့် ကြွက်

"အို ရဟန်းငယ်၊ မြို့ထဲ ရပ်ထဲမှာ လှည့်လည် သွားလာခြင်း မပြုသင့်ပါ၊ လူနေအိမ်များမှာ ကြာရှည်စွာ ထိုင်နေပြီး မိန်းမ ယောက်ျားများနှင့် ရောနှောခြင်း မပြုသင့်ပါ၊ မြတ်စွာဘုရားသည် ထိုသို့မပြုရန် တားမြစ် ထားပါသည်။

မထေရ်ကြီးများက ရဟန်းငယ် တစ်ပါးအား သတိပေး ပြောကြား ခြင်းဖြစ်၏။ ထို ရဟန်းငယ်သည် မည်သို့မျှ ပြန်မပြောပေ။ မထေရ်ကြီး

များ၏ သတိပေးခြင်းကို မနာယူပေ။ ရပ်ထဲ ရွာထဲသို့ သွားမြဲသွား၏။ လူများနှင့် ရောနှော ပြောဆိုမြဲပင် ဖြစ်၏။

ထိုအခါ မထေရ်ကြီးများက မြတ်စွာဘုရားအား ထိုအကြောင်းကို လျှောက်ကြားကြလေသည်။ မြတ်စွာဘုရားက ထိုအကြောင်းနှင့် စပ်လျဉ်း၍ မြွက်ကြားတော်မူ၏။

"ရဟန်းတို့၊ ရှေးအခါက ဖြစ်ခဲ့ဖူးသည်မှာ ကြောင်တစ်ကောင်သည် ကြွက်ငယ်တစ်ကောင်ကို ဖမ်းစားရန် ရှာဖွေလေ၏၊ ကြွက်ငယ်ကို မတွေ့သဖြင့် အိမ်ခြံစပ် စားကြွင်း စားကျန်များ စွန့်ပစ်ရာ အမှိုက်ပုံအနီး၌ စောင့်နေလေ၏၊ 'ကြွက်ငယ်သည် အစာရှာရန် အတွက် ဤအမှိုက်ပုံသို့ မုချလာလိမ့်မည်'ဟု မျှော်လင့်ထားလေ၏။

"မျှော်လင့်ထားသည့်အတိုင်း ကြွက်ငယ် ရောက်ရှိလာရာ ကြောင်သည် ရုတ်တရက် အုပ်ဖမ်းလိုက်လေ၏၊ ထို့နောက် ကြွက်ငယ်ကို ကောင်းစွာ ကိုက်ဝါး၍ မစားဘဲ အလျင် အမြန် မျိုချလိုက်သဖြင့် ကြွက်ငယ်သည် ကြောင်၏ အူမ အူသိမ်တို့ကို ကိုက်ခဲလေ၏။

"ရဟန်းတို့၊ ထိုအခြင်းအရာကို ဆင်ခြင်၍ကြည့်ကြကုန်လော့၊ ကြောင်သည် သေသော်လည်း သေမည်၊ သေလောက်သော ဝေဒနာကို သော်လည်း ခံစားရမည် မဟုတ်လော။

"ရဟန်းတို့၊ ကိုယ်၊ နှုတ်၊ စိတ် ဣန္ဒြေတို့ကို မစောင့်ထိန်းဘဲ ရွာနိဂုံးသို့ သွားလေ့ရှိသော ရဟန်းသည် မာတုဂါမ တို့ကို မြင်တွေ့လျက် တပ်စွန်းခြင်း ရာဂ၏ နှိပ်စက်ခြင်းကို ခံရမည်တည်း၊ ထိုရဟန်းသည် ရာဂနှိပ်စက်မှုကြောင့် သေသော်လည်း သေမည်၊ သေလောက်သော ဝေဒနာကို သော်လည်း ခံစားရမည်သာတည်း။

ကြောင်ဟူသော အမည်၊ ကြွက်ဟူသော အမည်၊ အမှိုက်ပုံ ဟူသော အမည်၊ အစာအတွက်ရှာဖွေခြင်းဟူသော အမည်၊ အလျင်အမြန် မျိုချခြင်း ဟူသော အမည်၊ အူမ အူသိမ်ဟူသော အမည်၊ ကိုက်ခဲခြင်းဟူသော အမည် တို့သည် ဥပမာစကားတို့ပေတည်း။

[–ဗိဠာရသုတ်]

## ဆေးလိမ်းခြင်း ဆီလိမ်းခြင်း

ဤလောက၌ အတိုင်းအရှည် ပမာဏကို သိသူဖြစ်ရန် လွန်စွာ အရေးကြီးပေ၏။ မည်သည့် အာဟာရ၊ မည်သည့် အမှုကိစ္စဥ်ဖြစ်စေ အတိုင်းအရှည် ပမာဏကို သိခြင်းသည် အရင်းမူလ ပဓာန ကျမလသည်။ ထို့ကြောင့်ပင် သာသနာတော်၌ ရဟန်းသည် အစားအစာကို ပညာဖြင့် ဆင်ခြင် မှီဝဲ၏။

အစာစားခြင်းဖြင့် အသား အရေ တိုးပွားရန်၊ ရုပ် အဆင်းလှပ ကြည်လင်ရန်၊ ပျော်ရွှင်မြူးထူးရန် ဟူသော ရှေးရှုစိတ်ဖြင့် ရဟန်းသည် အစားအစာကို မမှီဝဲပေ။

အစာစားခြင်းဖြင့် ခန္ဓာကိုယ် တည်တံ့ရန်မျှသာ၊ အနာရောဂါကို တာကွယ် တားဆီးရန်မျှသာ၊ သွေးလေမျှတ၍ ပင်ပန်းခြင်းကိုဖြေဖျောက် ရန်မျှသာ၊ အကျင့်မြတ်ကို အားထုတ်နိုင်ရန်မျှသာ ဟူသော ရှေးရှုစိတ် ဖြင့် ရဟန်းသည် အစားအစာကို မှီဝဲလေသည်။

ဥပမာအားဖြင့် အနာရောဂါစွဲကပ်သူသည် သူ၏အနာကို အသားနုတက်ရန်သာလျှင် ဆေးလိမ်းသကဲ့သို့တည်း။ လှည်းဝင်ရိုး၊ ရထားဝင်ရိုးများကို ကုန်ပစ္စည်း တင်ဆောင်၍ သွားနိုင်ရန်သာလျှင် ဆီလိမ်းပေးသကဲ့သို့တည်း။

ဤသို့လျှင် ရဟန်းသည် အစားအစာ၌ အတိုင်းအရှည် ပမာဏကို ပညာဖြင့် ဆင်ခြင်၍ သိသူဖြစ်၏။

[သဠာယတနသံယုတ်၊ ရထောပမသုတ်]

## ရှေနစ်သူနှင့် မြက်ပင်

ဤလောက၌ ပညာမဲ့ကုန်သော သူတို့သည်၊ ပညာရှိသူတို့ထံ ဆည်းကပ် ဆုံတွေ့ခြင်း မရှိသူတို့သည်၊ သူတော်ကောင်း တရား၌ မကျွမ်းကျင် မလိမ္မာကုန်သော သူတို့သည်၊ သူတော်ကောင်းတို့ထံ ဆည်းကပ် ဆုံတွေ့ခြင်း မရှိသူတို့သည် အလွဲအမှားကို ရှုမြင်၍ သုံးသပ်လေ့ရှိ၏။

ရုပ်ကို အတ္တဟု ရှုမြင်၏။ ရုပ်၌ အတ္တကိုလည်းကောင်း၊ အတ္တ၌ရုပ်ကိုလည်းကောင်း ရှုမြင်၏။

ဝေဒနာ၌၊ သညာ၌၊ သင်္ခါရ၌၊ ဝိညာဏ်၌ အတ္တဟု ရှုမြင်၏။

အတ္တ၌ ဝေဒနာကို ရှု၏။ အတ္တ၌ သညာကို ရှု၏။ အတ္တ၌ သင်္ခါရကို ရှု၏။ အတ္တ၌ ဝိညာဏ်ကို ရှု၏။

ထိုသူ၏ ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏ်တို့သည် ပျက်စီးကုန်၏။

ထိုသို့ အလွဲအမှားကို ရှုမြင်သော ထိုသူသည် အကျိုးမဲ့ ပျက်စီးခြင်းသို့ ရောက်ရလေ၏။ ဥပမာအားဖြင့်–

အထက်မှ အောက်သို့ အဟုန်ပြင်းစွာဖြင့် စီးဆင်းနေသော မြစ်တစ်ခုသည် ရှိ၏။ ထိုမြစ်၏ ကမ်းပါးပေါ်၌ ဖောင်းခါးမြက်၊ သမန်းမြက်၊ ဖြူဆန်မြက်တို့သည် ပေါက်ရောက်လျက် ရှိ၏။ မြစ်ဘက်သို့ ကိုင်းညွတ်တွဲကျလျက် တည်ရှိလေ၏။

ထို ရေစီးသန်သော မြစ်ဝယ် ယောကျ်ားတစ်ယောက်သည် ရေစီးအရှိန်ဖြင့် မျောပါလာလေသည်။

ထို ယောကျ်ားသည် မြစ်ကမ်းပါးဘက်မှ ဖောင်းခါးမြက်ပင်၊ သမန်းမြက်ပင်၊ ဖြူဆန်မြက်ပင်တို့ကို ဆွဲကိုင် ဖမ်းဆုပ်ထားလေ၏။

သို့သော် ထိုမြက်ပင်တို့သည်သာ အမြစ်နှင့်တကွ ကျွတ်၍ ကျွတ်၍ ပါလာကုန်သည်။ ထိုယောကျ်ားအား အန္တရာယ်မှ မလွတ်မြောက်ပေ။

[ခန္ဓသံယုတ်၊ နဒီသုတ်]

## ခန္ဓာငါးပါး နိမိတ်ယူပုံ

ဗုဒ္ဓမြတ်စွာသည် အယုဇ္ဈမြို့ ဂင်္ဂါမြစ်ကမ်း၌ သီတင်းသုံး နေတော်မူစဉ် ရဟန်းတို့အား ခန္ဓာငါးပါး၏ အနှစ်သာရ ကင်းမဲ့ပုံကို ဥပမာဖြင့် ဟောကြားလေသည်။

## ရေမြှုပ်ပမာ ရုပ်ခန္ဓာ

"ရဟန်းတို့၊ ဤဂင်္ဂါမြစ်၌ ကြီးစွာသော ရေမြှုပ်စိုင်သည် ဖြစ်ပေါ်ရာ၏၊ ထိုအခါ မျက်စိကောင်းသော ယောကျ်ားသည် ရေမြှုပ်စိုင်ကြီးကို ကြည့်ရှုရာ၏၊ တစိမ့်စိမ့်ကြည့်ရှု၍ ဆင်ခြင်ရာ၏၊ ထိုသို့ ကြည့်ရှုဆင်ခြင်နေစဉ် ထိုယောကျ်ား၏ အသိစိတ်၌ ရေမြှုပ်စိုင်ကြီးသည် ဘာမျှ အသုံးမကျ၊ အချည်းနှီးသာ ဖြစ်ပုံသည် ထင်ရာ၏၊ အနှစ် ကင်းမဲ့သော ရေမြှုပ်စိုင်ကြီးပေ တကားဟု ထင်မြင်လာရာ၏၊ ဤကား ဥပမာပေတည်း။

"ရဟန်းတို့၊ ဝဋ္ဋဒုက္ခမှ လွတ်မြောက်၍ အေးငြိမ်း ချမ်းသာခြင်းကို အလိုရှိသော ပုဂ္ဂိုလ်သည် ရုပ် အားလုံးကို ကြည့်ရှုရာ၏၊ တစိမ့်စိမ့် ကြည့်ရှု၍ ဆင်ခြင်ရာ၏၊ ထိုသို့ ရှုဆင်ခြင်စဉ် 'ရုပ် အပေါင်းသည် အချည်းနှီးသာတည်း၊ အနှစ်ကင်းမဲ့သည်သာတည်း၊ နှစ်သက် သာယာဖွယ် မရှိသည်သာတည်း' ဟု ထိုပုဂ္ဂိုလ်၏ အသိစိတ်၌ ထင်မြင်လာရာသည်သာတည်း။

## ရေပွက်ပမာ ဝေဒနာ

"ရဟန်းတို့၊ မိုးကြီးရွာသွန်းသော အခါ ရေပွက်သည် ရေ၌ ဖြစ်လည်း ဖြစ်ပေါ်၏၊ ပျောက်လည်း ပျောက်ကွယ်၏၊ မျက်စိ ကောင်းသော ယောကျ်ားသည် ထိုရေပွက်ကို တစိမ့်စိမ့် ကြည့်ရှုလျက် ဆင်ခြင်၍ ကြည့်ရှုလျက်ရှိစဉ် 'ထို ရေပွက်သည် ဘာမျှအသုံးမကျ၊ အချည်းနှီးသာတည်း၊ အနှစ်ကင်းမဲ့သည်သာတည်း' ဟူ၍ အသိစိတ်၌ ထင်မြင် လာရာသည်သာတည်း။

"ထိုနည်းတူစွာပင် တရားကို အလိုရှိသော အကြင် ပုဂ္ဂိုလ်သည် ဝေဒနာ အားလုံးကို အကြိမ်ကြိမ် ရှု ဆင်ခြင်ရာ၌ 'အသုံးမကျအချည်းနှီးသာတည်း၊ အနှစ်သာရ ကင်းမဲ့သည်သာတည်း' ဟု ထိုပုဂ္ဂိုလ်၏ အသိစိတ်၌ ထင်မြင်လာရာသည်သာတည်း။

## တံလျှပ်ပမာ ထိုသညာ

"ရဟန်းတို့၊ နွေဥတုအခါ မွန်းတည့်ချိန်၌ တံလျှပ်သည် တဖျပ်ဖျပ် ဖြစ်ပေါ် တုန်လှုပ်၏၊ ပျောက်ကွယ် ချုပ်ငြိမ်း၏၊ မျက်စိကောင်းသော

ယောကျ်ားသည် ထိုတံလျှပ်ကို တစိမ့်စိမ့် ကြည့်ရှု ဆင်ခြင်ရာ၌ 'ဘာမျှ အသုံးမကျ၊ အချည်းနှီး အနှစ် ကင်းမဲ့လေသည်သာတည်း' ဟု ထို ယောကျ်ား၏ အသိစိတ်၌ ထင်မြင်လာရာသည်သာတည်း။

"ထိုနည်းတူစွာပင် တရားကို အလိုရှိသော ပုဂ္ဂိုလ်သည် သညာ အားလုံးကို အကြိမ်ကြိမ် ရှုဆင်ခြင်ရာ၌ 'ဘာမျှ အသုံးမကျ အချည်းနှီး သာတည်း၊ အနှစ်သာရ ကင်းမဲ့သည်သာတည်း' ဟုထို ပုဂ္ဂိုလ်၏ အသိ စိတ်၌ ထင်မြင်လာရာသည်သာတည်း။

## သင်္ခါရထုံး ငှက်ပျောတုံး

"ရဟန်းတို့၊ ယောကျ်ားတစ်ယောက်သည် အနှစ်သားကို လိုချင်သဖြင့် ဓားကို ကိုင်ကာ တောသို့ ဝင်လေ၏၊ တောတွင်း၌ ဖြောင့်မတ်လတ်ဆတ် သော ငှက်ပျောတုံးကို တွေ့မြင်သဖြင့် အရင်းနှင့် အဖျားကို ခုတ်ဖြတ် လေ၏။ ထို့နောက် ငှက်ပျောတုံးကြီး၏ အဖပ်များကို တစ်လွှာပြီး တစ်လွှာ အစဉ်အတိုင်း လှီး၍ ခွာလေ၏၊ ငှက်ပျောတုံးကြီး၏ အဖပ်လွှာ တို့သည် ကုန်ဆုံးသွားသော်လည်း အနှစ် သားကို မတွေ့ရပေ၊ ထို ယောကျ်ားသည် ငှက်ပျောတုံးကြီးကို တစိမ့်စိမ့် ကြည့်ရှု ဆင်ခြင်ရာ၌ 'ဘာမျှ အသုံးမကျ၊ အချည်းနှီး၊ အနှစ် ကင်းမဲ့သည်သာတည်း' ဟု ထိုယောကျ်ား၏ အသိစိတ်၌ ထင်မြင်လာရာသည်သာတည်း။

"ထိုနည်းတူစွာပင် တရားကို အလိုရှိသော အကြင် ပုဂ္ဂိုလ်သည် သင်္ခါရ အားလုံး၌ အကြိမ်ကြိမ် ရှု ဆင်ခြင်ရာတွင် 'ဘာမျှ အသုံးမကျ အချည်းနှီး၊ အနှစ်ကင်းမဲ့သည်သာတည်း' ဟု ထိုပုဂ္ဂိုလ်၏ အသိစိတ်၌ ထင်မြင်လာရာသည်သာတည်း။

## ဝိညာဏ်ဟူသည် ထိုမျက်လှည့်

"ရဟန်းတို့၊ မျက်လှည့်သမားသည် လမ်းဆုံ လမ်းမ၌ မျက်လှည့်ပြလျက် ရှိနေ၏၊ မျက်စိ ကောင်းသော ယောကျ်ားသည် ထိုမျက်လှည့်ပြခြင်းကို တစိမ့်စိမ့် စူးစူးစိုက်စိုက် ဆင်ခြင်၍ ကြည့်ရှုလေ၏၊ ယင်းသို့ကြည့်စဉ် 'မျက်လှည့် ဟူသည်မှာ ဘာမျှ မဟုတ်၊ ဘာမျှအသုံးမကျ၊ အချည်းနှီး

အနှစ်သာရ ကင်းမဲ့သည်သာတည်း'ဟု ထိုယောကျ်ား၏ အသိစိတ်၌ထင်မြင်လာရာသည်သာတည်း။

"ထိုနည်းတူပင် တရားအလိုရှိသော ပုဂ္ဂိုလ်သည် ဝိညာဏ်အားလုံးကို အကြိမ်ကြိမ်အထပ်ထပ် ကြည့်ရှု ဆင်ခြင်ရာ၌ 'ဘာမျှ အသုံးမကျ၊ အချည်းနှီး၊ အနှစ်သာရ ကင်းမဲ့သည်သာတည်း'ဟု ထိုပုဂ္ဂိုလ်၏ အသိစိတ်၌ ထင်မြင်လာရာသည်သာတည်း။

"ရဟန်းတို့၊ ဤသို့လျှင် အကြားအမြင် ပညာ ဉာဏ် ရှိသော ပုဂ္ဂိုလ်သည် ရုပ်ကိုလည်း အပြစ်ဟု ရှုမြင်ငြီးငွေ့၏၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏ်တို့ကိုလည်း အပြစ်ဟု ရှုမြင် ငြီးငွေ့၏။

"ထိုသို့ ငြီးငွေ့သော် စွဲမက် တွယ်တာခြင်း ကင်း၏၊ စွဲမက် တွယ်တာခြင်းကင်းသော် ကိလေသာတို့မှ လွတ်မြောက်၏၊ ကိလေသာတို့မှ လွတ်မြောက်သော် 'လွတ်မြောက်ပြီ'ဟု အသိဉာဏ် ဖြစ်ပေါ်၏၊ ထိုအခါ အရဟတ္တဖိုလ်အလို့ငှာ ဖြစ်ပြီးသည်း၊ မဂ်ကိစ္စ အလို့ငှာ အခြား ပြုဖွယ်ကိစ္စ မရှိပြီတည်း"

[—ဖေဏပိဏ္ဍူပမသုတ်]

ရေမြှုပ်ပမာ ရုပ်ခန္ဓာ

ရေပွက်ပမာ ဝေဒနာ

တံလှပ်ပမာ ထိုသညာ

သင်္ခါရထုံး ငှက်ပျောတုံး

ဝိညာဏ်ဟူဘိ ထိုမျက်လှည့်

## လယ်ထွန်ခြင်း အနိစ္စသညာ

လယ်ထွန် ယောကျ်ား လယ်သမားသည် တန်ဆောင်မုန်းလ အခါတွင် လယ်ထဲ၌ ထွန်သည်ရှိသော် ဖွဲ့ယှက် တည်နေသော အမြစ် အားလုံးကို ခွဲလျက် ဖြတ်လျက် ထွန်လေ၏။ ပေါင်းပင်၊ မြက်ပင် တို့သည် လယ်ထဲ၌ ရှင်းလင်းသွားကုန်၏။

အကြွင်ပုဂ္ဂိုလ်သည် မမြဲ ဟူသော အမှတ် အနိစ္စသညာကို လေ့လာပွားများအပ်သည် ရှိသော် ကာမရာဂ တို့၌ စွဲမက်တွယ်တာမှုအားလုံးကို ရှင်းလင်း ကုန်ဆုံးစေနိုင်၏။ ဘဝ၌ စွဲမက်တွယ်တာမှုအားလုံးကို ရှင်းလင်း ကုန်ဆုံးစေနိုင်၏။ အဝိဇ္ဇာ အားလုံးကို ရှင်းလင်း ကုန်ဆုံးစေနိုင်၏။ ငါ ဟူသော မာနအားလုံးကို ရှင်းလင်း ကုန်ဆုံးစေနိုင်၏။ နုတ်ပယ်ပစ်နိုင်၏။

[=အနိစ္စသညာသုတ်]

## ကပ်ငြိမှု ဟူသည်မှာ

ဗုဒ္ဓမြတ်စွာသည် သာဝတ္ထိပြည် ဇေတဝန် ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် အရှင်ရာဓသည် ဗုဒ္ဓအား မလျှောက်ကြား၏။

"အရှင်ဘုရား၊ ကပ်ငြိမှု-ကပ်ငြိမှု' ဟု ဆိုရာ၌ အဘယ်သို့ မှတ် ရပါမည်နည်း၊ အဘယ်မျှလောက်ဖြင့် 'ကပ်ငြိမှု'ဟု ဆိုအပ်ပါသနည်း"

"ရာဓ၊ ကောင်းစွာ မှတ် သား လော့၊ ကပ်ငြိမှု ဟူသည်ကို ဟော ကြားပေအံ့။

"ရာဓ၊ ကပ်ငြိမှု ဟူသည်မှာ ဆန္ဒ၊ ရာဂ၊ နန္ဒီ၊ တဏှာတို့၏ အမည် ပေတည်း။

"ဆက်လက်၍ မှတ်သားဦးလော့ ရာဓ၊ ရုပ်၌ ဖြစ်စေ၊ ဝေဒနာ၌ ဖြစ်စေ၊ သညာ၌ ဖြစ်စေ၊ သင်္ခါရတို့၌ ဖြစ်စေ၊ ဝိညာဏ်၌ ဖြစ်စေ လိုချင်မှု ဆန္ဒ၊ စွဲမက် တွယ်တာမှုရာဂ၊ နှစ်သက်မှု နန္ဒီ၊ တပ်မက်မှု တဏှာ တို့ကို 'ကပ်ငြိမှု' ဟု ဆိုအပ်ပေ၏၊ ဥပမာဖြင့် ထင်စွာ ပြဦးအံ့။

## သူငယ်တို့ အိမ်ဆောက်ခြင်း

"ကလေး သူငယ်တို့သည် မြေမှုန့် သဲလဲမှုန့်တို့ဖြင့် အိမ် ဆောက်လုပ်၍ ကစားကြလေ၏၊ ထို မြေမှုန့် သဲလဲမှုန့်အိမ်များကို ခင်မင်ခြင်း၊ တွယ်တာခြင်း၊ လိုချင် တပ်မက်ခြင်း ရှိနေသမျှ ကာလပတ်လုံး သူငယ်တို့သည် ကစားလျက်သာ နေကုန်၏။

"ထိုကဲ့သို့သော သူငယ်တို့သည် မြေမှုန့် သဲလဲမှုန့် အိမ်များကို ခင်မင်ခြင်း၊ တွယ်တာခြင်း၊ လိုချင် တပ်မက်ခြင်း မရှိတော့သော အခါ၌သာ ဖျက်ဆီး ကြဲဖြန့်ပစ်လိုက်ကြသော ကစားမှုကို ရပ်စဲကြလေတော့၏။

"ရာဓ၊ သင်တို့သည်လည်း ရုပ်ကို ဖျက်ဆီးကြဲဖြန့် ပစ်ကြကုန်လော့၊ ဝေဒနာ-သညာ-သင်္ခါရ-ဝိညာဏ်တို့ကို ဖျက်ဆီး ကြဲဖြန့်ပစ်ကြကုန်လော့၊ ကစားမှုကို ပြီးဆုံးကြကုန်လော့၊ တဏှာ ကုန်အောင် ကျင့်သုံး ဆောက်တည်ကြကုန်လော့။

"ဤစကားသည် မှန်၏၊ ရာဓ၊ တဏှာကုန်ခြင်းသည် နိဗ္ဗာန်ပင် ဖြစ်သတည်း"

[ရာဓသံယုတ်၊ သတ္တသုတ်]

## သမုဒ္ဒရာကြီး ခြောက်စင်း

ဤလောက၌ အချို့သော သူတို့သည် 'သမုဒ္ဒရာ-သမုဒ္ဒရာ' ဟု ပြောဆိုလေ့ ရှိကြ၏။

ဤသို့ ပြောဆိုအပ်သောအရာသည် မြတ်စွာဘုရား၏ အသုံးအမှု၌ သမုဒ္ဒရာ မဟုတ်ပေ။ ကြီးကျယ် များပြားသော ရေအစု ရေအပြင်သာလျှင် ဖြစ်၏။

### မျက်စိသမုဒ္ဒရာ

စင်စစ်အားဖြင့် သမုဒ္ဒရာတို့၏ မျက်စိသည် သမုဒ္ဒရာ မည်ပေ၏။ ထိုမျက်စိ သမုဒ္ဒရာ၌ အဆင်းရူပါရုံတည်းဟူသော အဟုန်အရှိန်သည် ရှိ၏။

အကြင်သူသည် ထိုအဆင်းတည်းဟူသော အဟုန် အရှိန်ကို သည်းခံနိုင်ငြားအံ့၊ ထိုသူသည် မျက်စိ သမုဒ္ဒရာကို ကူးမြောက်ပြီးသူ ဖြစ်၏။ လှိုင်းတေး၊ ဝဲဂယက်တေး၊ ရေသတ္တဝါကြီးတို့၏ ဘေးတို့ကို ကျော်လွန်ပြီးသူ ဖြစ်၏၊ ကမ်းတစ်ဖက်သို့ ရောက်ရှိပြီးသူ ရဟန္တာ ဖြစ်၏။

## နားသမုဒ္ဒရာ

သတ္တဝါတို့၏ နားသည် သမုဒ္ဒရာ မည်ပေ၏။ ထို နားသမုဒ္ဒရာ၌ အသံ သဒ္ဒါရုံ တည်းဟူသော အဟုန် အရှိန်သည် ရှိ၏။

အကြင်သူသည် ထိုအသံတည်းဟူသော အဟုန်အရှိန်ကို သည်းခံနိုင်ငြားအံ့၊ ထိုသူသည် နားသမုဒ္ဒရာကို ကူးမြောက်ပြီးသူ ဖြစ်ပေ၏။ လှိုင်းဘေး၊ ဝဲဂယက်ဘေး၊ ရေသတ္တဝါကြီးများ၏ဘေး တို့ကို ကျော်လွန်ပြီးသူ ဖြစ်၏။ တစ်ဖက်ကမ်းသို့ ရောက်ရှိပြီးသူ ရဟန္တာ ဖြစ်၏။

## နှာခေါင်း သမုဒ္ဒရာ

သတ္တဝါတို့၏ နှာခေါင်းသည် သမုဒ္ဒရာ မည်ပေ၏၊ ထိုနှာခေါင်းသမုဒ္ဒရာ၌ အနံ့-ဂန္ဓာရုံ တည်းဟူသော အဟုန်အရှိန်သည် ရှိ၏။

အကြင်သူသည် ထိုအနံ့တည်းဟူသော အဟုန်အရှိန်ကို သည်းခံနိုင်ငြားအံ့၊ ထိုသူသည် နှာခေါင်းသမုဒ္ဒရာကို ကူးမြောက်ပြီးသူ ဖြစ်၏။ လှိုင်းဘေး၊ ဝဲဂယက်ဘေး၊ ရေသတ္တဝါကြီးများ၏ဘေးတို့ကို ကျော်လွန်ပြီးသူ ဖြစ်ပေ၏။ ကမ်းတစ်ဘက်သို့ ရောက်ရှိပြီးသူ ရဟန္တာ ဖြစ်၏။

## လျှာသမုဒ္ဒရာ

သတ္တဝါတို့၏ လျှာသည် သမုဒ္ဒရာ မည်ပေ၏။ ထိုလျှာသမုဒ္ဒရာ၌ အရသာ ရသာရုံတည်းဟူသော အဟုန်အရှိန် ရှိ၏။

အကြင်သူသည် ထိုအရသာ တည်းဟူသော အဟုန် အရှိန်ကို သည်းခံနိုင်ငြားအံ့၊ ထိုသူသည် လျှာသမုဒ္ဒရာကို ကူးမြောက်ပြီးသူ ဖြစ်၏။ လှိုင်းဘေး၊ ဝဲဂယက်ဘေး၊ ရေသတ္တဝါကြီးများ၏ ဘေးတို့ကိုကျော်လွန်ပြီးသူ ဖြစ်၏။ ကမ်းတစ်ဖက်သို့ ရောက်ရှိပြီးသူ ရဟန္တာ ဖြစ်၏။

## ကာယသမုဒ္ဒရာ

သတ္တဝါတို့၏ ကိုယ်ခန္ဓာသည် သမုဒ္ဒရာ မည်ပေ၏။ ထို ကိုယ်သမုဒ္ဒရာ၌ အတွေ့အထိ ဖောဋ္ဌဗ္ဗာရုံ တည်းဟူသော အဟုန်အရှိန်သည် ရှိ၏။

အကြင်သူသည် ထိုအတွေ့တည်းဟူသော အဟုန်အရှိန်ကို သည်းခံနိုင်ငြားအံ့၊ ထိုသူသည် ကိုယ် သမုဒ္ဒရာကို ကူးမြောက်ပြီးသူ ဖြစ်၏။

လှိုင်းဘေး၊ ဝဲဂယက်ဘေး၊ ရေသတ္တဝါကြီးများ၏ ဘေးတို့ကို ကျော်လွန်ပြီးသူဖြစ်၏၊ ကမ်းတစ်ဖက်သို့ ရောက်မှုပြီးသူ ရဟန္တာဖြစ်၏။

## စိတ်သမုဒ္ဒရာ

သတ္တဝါတို့၏စိတ်သည် သမုဒ္ဒရာမည်ပေသည်။ ထိုစိတ် သမုဒ္ဒရာ၌ သဘောတရား ဓမ္မာရုံတည်း ဟူသော အဟုန် အရှိန်သည် ရှိ၏။

အကြင်သူသည် ထိုသဘောတရားတည်း ဟူသော အဟုန် အရှိန်ကို သည်းခံနိုင်ခြင်းအား၊ ထိုသူသည် စိတ်သမုဒ္ဒရာကို ကူးမြောက်ပြီးသူ ဖြစ်၏။ လှိုင်းဘေး၊ ဝဲဂယက်ဘေး၊ ရေသတ္တဝါကြီးများ၏ ဘေးတို့ကို ကျော်လွန်ပြီးသူ ဖြစ်၏။ တစ်ဖက်ကမ်းသို့ ရောက်ရှိပြီးသူ ရဟန္တာဖြစ်၏။

[သဠာယတနသံယုတ်၊ သမုဒ္ဒသုတ်]

## အစေးမထွက်သော သစ်ပင်

အကြင်သူသည် မြင်အပ်သော အဆင်းရူပါရုံတို့၌ စွဲမက်မှုရာဂ ရှိနေ၏၊ အမျက်ထွက်မှု ဒေါသ ရှိနေ၏၊ တွေဝေမှု မောဟရှိနေပေ၏။ ရာဂ၊ ဒေါသ၊ မောဟတို့ကို မပယ်အပ်သေး။

ထိုသူသည် အဆင်းရူပါရုံ၌ သည်းခံမှု မရှိပေ။ အဆင်းရူပါရုံသည် ထိုသူ၏ မျက်စိကို ဆွဲဆောင်နိုင်ပေ၏။ ရာဂ၊ ဒေါသ၊ မောဟတို့ကို မပယ်အပ်သေးသောကြောင့်တည်း။

ယင်းသို့လျှင် ရာဂ၊ ဒေါသ၊ မောဟတို့ကို မပယ်ရ၊ မဖြတ်ရသေးသူသည် အဆင်း ရူပါရုံ၌ ဖြစ်စေ၊ အသံ သဒ္ဒါရုံ၌ ဖြစ်စေ၊ အနံ့ ဂန္ဓာရုံ၌ ဖြစ်စေ၊ အရသာ ရသာရုံ၌ ဖြစ်စေ၊ အတွေ့အထိ ဖောဋ္ဌဗ္ဗာရုံ၌ ဖြစ်စေ၊ သဘောတရား ဓမ္မာရုံ၌ ဖြစ်စေ သည်းခံနိုင်မှု မရှိပေ။ ထိုရူပါရုံ၊ သဒ္ဒါရုံ၊ ဂန္ဓာရုံ၊ ရသာရုံ၊ ဖောဋ္ဌဗ္ဗာရုံ၊ ဓမ္မာရုံတို့သည် ထိုသူ၏ စိတ်ကို ဆွဲဆောင်နိုင်ပေ၏။ ရာဂ၊ ဒေါသ၊ မောဟတို့ကို မပယ် မဖြတ်ရသေးသောကြောင့်တည်း။

ညောင်ပင်၊ ပိန္နဲပင် စသော အစေးရှိသည့် သစ်ပင်ကို ဓားဖြင့် ခုတ်ထစ်သည် ရှိသော် ထို သစ်ပင်မှ အစေး ယိုထွက် လာလေသည်။ ခုတ်ထစ်တိုင်းသော နေရာမှ အစေး ယိုထွက်လာလေသည်။

အဘယ့်ကြောင့်ဆိုသော် ထိုသစ်ပင်၌ အစေးရှိနေသောကြောင့်တည်း။

အစေးမကုန်ခန်းသေးသောကြောင့်တည်း။

အစေးမရှိသည့် သစ်ပင် မဟုတ်သောကြောင့်တည်း။

[=ခီရရုက္ခောပမသုတ်]

## လိပ်နှင့် မြေခွေး

ဝဋ်ဆင်းရဲမှ လွတ်မြောက်၍ အေးငြိမ်း ချမ်းသာခြင်းသို့ ရောက်ရှိလိုသူသည် ဣန္ဒြေတို့ကို စောင့်ရှောက်လျက် နေရာ၏။ ယင်းသို့ ဣန္ဒြေကို စောင့်ရှောက်လျက် နေသူအား ကိလေသာမာရ်သည့် မညှဉ်းဆဲနိုင်ပေ။ မနှိပ်စက်နိုင်ပေ။ ထို့ကြောင့် ချမ်းသာစွာ နေရ၏။

ဣန္ဒြေသည်ကား၊ စက္ခုန္ဒြေ၊ သောတိန္ဒြေ၊ ဃာနိန္ဒြေ၊ ဇိဝှိန္ဒြေ၊ မနိန္ဒြေတို့ပေတည်း။

ဥပမာဖြင့် ထင်စွာ ပြပေဦးအံ့။

လိပ်တစ်ကောင်သည် မြစ်ကမ်းနားတစ်လျှောက်၌ ကျင်လည်ကျက်စား နေ၏။ မြေခွေးတစ်ကောင်သည်လည်း မြစ်ကမ်းနား တစ်လျှောက်၌ ကျက်စားနေ၏။

မြေခွေးသည် လိပ်ကိုဖမ်းယူ ကိုက်စားရန် ရှာရှာလာလေ၏။

လိပ်သည် ထိုမြေခွေး လာနေသည်ကို မြင်သဖြင့် မိမိ၏ ဦးခေါင်း ခြေလက်တို့ကို မိမိပိုင် အခွံတွင်းသို့ သွင်းလျက် တည်ငြိမ်စွာ ရပ်တည် နေ၏။

မြေခွေးသည် လိပ်ကို ဖမ်းယူကိုက်စားရန် မတတ်နိုင်ပေ။ အဝေးသို့ ဖဲခွာသွားလေ၏။

### ကိလေသာမာရ် ထွက်ပြေးခြင်း

တရားကို အလိုရှိသော အကြင်ပုဂ္ဂိုလ်သည် အဆင်းရူပါရုံတို့၌ လည်းကောင်း၊ အသံ သဒ္ဒါရုံတို့၌ လည်းကောင်း၊ အနံ့ ဂန္ဓာရုံတို့၌ လည်းကောင်း၊ အရသာ ရသာရုံတို့၌ လည်းကောင်း၊ အတွေ့အထိ ဖောဋ္ဌဗ္ဗာရုံတို့၌ လည်းကောင်း၊ သဘောတရား ဓမ္မာရုံတို့၌ လည်းကောင်း

ထိန်းသိမ်း စောင့်ရှောက်ရာ၏။ ယောကျ်ား မိန်းမ စသော သဏ္ဌာန် နိမိတ်ကို မစွဲယူသင့်။ ပြုံးဟန် မဲ့ဟန်စသော သဏ္ဌာန်နိမိတ်ကို မစွဲယူသင့်။

ယင်းသို့ ဣန္ဒြေတို့ကို ထိန်းသိမ်း စောင့်ရှောက်လျက် နေသည်ရှိသော် တွယ်တာ မက်မောခြင်း၊ နှလုံးမသာယာခြင်းစသော အကုသိုလ် အယုတ်တရားတို့မှ ကင်း၏။

ထိုအခါ ညှဉ်းဆဲ နှိပ်စက်ရန် စောင့်စား မျှော်လင့်၍ နေသော ကိလေသာ မာရ်ယုတ်သည် ထိုပုဂ္ဂိုလ်ထံမှ ဖဲခွာသွားရသည်သာတည်း။ မြေခွေးသည် လိပ်၏ အပေါ်မှ ထွက်ခွာသွားသကဲ့သို့တည်း။

[=ကုမ္မောပမသုတ်]

## အားကြီးသူ နောက်သို့

လူတစ်ယောက်သည် သတ္တဝါခြောက်ကောင်ကို ခိုင်ခံ့သော ကြိုးဖြင့် စုပေါင်း၍ ချည်နှောင်ထားလေ၏။

မြွေ၊ မိကျောင်း၊ ငှက်၊ အိမ်ခွေး၊ တောခွေး၊ မျောက်။

ထို သတ္တဝါ ခြောက်ကောင်ကို ခိုင်ခံ့သော ကြိုးတစ်ချောင်းစီဖြင့် တစ်ပေါင်းစည်းစု၍ ချည်တွတ်ထားလေ၏။

ရင်းတို့သည် စားကျက် နယ်ပယ် တစ်မျိုးစီ ကျက်စားကြကုန်သည် ဖြစ်ရာ ဆာလောင် မွတ်သိပ်သောအခါ မိမိတို့ နေရင်းဒေသ ဆီသို့ ရုန်းကန်၍ ဆွဲကြလေ၏။

မြွေသည် တောင်ပို့ဆီသို့ ဆွဲ၏။ မိကျောင်းသည် မြစ်ဘက်သို့ဆွဲ၏။ ငှက်သည် ကောင်းကင်သို့ ရုန်းဆွဲ၏။ အိမ်ခွေးသည် ရွာဘက်သို့ ရုန်းဆွဲ၏။ တောခွေးသည် သုသာန်ကုန်း ရှိရာသို့ ဆွဲ၏။ မျောက်သည် တောတန်းဆီသို့ ဆွဲ၏။

ထိုအခြင်းအရာသည် မည်သို့ ဖြစ်လိမ့်မည်နည်း။

အားကြီးသော သတ္တဝါနောက်သို့ လိုက်ပါကြရမည် ဖြစ်၏။ ထို အားကြီးသော သတ္တဝါ၏ အလိုသို့သာလျှင် လိုက်ပါကြရမည် ဖြစ်၏။

မြွေက အားကြီးလျှင် တောင်ပို့သို့ လိုက်ပါ သွားကြရပေမည်။ မိကျောင်းက အားကြီးလျှင် မြစ်ထဲသို့ လိုက်ပါ သွားကြရပေမည်။ ငှက်က အားကြီးလျှင် ကောင်းကင်သို့ လိုက်ပါ သွားကြရပေမည်။ အိမ်ခွေးက အားကြီးလျှင် ရွာဘက်သို့၊ တောခွေးက အားကြီးလျှင် သုသာန်ကုန်းသို့၊ မျောက်က အားကြီးလျှင် တောအုပ်ဘက်သို့ လိုက်ပါ ကြရမည်တည်း။

ဤသည်ကား ဥပမာ ဖြစ်၏။

## မလိုတစ်မျိုး လိုတစ်မျိုး

အကြင်ပုဂ္ဂိုလ်သည် ခန္ဓာကိုယ်၌ မထင်သော သတိဖြင့် နေသည်ဖြစ်အံ့။ (ကာယဂတာ သတိကို အဖန်ဖန် ပွားများဆင်ခြင်မှု မပြုဘဲနေအံ့)

ထိုပုဂ္ဂိုလ်သည် ဣန္ဒြေတို့ကို မစောင့်စည်းနိုင်ပေ။ ထို့ကြောင့် အဆင်း ရူပါရုံကို မြင်သောအခါ နှစ်သက်ဖွယ်ဖြစ်လျှင် တပ်မက် စွဲလမ်း၏။ နှစ်သက်ဖွက် မဖြစ်လျှင် အမျက်ထွက်၏။

အသံ သဒ္ဒါရုံကို ကြားသောအခါ၊ အနံ့ ဂန္ဓာရုံကို နမ်းရှူရသော အခါ၊ အရသာ ရသာရုံကို စားသုံးရသောအခါ၊ အတွေ့အထိ ဖောဋ္ဌဗ္ဗာ ရုံကို တွေ့ထိသောအခါ၊ သဘောတရား ဓမ္မာရုံကို သိရ တွေးထင်ရသော အခါ ချစ်ခင် နှစ်သက်ဖွယ်ဖြစ်လျှင် တပ်မက်စွဲလမ်း၏။ ချစ်ခင်နှစ်သက် ဖွယ် မဖြစ်လျှင် အမျက် ထွက်၏။

ဆွဲဆောင်မှု အားကြီးရာသို့ လိုက်ပါသွားရလေ၏။

## တိုင်ငုတ် မြဲမြဲစိုက်

မြွေ၊ မိကျောင်း၊ ငှက်၊ အိမ်ခွေး၊ တောခွေး၊ မျောက် ဟူသော သတ္တဝါ ခြောက်ကောင်တို့ကို မြဲမြံစွာ စိုက်ထူထားသော တိုင်ငုတ်၌ ခိုင်ခံ့သော ကြိုးဖြင့် ချည်ထားပါမူ ရုန်း၍ မရတော့ပေ။ ဆွဲ၍

မရှိတော့ပေ။ သတ္တဝါ ခြောက်ကောင်တို့သည် ထိုငုတ်၏ ခြေရင်း၌ သာလျှင် ဝပ်စင်း တည်နေရပေမည်။

ထိုငုတ်သည် မြဲမြံသောကြောင့်တည်း။

ထိုငုတ်ဟူသော အမည်သည် ကာယဂတာသတိ၏ အမည်ပေတည်း။

[-ဆဠ္ဌာဏကောပမသုတ်]

## ဇာရပ်ပမာ ဤခန္ဓာ

ညီသည်တို့ တည်းခိုရန် ဆောက်လုပ်ထားသော ဇရပ်တစ်ဆောင်ကို ကြည့်ပါ။

ထိုဇရပ်၌ လူအမျိုးမျိုးတို့ ဝင်ရောက် နေထိုင်သည်ကို မြင်ရပေမည်။ နားခို စတည်းချသည်ကို မြင်ရပေမည်။

အရှေ့၊ အနောက်၊ တောင်၊ မြောက် အရပ်လေးမျက်နှာမှလာရောက် သူများသည် လည်းကောင်း၊ မိန်းမ၊ ယောကျ်ား၊ လူကြီး၊ လူငယ် တို့သည် လည်းကောင်း၊ ဆင်းရဲသူ၊ ချမ်းသာသူ၊ ဈေးရောင်းသူ၊ လယ်လုပ်သူ၊ နွားကျောင်းသူတို့သည် လည်းကောင်း၊ အသားမည်းသူ၊ အသားဖြူသူ၊ အဆင်းလှသူ၊ မလှသူ စသည်တို့သည် လည်းကောင်း ထိုဇရပ်၌ ဝင်လာ နားခိုကြသည်ကို မြင်ရပေမည်။

ဤခန္ဓာကိုယ်သည်လည်း ဇရပ်နှင့်တူပေ၏။ ဤခန္ဓာကိုယ်၌ ဝေဒနာ မျိုးစုံတို့ ဖြစ်ပေါ်ကြလေသည်။

သုခ ဝေဒနာလည်း ဖြစ်ပေါ်၏။ ဒုက္ခဝေဒနာလည်း ဖြစ်ပေါ်၏။ ဥပေက္ခာဝေဒနာလည်း ဖြစ်ပေါ်၏။

ကိလေသာ ကာမဂုဏ်နှင့် ယှဉ်သော သုခဝေဒနာ၊ ဒုက္ခဝေဒနာ၊ ဥပေက္ခာ ဝေဒနာတို့လည်း ဖြစ်ပေါ်၏။

ကိလေသာ ကာမဂုဏ်နှင့် မယှဉ် မစပ်သော သုခဝေဒနာ၊ ဒုက္ခ ဝေဒနာ၊ ဥပေက္ခာဝေဒနာတို့လည်း ဖြစ်ပေါ်၏။

[ဝေဒနာသံယုတ်၊ အဂါရသုတ်]

## တရားဟောခြင်း သုံးမျိုး

အသိဗန္ဓကၡာမ၏သား ရွာသူကြီးသည် မြတ်စွာဘုရားထံတော်သို့ ချဉ်းကပ်ရောက်ရှိလာပြီ·လျှင် လျှောက်ထားလေ၏။

"အရှင်မြတ်စွာဘုရား၊ မြတ်စွာဘုရားသည် သတ္တဝါ အားလုံးတို့၏အကျိုး စီးပွားကို လိုလားလျက်သာလျှင် နေတော်မူမည် မဟုတ်ပါလော"

"မှန်ပေသည် ရွာသူကြီး၊ သတ္တဝါ ခပ်သိမ်းတို့၏ အကျိုး စီးပွားကို လိုလားလျက် နေတော်မူ၏" ဟု ဗုဒ္ဓက ပြန်လည် မိန့်ကြားလေသည်။

"အရှင်ဘုရား၊ သို့ဖြစ်ပါလျက် မြတ်စွာဘုရားသည် အဘယ့်ကြောင့် သတ္တဝါ အချို့တို့အား ကောင်းမွန်ပြည့်စုံစွာ တရားဟော၍ သတ္တဝါ အချို့တို့အား ကောင်းမွန်ပြည့်စုံစွာ တရားမဟောပါသနည်း"

"ရွာသူကြီး၊ သင်မေးသောစကားကို ဖြေကြားရန်ရှိပေ၏၊ သင့်ကိုပင် မေးမြန်းဦးအံ့၊ သင်နှစ်သက်သလို ဖြေကြားလော့။

## လယ်ကွက် သုံးကွက်

"ရွာသူကြီး၊ လယ်သမားတစ်ဦးအား လယ်ကွက်သုံးကွက်ရှိသည် ဆိုပါတော့၊ အကောင်းစား လယ်ကွက်၊ အလတ်စားလယ်ကွက်၊ အညံ့စား လယ်ကွက်ဟူ၍ ရှိသည် ဆိုပါတော့။

"မိုးအခါ စပါး စိုက်ပျိုးတော့မည် ဆိုလျှင် ထို လယ်သမားသည် မည်သည့် လယ်ကွက်ကို ရှေးဦးစွာ စိုက်ပျိုးမည်နည်း၊ မည်သည့် လယ်ကွက်ကို ပိုမို အလေးအနက် ပြုမည်နည်း"

"အရှင်ဘုရား၊ ထိုလယ်သမားသည် အကောင်းစား လယ်ကွက်ကို ရှေးဦးစွာ စိုက်ပျိုးပါမည်၊ ပိုမို၍ အလေးအနက် ပြုပါမည်"

"အဘယ့်ကြောင့်နည်း ရွာသူကြီး"

"ထိုလယ်သမားသည် 'ငါ၏ စပါးတို့သည် ရှင်သန် ကြီးပွားပါစေသတည်း၊ ကောင်းမွန်စွာ အောင်မြင် တိုးပွားပါစေတည်း' ဟု လိုလား တောင့်တသောကြောင့် ဖြစ်ပါသည် အရှင်ဘုရား"

"မှန်ပေသည် ရှင်သူကြီး၊ ထို လယ်သမားသည် သူ၏အားထုတ်မှု အချည်းနှီး မဖြစ်စေလိုသဖြင့် အကောင်းစား လယ်ကွက်ကို ဦးစားပေး စိုက်ပျိုး၏၊ ထို့နောက်မှ အလတ်စားလယ်ကွက်ကို ဦးစားပေး စိုက်ပျိုး၏၊ ထို့နောက်မှသာ အညံ့စား လယ်ကွက်ကို စိုက်ပျိုးပေမည်၊ မစိုက်ပျိုးဘဲ သော်လည်း ချန်ထားပေမည်။

"မြေမကောင်းသော၊ ကုန်းပိုင်းကျသော ထိုအညံ့စား လယ်ကွက်ကို စိုက်ပျိုးရခြင်းကား၊ အနည်းဆုံးအားဖြင့် နွားစာမျှပင် ရစေတော့ဟူ၍ စိုက်ပျိုးခြင်း ဖြစ်ပေသည်။

## ပရိသတ် သုံးမျိုး

"ရှင်သူကြီး၊ ငါ၏ ရဟန်းယောကျ်ား၊ ရဟန်းမိန်းမတို့သည် အကောင်းစား လယ်ကွက်နှင့် တူပေ၏၊ ငါ၏ ဥပါသကာ ယောကျ်ား၊ ဥပါသိကာ မိန်းမတို့သည် အလတ်စား လယ်ကွက်နှင့် တူ၏၊ ထိုမှ ကြွင်းသော အခြားသူတို့သည် အညံ့စား လယ်ကွက်နှင့် တူပေ၏။

"ဆက်၍ ပြောကြားဦးမည် ရှင်သူကြီး၊ ငါ၏ ရဟန်းယောကျ်ား၊ ရဟန်းမိန်းမတို့သည် ငါ့ကိုသာလျှင် ဆည်းကပ် ကိုးကွယ်ကြကုန်သည်၊ မှီခိုအားထားကြကုန်သည်၊ ငါ၏ ဟောကြား လမ်းညွှန်မှုကို အစဉ်သဖြင့် လိုလား တောင့်တကြကုန်သည်၊ ထို့ကြောင့် သူတို့အား ဦးစားပေး၍ တရားဟောပေ၏၊ အစ အလယ် အဆုံး ကောင်းခြင်းနှင့် ပြည့်စုံသော တရားကို ဟောကြားပေ၏၊ ထက်ဝန်းကျင် အလုံးစုံ စင်ကြယ်သော အကျင့်မြတ် လမ်းစဉ်ကို ဟောကြားပေ၏။

"ငါ၏ ဥပါသကာ ဥပါသိကာတို့သည်လည်း ငါ့ကိုသာလျှင် မှီခို အားထားကြကုန်သည်၊ ဆည်းကပ် ကိုးကွယ်ကြကုန်သည်၊ ငါ၏ဟောကြား လမ်းညွှန်မှုကို အစဉ်သဖြင့် လိုလား တောင့်တကြကုန်သည်၊ ထို့ကြောင့် သူတို့အားလည်း အစ အလယ် အဆုံး ကောင်းခြင်းနှင့် ပြည့်စုံသော တရားကို ဟောပေ၏၊ ထက်ဝန်းကျင် အလုံးစုံ စင်ကြယ်သော အကျင့် မြတ်လမ်းစဉ်ကို ဟောကြားပေ၏။

"ထိုမှ ကြွင်းကုန်သော အခြား တစ်ပါးသူတို့အားလည်း၊ အစ အလယ် အဆုံး ကောင်းခြင်းနှင့် ပြည့်စုံသော တရားကိုသာလျှင် ဟောကြား ပေ၏၊ ထက်ဝန်းကျင် အလုံးစုံ စင်ကြယ်သော အကျင့်မြတ် လမ်းစဉ်ကို

ဟောကြားပေ၏၊ ထိုသို့ ဟောကြားရာ၌ 'ထိုသူတို့သည် အနည်းငယ်မျှသော တရားလမ်းစဉ်ကို သိမြင် ရရှိစေကာမူ အကျိုးစီးပွား များပြားစွာ ဖြစ်ထွန်းနိုင်သည်သာတည်း'ဟူ၍ ဟောကြားပေ၏။

"ရှင်သူကြီး၊ ငါဘုရားသည် ယင်းသို့လျှင် ပရိသတ် သုံးမျိုးတို့ကို တရား ဟောကြားပေသည်၊ လယ်ကွက် သုံးကွက်ကို စိုက်မျိုးသော လယ်သမား၏ လုပ်ငန်းစဉ်ကို သင်တို့ သိသည် မဟုတ်လော၊ ရှင်သူကြီး၊ မြတ်စွာဘုရားသည် သတ္တဝါအားလုံး၏ အကျိုးစီးပွားကို လိုလားလျက်သာလျှင် နေတော်မူသည်တည်း။

[ဂါမဏိသံယုတ်၊ ခေတ္တူပမသုတ်]

# လွတ်မြောက်ပြီးသူသာလျှင်

ဇမ္ဗူဒီပါ တစ်ကျွန်းလုံး၌ ပေါက်ရောက်တည်ရှိနေသော သစ်ပင်ကြီးငယ် ဟူသမျှကို ခုတ်လှဲပါ။ ထို့နောက် ပင်စည်နှင့်တကွ ကိုင်းကြီးကိုင်းငယ် အားလုံးကို ခုတ်ထစ် ခွဲစိတ်ပါ။ ထို့နောက် ထိုသစ်သား၊ သစ်ဝါး အားလုံးကို တံစို့များ ပြုလုပ်ပါ။ အကြီး၊ အလတ်၊ အသေး တံစို့တံ သုံးမျိုး သုံးစား ပြုလုပ်ပါ။ ထို့နောက် သမုဒ္ဒရာထဲ၌ ရှိနေသော သတ္တဝါအကြီးများကို တံစို့တံ အကြီးစားဖြင့်ထိုးပါ၊ သီပါ။ သတ္တဝါအလတ်များကို တံစို့တံ အလတ်စားဖြင့်လည်းကောင်း၊ သတ္တဝါ အငယ်များကို တံစို့တံ အသေးစားဖြင့်လည်းကောင်း ထိုးပါ။ သီပါ။

ဇမ္ဗူဒီပါ ကျွန်း၌ ရှိသော သစ်ပင် ဝါးပင် ဟူသမျှ အကိုင်း အခက် အလက်နှင့် အကွ အားလုံးပင် ကုန်သွားပေမည်။ သမုဒ္ဒရာထဲ၌ ရှိသော တံစို့တံသီနိုင်လောက်သည့် သတ္တဝါအား မကုန်နိုင်ပေရာ။ သမုဒ္ဒရာထဲ၌ တံစို့တံ့မသီနိုင်လောက်သည့် သတ္တဝါမှာ ထို့ထက်ပင် အဆများစွာ များပြားပေသေး၏။

ရေ၌ ကျင်လည်ကုန်သော သတ္တဝါမျိုးကိုသာလျှင် ပြဆိုခြင်းဖြစ်၏။ ထို့ပြင်သမုဒ္ဒရာတစ်ဆင်းတည်း၌ ရှိသော သတ္တဝါစုကိုသာလျှင် ပြဆိုခြင်း ဖြစ်ပေ၏။

ဤသို့လျှင် အပါယ်ဘုံသား သတ္တဝါတို့သည် များပြားလှချေ၏။ အပယ်ဘုံသား သတ္တဝါဟူသည်မှာ ငရဲ၊ တိရစ္ဆာန်၊ ပြိတ္တာ၊ အသူရကာယ် ဘုံတို့၌ ဖြစ်သော သတ္တဝါတို့ပေတည်း။

အပါယ်ဘုံသား သတ္တဝါအဖြစ်မှ လွတ်မြောက်ပြီးသူ သည်သာလျှင် ဤကား ဆင်းရဲခြင်းပေတည်းဟု အမှန်အတိုင်း သိမြင်နိုင်၏။ ဤကား ဆင်းရဲဖြစ်စေရန် အကြောင်းတရားပေတည်း။ ဤကား ဆင်းရဲချုပ်ငြိမ်းရာ နိဗ္ဗာန် ချမ်းသာပေတည်း။ ဤကား ဆင်းရဲချုပ်ငြိမ်းရာ နိဗ္ဗာန် ချမ်းသာကို ရရှိစေနိုင်သည့် လမ်းစဉ်အကျင့် မြတ်ပေတည်းဟု အမှန် အတိုင်း သိမြင်၏။

ထို အမှန်တရား သစ္စာလေးပါးကို သိမြင်ရန်အတွက် ပညာရှိသော သူတို့သည် အစဉ်သဖြင့် ရှေးရှုကာ အားထုတ် ကျင့်ကြံကြသည်သာတည်း။

[သစ္စသံယုတ်၊ ပါဠိတော်]

## လှံထိုးခံသင့်ကြောင်း

"အမောင်ယောကျ်ား၊ သင့်အား နံနက်ပိုင်းတွင် လှံဖြင့် အချက်တစ်ရာ ထိုးမည်၊ နေ့လယ်ပိုင်းတွင်လည်း လှံဖြင့်အချက်တစ်ရာထိုးမည်၊ ညနေပိုင်း တွင်လည်း လှံဖြင့် အချက်တစ်ရာထိုးမည်၊ နေ့စဉ်နေ့တိုင်းပင် တစ်နေ့ သုံးကြိမ်၊ တစ်ကြိမ်လျှင် အချက်တစ်ရာ လှံဖြင့်ထိုး၍ ညှဉ်းပန်းနှိပ်စက်မည်။

"ဤသို့လျှင် သင်သည် နှစ်ပေါင်း တစ်ရာပတ်လုံး နေ့စဉ် မပြတ် လှံဖြင့်ထိုး၍ ညှဉ်းဆဲသည်ကို ခံရမည်၊ နှစ်ပေါင်းတစ်ရာပြည့်မြောက်သော အခါ သင်သည် အရိယာတို့၏ အမှန်တရား သစ္စာလေးပါးကို သိမြင်ရ လိမ့်မည်၊ ဘယ့်နှယ်လဲ အမောင်ယောကျ်ား၊ လှံထိုးခံနိုင်ပါမည်လား"

အမေးခံရသော 'အမောင်ယောကျ်ား' ဟူသည်မှာ သတ္တဝါတစ်စုံ တစ်ယောက်၏ အမည်သညာ ဖြစ်လေသည်။ ထိုသူသည် မိမိ၏ အကျိုး စီးပွား ကောင်းကျိုး ချမ်းသာကို အလိုရှိပါမူ "လှံထိုးခံပါမည်၊ အညှဉ်းပန်းခံပါမည်"ဟု ဆိုထိုက်ပေ၏၊ အဘယ့်ကြောင့်နည်း။

ဤ သံသရာ၏ အစကို မသိနိုင်ကြပေကုန်။ ဤအမှောင် ဖုံးလွှမ်းလျက်ရှိသော သတ္တဝါသည်၊ သတ္တဝါ တစ်ဦးတစ်ယောက်သည် လှံထိုးခံရခြင်း၊ ဓား ခုတ်ခံရခြင်း၊ ပုဆိန်ပေါက်ခံရခြင်း အကြိမ်ပေါင်း မရေတွက်နိုင်ပေ။

အရိယာတို့၏ အမှန်တရား သစ္စာလေးပါးကို သိမြင်ရပါမူကား လှံထိုးခံရခြင်း ဒုက္ခမှ၍ ဆင်းရဲခပ်သိမ်းတို့မှ လွတ်မြောက်၍ ချမ်းသာ ရတော့မည် ဖြစ်သတည်း။

[သစ္စသံယုတ်၊ သတ္တိသတသုတ်]

## ထွက်လေ ဝင်လေကို ရှုမှတ်ခြင်း ဖုန်သိပ်မိုးကြီး ရွာသွန်းခြင်း

ဝေသာလီပြည် မဟာဝုန်တော ပြာသာဒ်ဆောင် ကျောင်း၌ မြတ်စွာ ဘုရား သီတင်းသုံး နေတော်မူစဉ်အခါ ဖြစ်၏။

ထိုအခါ မြတ်စွာဘုရားသည် ရဟန်းတို့အား အသုဘ တရားကို အထူးပြု၍ ဟောကြားတော် မူလေ၏။ အခါဆက်၍ အခွင့်ဆိုက်လေတိုင်း အသုဘတရားကို အလေးထားပြီး ဟောကြားလေ၏။ အသုဘကမ္မဋ္ဌာန်း၏ ဂုဏ်ကျေးဇူးကို လည်းကောင်း၊ အသုဘ ကမ္မဋ္ဌာန်း ပွားများခြင်း၏ ဂုဏ်ကျေးဇူးကို လည်းကောင်း အကြိမ်ကြိမ် ဟောကြားလေ၏။

ထိုစဉ်ကာလ၌ မြတ်စွာဘုရားသည် ဆိတ်ငြိမ်ရာ၌ တစ်ပါးတည်း ကိန်းအောင်း နေလိုသောဆန္ဒ ဖြစ်ပေါ်သဖြင့် အရှင် အာနန္ဒာအား မှာကြားတော်မူသည်။

"အာနန္ဒာ၊ ငါဘုရားသည် လ၏ ထက်ဝက် ၁၅ ရက် တိုင်တိုင် တစ်ပါးတည်း ကိန်းအောင်းနေလိုသဖြင့် ဆွမ်းပို့မည့် ရဟန်းမှတစ်ပါး ငါ့ထံသို့ မည်သူမျှ မချဉ်းကပ်ပါစေနှင့်"

ထို့ကြောင့် မြတ်စွာဘုရားထံသို့ ရဟန်းပရိသတ်၊ လူပရိသတ်တို့ မည်သူမျှ မရောက်ရှိကြပေ။ ရဟန်းတစ်ပါး သည်သာလျှင် ဆွမ်းပို့ရန်မျှ ချဉ်းကပ်ခွင့် ရရှိလေ၏။

၁၅ ရက်မြောက်နေ့၌ မြတ်စွာဘုရားသည် ရဟန်းတို့ရှိရာ ကျောင်းပရိဝုဏ်သို့ ကြွရောက်တော်မူလာ၏။

ထိုအခါ ထူးခြားသော အခြင်းအရာကို တွေ့ရသဖြင့် မေးမြန်းလေသည်။

## မိမိကိုယ်ကို အဆုံးစီရင်ခြင်း

"အာနန္ဒာ၊ ရဟန်းများစွာကို မမြင်ရပါဘလား၊ အကြောင်းတစ်စုံတစ်ရာ ရှိသလော"

"မှန်ပါသည် မြတ်စွာဘုရား၊ အကြောင်း တစ်စုံတစ်ရာ ရှိသဖြင့် ရဟန်းများ လျော့နည်းနေခြင်း ဖြစ်ပါသည်"

"အဘယ်သို့သော အကြောင်းနည်း၊ အာနန္ဒာ"

"အရှင်ဘုရား၊ ရဟန်းတို့သည် မြတ်စွာဘုရား ဟောကြားသော အသုဘဘာဝနာကို အလေးထားကာ အသုဘ ကမ္မဋ္ဌာန်းကို အစဉ်အတိုက် အားထုတ် ပွားများကြပါသည်၊ ထိုအခါ ထိုရဟန်းတို့သည် ခန္ဓာကိုယ်၌ ငြီးငွေ့လာကြပါသည်၊ စက်ဆုပ်လာကြပါသည်၊ ရှက်နိုးလာကြပါသည်၊ ထို့နောက် ထိုရဟန်းတို့သည် ဓားလက်နက်ကို ရှာဖွေကာ မိမိကိုယ်ကို မိမိ အဆုံးစီရင်ကြပါသည်၊ တစ်နေ့လျှင် ရဟန်းဆယ်ပါးလည်း အဆုံးစီရင်ကြပါသည်၊ ရဟန်းအပါးနှစ်ဆယ်၊ အပါးသုံးဆယ်လည်း အဆုံးစီရင်ကြပါသည်။

"အရှင်ဘုရား တောင်းပန်ပါ၏၊ မြတ်စွာဘုရားသည် ရဟန်းတို့အား အသုဘကမ္မဋ္ဌာန်းမှ တစ်ပါးသော တရားဒေသနာတော်ကို ဟောကြားပေးပါရန် တောင်းပန်ပါ၏"

မြတ်စွာဘုရားသည် ချက်ချင်းပင် အရှင် အာနန္ဒာအား မြွက်ကြားလိုက်လေ၏။

"အာနန္ဒာ၊ ဝေသာလီ၌ နေကုန်သော ရဟန်းတို့ကို ဖိတ်ကြား၍ စုစည်းလော့၊ အစုံအညီ ရောက်ကြလျှင် ငါ့ထံသို့ အကြောင်းကြားလှည့်လော့"

အရှင် အာနန္ဒာသည် မြတ်စွာဘုရား၏ ဆန္ဒတော်အတိုင်း ဝေသာလီဝန်းကျင်ရှိ ကျောင်းတိုက် အသီးသီးသို့ အစည်းအဝေး တက်ရောက်ကြရန် အကြောင်းကြား ပဋိဖိတ်လိုက်လေသည်။

ထိုသံဃာ့ အစည်းအဝေး၌ မြတ်စွာဘုရားသည် အာနာပါနတရားကို ဟောကြားတော်မူ၏။ အသုဘကမ္မဋ္ဌာန်းကို အဖန်တလဲလဲ အားထုတ်ပွားများသည့် ရဟန်းတို့၏ အဖြစ်အပျက်ကြောင့် ဤ အာနာပါနတရားကို ထပ်မံ ဟောကြားတော်မူခြင်း ဖြစ်ပေမည်။

"ရဟန်းတို့၊ အာနာပါနသတိ သမာဓိကို ပွားများအပ်ပေ၏၊ ကြိမ်ဖန်များစွာ အားထုတ် ပွားများအပ်ပေ၏၊ ထိုသို့ ပွားများသည်ရှိသော် အကျိုးကြီး၏၊ အာနိသင်ကြီး၏၊ ငြိမ်သက်၏၊ မွန်မြတ်၏၊ ထပ်လောင်းဖြည့်စွက်ရန် မလို၊ ချမ်းသာသော နေရာလည်း ဖြစ်၏၊ ဖြစ်တိုင်းဖြစ်တိုင်းသော အကုသိုလ် အယုတ်တရားတို့ကိုလည်း တစ်ခဏချင်းဖြင့် ကွယ်ပျောက် ငြိမ်းအေးစေနိုင်ပေ၏။

"ရဟန်းတို့၊ နွေနှောင်းကာလ၌ မြူမှုန့်၊ ဖုန်မှုန့်တို့သည် အထက်သို့ တက်ကာ တသောသော လွင့်ပျံလျက်ရှိသည် မဟုတ်လား၊ အခါမဟုတ်တဲ့ ရုတ်တရက် ရွာချလိုက်သော မိုးကြီးသည် ထို တသောသော လွင့်ပျံ တက်ကြွလျက်ရှိသော မြူမှုန့် ဖုန်မှုန့်တို့ကို တစ်ခဏချင်းပင် ကွယ်ပျောက် ငြိမ်းအေးစေနိုင်သည် မဟုတ်လား။

## အာနာပါန ရှုပုံ

"ရဟန်းတို့၊ အာနာပါနသတိ သမာဓိသည် ဖြစ်ပေါ်လာလေသမျှသော အကုသိုလ် အယုတ်တရားတို့ကို တစ်ခဏချင်းဖြင့် ကွယ်ပျောက် ငြိမ်းအေးစေနိုင်၏။

"ဤသာသနာတော်၌ တရားကို ပွားများ အားထုတ်လိုသည့် ပုဂ္ဂိုလ်သည် ဆိတ်ငြိမ် အေးဆေးရာအရပ်၌ ကိုယ်ကိုမတ်မတ်ထား၍ ထိုင်ပြီးလျှင် သတိကို ကမ္မဋ္ဌာန်းသို့ ရှေးရှုလျက် တည်နေရာ၏။

"ထို ပုဂ္ဂိုလ်သည် သတိရှိလျက်သာလျှင် ထွက်သက် လေကို ထုတ်၏၊ သတိရှိလျက်သာလျှင် ဝင်သက်လေကို ရှူ၏။

''ထွက်သက်လေကို ရှည်ရှည်ထုတ်လျှင် ရှည်ရှည်ထုတ်၏ဟု သိ၏၊ တိုတိုထုတ်လျှင် တိုတိုထုတ်၏ဟု သိ၏၊ ဝင်သက်လေကို ရှည်ရှည်ရှူလျှင်လည်း ရှည်ရှည်ရှူ၏ဟု သိ၏၊ တိုတိုရှူလျှင်လည်း တိုတိုရှူ၏ဟု သိ၏။

''စ လယ် ဆုံး အလုံးစုံသော ထွက်လေ ဝင်လေတို့ကို ထင်ရှား သိလျက်သာလျှင် ထုတ်မည်၊ ရှူမည်ဟု အားထုတ်၍ ကျင့်၏။

''စိတ်ကို ကောင်းစွာထားလျက် ထွက်သက်လေကို ထုတ်မည်၊ ဝင်သက်လေကို ရှူမည်ဟု အားထုတ်၍ ကျင့်၏။

''စိတ်ကို လွှတ်စေလျက် ထွက်သက်လေကို ထုတ်မည်၊ ဝင်သက်လေကို ရှူမည်ဟု အားထုတ်၍ ကျင့်၏။

''အနိစ္စ၊ အမြဲမရှိ ဖောက်ပြန်ပြောင်းလဲ၏ဟု အဖန်တလဲလဲ ရှုလျက် ထွက်သက်လေကို ထုတ်မည်၊ ဝင်သက်လေကို ရှူမည်ဟု အားထုတ်၍ ကျင့်၏။

''ရဟန်းတို့၊ အာနာပါနသတိကို ကြိမ်ဖန်များစွာ ထပ်တလဲလဲ ပွားများအားထုတ်သည် ရှိသော် အကျိုးကြီး၏၊ အာနိသင် ကြီး၏၊ ဖြစ်ပေါ်လာသမျှသော အကုသိုလ် အယုတ်တရားတို့ကို တစ်ခဏချင်း ကွယ်ပျောက် ငြိမ်းအေးစေနိုင်ပေ၏။

[အာနာပါန သံယုတ်၊ ဝေသာလီသုတ်]

## မှန်ကြည့်၍ အလှဆင်ပါ

မိန်းမပျိုသည် ကြေးမုံပြင် (မှန်) ကို ကြည့်ရှု၍ မိမိ၏ မျက်နှာတွင် မှဲ့၊ ဝက်ခြံ၊ အဖု အပိန့် စသော အညစ် အကြေး များ၊ မပြေပြစ်မှု များကို တွေ့မြင်ရသော် သန့်ရှင်း ပြေပြစ်၍ ချော မွေ့ လှပ စေရန် ပြုပြင် အား ထုတ်ရလေ၏။ မိမိ၏မျက်နှာ၌ အညစ် အကြေးများ၊ မပြေပြစ်မှုများ မရှိဘဲ တင့်တယ် လှပ နေသည်ကို တွေ့မြင် ရသော် ရွှင်ပျ မြူးထူး ကြည်နူး ရ လေ၏။ ဝမ်းပန်း တသာ ဖြစ် ရ ရှလေ၏။ ထိုနည်းအတူ—



# အင်္ဂုတ္တရ နိကာယ်

## ပေါးစေ့နှင့် စိတ်

အစီအစဉ်ဖြင့် ကောင်းစွာ ထူမတ်၍ထားသော ပေါးစေ့သည် ထက်မြက် စူးရှခြင်း သတ္တိစွမ်းကို ဆောင်ယူထားလေသည်။ လဲနေသော ပေါးစေ့ ကား ပြုပြင်စီစဉ်ခြင်း ကင်းမဲ့၍ ဖရိုဖရဲ တည်ရှိနေသည့် သဘောကို ဆောင်လေသည်။ ထက်မြက်စူးရှခြင်း သတ္တိစွမ်းကို မဆောင်နိုင်ပေ။

ထိုနည်းတူစွာပင် ထိန်းသိမ်း ပြုပြင်၍ထားသော စိတ်မှာ ထက်မြက် စူးရှခြင်း သတ္တိစွမ်းရှိ၏။ အလင်းရောင်သည် အမှောင်ကို ပျက်ပြယ်စေနိုင် သကဲ့သို့ တွေဝေ မိုက်မဲခြင်း၊ အဝိဇ္ဇာ မောဟကို ဖြိုဖျက်ပစ်တတ်၏၊ အမှန်တရားကို ပြုပြင်နိုင်စွမ်း၏။

ထိန်းသိမ်း ပြုပြင်ခြင်း မရှိသော စိတ်ကား ဖရိုဖရဲ ပျံ့လွင့်၍ တည်ရှိ နေသဖြင့် ထက်မြက်ခြင်း အတ္တိစွမ်း မရှိနိုင်ပေ၊ အမှန်တရားကို သိမြင် နိုင်စွမ်းမရှိပေ။

ထို့ကြောင့် အမြင်မှန်၊ အသိမှန်နှင့် လမ်းမှန်ကို ရရှိရန်မှာ စိတ်ကို ထိန်းသိမ်းပြုပြင်ရေးသည် အခြေခံဖြစ်၏။

[ကေနိပါတ်၊ ပဏိဟိတအစ္ဆဝဂ်၊ ပထမသုတ်နှင့်ဒုတိယသုတ်]

## ရေကြည် နှင့် ရေနောက်

နောက်ကျု၍ ဗောင်ဗင်ခတ်နေသော ရေအိုင်ထဲ၌ ငါးတို့သည် ရှိနေကြကုန်၏။ ခရု၊ ယောက်သွား၊ ကျောက်စရစ်ခဲ စသည်တို့သည်လည်း ရှိနေကြကုန်၏။ ယင်းသို့ ရှိနေကြသည်သာ ဖြစ်သော်လည်း ၎င်းတို့ကို မမြင်ရပေ။ အကြောင်းမူကား ရေအိုင်သည် နောက်ကျုလျက်၊ ရေပြင်သည်လည်း မတည်မငြိမ် လှိုင်းခတ်နေသောကြောင့်ပေတည်း။

အကယ်၍ ထိုရေအိုင်သည် ကြည်လင်လျက် လှိုင်းဗောင်ဗင် မခတ်ဘဲ တည်ငြိမ်၍ နေပါမူကား၊ ငါးတို့ကို ကောင်းစွာ မြင်နိုင်၏။ ခရု၊ ယောက်သွား ကျောက်စရစ်ခဲ စသည်တို့ကိုလည်း ကောင်းစွာ မြင်နိုင်ရာ၏။

ဤဥပမာဖြင့် နောက်ကျုသော စိတ်နှင့် ကြည်လင်သော စိတ်ကို နှိုင်းယှဉ်၍ သိနိုင်ပေသည်။

လောဘ၊ ဒေါသ၊ မာန၊ မာန၊ ဣဿာ၊ မစ္ဆရိယ စသော ကိလေသာ စိတ်အညစ်အကြေး ဖုံးလွှမ်းလျှင် အမှန်ကိုမမြင်၊ မသိနိုင်။ နောက်ကျုညစ်ကြေးသော ကိလေသာစိတ်သည် အမှားအမှန် အဆိုးအကောင်းကို ပိုင်းခြားသိမြင်နိုင်စွမ်း မရှိပေ။

လိုချင် တပ်မက် ကြီးလွန်းခြင်း၊ အမျက် ဒေါသ ကြီးလွန်းခြင်း၊ ပလွားဝင့်ဝါလွန်းခြင်း၊ မနာလို ဝန်တိုခြင်း စသည့် ကိလေသာအညစ်အကြေးတို့မှ ကင်းသော စိတ်သည် ကြည်လင်သောစိတ် မည်၏။

ကြည်လင်သော စိတ်သည် အမှား အမှန်၊ အဆိုး အကောင်းကို ပိုင်းခြားသိမြင်နိုင်စွမ်းသည်သာတည်း။

[illegible]

## ကြို့ပင်နှင့် စိတ်

အမျိုးအမည် များစွာသော သစ်ပင်တို့အနက် ကြို့ပင်ကို အခုံကောင်းဆုံးဟု ဆိုရလေသည်။ အကြောင်းမူကား ကြို့ပင်၏ အသားသည် နူးညံ့၏။ ဆောက်ထွင်းရန်၊ ရွှေပေါ်ထိုးရန်၊ ပဲခွပ်ခုတ်ရန် လွယ်ကူ၏။ အသုံးအဆောင်အတွက် အရာဝတ္ထုတစ်စုံတစ်ရာပြုလုပ်ရာ၌ ကြို့သားသည် ပြုပြင်စီရင်ရန် လွယ်ကူသောကြောင့် အကောင်းဆုံးဟု ဆိုရလေသည်။

ထိန်းသိမ်းပြုပြင်၍ အကြိမ်ကြိမ် လေ့ကျင့်ပွားများပြီးသော စိတ်သည် နူးညံ့သိမ်မွေ့သည်သာ ဖြစ်၏။

ထိုနူးညံ့သိမ်မွေ့သော စိတ်ဖြင့် မိမိရှေးရှု ရည်စူးရာကို လုပ်ဆောင်ကြိုးစားသော် မပြီးမြောက် မအောင်မြင်ဟူ၍ မရှိပေ။

[ကေနိပါတ်၊ သတ္တမသုတ်]

## မျိုးစေ့နှင့် အမြင်အသိ

မြေဓာတ် ရေဓာတ်တို့ ကောင်းမွန်သော နေရာ၌ တမာကဲ့သို့ ခါးသော မျိုးစေ့ကို ချသည်ရှိသော် ထိုမျိုးစေ့သည် မြေဩဇာကိုလည်း ယူ၏။ ရေဓာတ်ကိုလည်း ယူ၏။ ထိုမြေဩဇာ ရေဓာတ်တို့သည် ခါးရန်အတွက် ဖြစ်သည်သာ။ အဘယ့်ကြောင့် ဆိုသော် မျိုးစေ့သည် အခါးမျိုးစေ့ ဖြစ်သောကြောင့်တည်း။

အသိ အမြင် အယူ အဆ မှားယွင်းသော သူ၏ ကိုယ်ဖြင့် ပြုမူလုပ်ဆောင်ချက်တို့သည် လည်းကောင်း၊ နှုတ်ဖြင့် ပြောဆိုချက်တို့သည် လည်းကောင်း၊ စိတ်ဖြင့် ကြံစည် တွေးဆချက်တို့သည် လည်းကောင်း ရှိကုန်၏။ ထိုပြုမူ ပြောဆို၊ ကြံစည်ချက် အားလုံးတို့သည် မလိုလားအပ်ဖွယ်ရာ ဖြစ်ကုန်၏။ မနှစ်သက်ဖွယ်ရာ ဖြစ်ကုန်၏။ အကျိုးမဲ့ခြင်းငှာ ဖြစ်ကုန်၏။ အဘယ့်ကြောင့်ဆိုသော် ထိုသူ၏ အသိအမြင် အယူ အဆ

မြေခါတ် ရေခါတ် ကောင်းမွန်သော နေရာ၌ ကြံ မျိုးစေ့ စပါးမျိုးစေ့ သခွေလးမျိုးစေ့များကို ချသည်ရှိသော် ထိုမျိုးစေ့များသည် မြေသြဇာကိုလည်း ယူ၏။ ရေခါတ်ကိုလည်း ယူ၏။ ထို မြေသြဇာ ရေခါတ်တို့သည် ချိုရန်အတွက် ဖြစ်ကုန်၏။ နှစ် သက် ဖွယ် ရာ သော အရသာအတွက် ဖြစ်ကုန်၏။ အဘယ့်ကြောင့် ဆိုသော် မျိုးစေ့သည် ချိုသောမျိုးစေ့၊ နှစ်သက်ဖွယ် အရသာရှိသော မျိုးစေ့များ ဖြစ်သော ကြောင့်တည်း။

အသိအမြင် အယူအဆ မှန်ကန်သောသူ၏ ကိုယ်ဖြင့် ပြုမူလုပ်ဆောင်ချက်တို့သည် လည်းကောင်း၊ နှုတ်ဖြင့်ပြောဆိုချက်တို့သည် လည်းကောင်း၊ စိတ်ဖြင့် ကြံစည်တွေးဆချက်တို့သည် လည်းကောင်း လိုလားအပ်ဖွယ်ရာ ဖြစ်ကုန်၏။ နှစ်သက်ဖွယ်ရာ ဖြစ်ကုန်၏။ အဘယ့်ကြောင့်ဆိုသော် ထိုသူ၏ အသိအမြင် အယူအဆသည် မှန်ကန်သောကြောင့်တည်း။

[ကေကနိပါတ်၊ ကေ မ္ဗပါဠိ၊ ဒုတိယဝဂ်]

## မြေပြင်နှင့် ချိုင့်ဝှမ်း

ဤလောက ကမ္ဘာတစ်ခွင်၌ တင့်တယ် သာယာသော မြေအပြင် နှင့် ဖမွှေလျော်ဖွယ်ရာသော ဥယျာဉ် ရေကန် ဘုံဗိမာန်သည် အနည်းငယ်မျှသာ ရှိ၏။ ချိုင့်ဝှမ်း၊ တောင်ကုန်း၊ တောရိုင်း၊ အိုင်ပျက်နှင့် တဲအိမ်စုတ်တို့သာလျှင် အများအပြား ရှိနေ၏။

ဤလောကဌ် အသိပညာနှင့် ပြည့်စုံသူသည် အနည်းငယ်မျှသာ ရှိ၏။ အသိ ပညာမဲ့သူတို့သာ များပြားကုန်၏။

အမှန်နှင့် အမှား၊ အကောင်းနှင့် အဆိုးကို ပိုင်းခြား ဝေဖန်တတ်သူသည် အနည်းငယ်မျှသာ ရှိ၏။ ပိုင်းခြား ဝေဖန်နိုင်စွမ်း မရှိသူတို့ သာလျှင် များပြားကုန်၏။

[—စတုတ္ထဝဂ်]

## မီးနှင့် လူမိုက်

ခနိမ်း၊ သက်ကယ်မိုး တဲအိမ်ငယ်တို့ကို လောင်စွဲသောမီးသည် အိမ်ကြီး၊ အိမ်ကောင်း အခဆောက်အအုံကြီးများကိုလည်း ကူးစက်လောင်ကျွမ်း၍ ပျက်စီး ဆုံးရှုံးစေ၏။

လောင်ကျွမ်း ဖျက်ဆီးသော မီးကြောင့် လူ အပေါင်းတို့သည် မငြိမ်မသက် ပြေးလွှားကြရ၏၊ ငိုးရိမ် ပူပန်ကြရ၏။ ကြောက်ရွံ့ ထိတ်လန့်ကြရ၏။ ဆုံးရှုံးပျက်စီးကြရ၏။

မသိ မိုက်မဲသော သူသည် လောင်ကျွမ်း ဖျက်ဆီးတတ်သောမီးနှင့်တူသည်သာတည်း။

ဤလောက၌ လူ အပေါင်းတို့ မငြိမ်သက် ပြေးလွှားကြရခြင်းသည်လည်းကောင်း၊ ငိုးရိမ်ပူပန် ကြောက်ရွံ့ ထိတ်လန့်၍ ဆုံးရှုံးပျက်စီးကြရခြင်းသည်လည်းကောင်း မသိမိုက်မဲသူတို့ကြောင့်သာလျှင် ဖြစ်ကုန်၏။ ပညာရှိ သူတော်ကောင်းတို့ကြောင့် မဖြစ်ကုန်။

[တိကနိပါတ်၊ ဗာလဝဂ်]

## မမေ့အပ်သော နေရာ

ရေခမြသနင်း ပြည့်ရှင်မင်းတို့ ရာဇသက်ပန် သတိရအပ်သော နေရာသုံး၊ မိမိမွေးဖွားရာ အရပ်ဒေသ၊ မိမိ အဘိသိက်သွန်း၍ နန်းသိမ်းယူသည့် အရပ်ဒေသ၊ မိမိ ရန်သူ့စစ်ကို အောင်ပွဲခံယူသည့် အရပ်ဒေသ ဟူ၍ သုံးမျိုးတည်း။ ပြည့်ရှင်မင်းတို့သည် ထိုအရပ်ဒေသ သုံးမျိုးကို မမေ့အပ်ပေ။ အသက်ထက်ဆုံး အောက်မေ့အပ်၏။

ထိုနည်းတူပင် ဘာသနာ့ဝန်ထမ်း ရဟန်းတို့သည် အသက် ထက်ဆုံး အောက်မေ့အပ်၊ မမေ့အပ်သော နေရာ သုံးမျိုး ရှိပေ၏။

မိမိ ဆံမုတ်ဆိတ်ကိုပယ်၍၊ ဝတ်ကြောင်ကို ချွတ်လဲ၍၊ ဖန်ရည်ဆိုးသော သင်္ကန်းကို ဆင်မြန်း၍ လူ့ဘောင်မှ ရဟန်းဘောင်သို့ ကူးပြောင်းရာ အရပ်ဒေသ၊

မိမိ ရတနာ်းဘဝ၌ တရားကို ပွားများကျင့်သုံး၍ အရိယာတို့၏ အမွန်တရား သစ္စာလေးပါးကို သိမြင်သည့် အရပ်ဒေသ၊

မိမိတရားကို ပွားများ ကျင့်သုံး၍ ကိလေသာ အာသဝေတရားတို့ ကုန်ခမ်းစေ၍ ကိလေသာမှ လွတ်မြောက်သော အရဟတ္တဖိုလ် သမာဓိနှင့် အရဟတ္တဖိုလ် ပညာကို ကိုယ်တိုင် မျက်မှောက်ပြုလျက် ရောက်ရှိနေရသော အရပ်ဒေသတို့ ဖြစ်၏။

[တိကနိပါတ်၊ သာရဏီယသုတ်]

## မတူညီသော ဘီးနှစ်ခု

တစ်နေ့သ၌ သခင်တစ်ဦး ဘုရင်သည် ရထားလုပ်သမားကြီး တစ်ဦးကို ခေါ်၍ ပြောကြားလေ၏။

"အို ရထားလုပ်သား၊ ယနေ့မှ နောက် ခြောက်လလွန်လျှင် စစ်ကြီး ဖြစ်လိမ့်မည်၊ ထိုစစ်ပွဲအပ်ို ရထားဘီး အသစ်တစ်စုံ အလိုရှိ၍ အသင့်ကို ခေါ်ယူခြင်း ဖြစ်သည်၊ ရနိုင်ပါမလား"

"ရနိုင်ပါသည် အရှင်မင်းကြီး၊ အကျွန်ုပ် တာဝန်ယူပါကြောင်း"

"ရိုးရိုး သာမန်ဘီး မဟုတ်ဘူးနော်၊ အထူး ကောင်းမွန်မှ ဖြစ်မှာ၊ စစ်ပွဲသုံးအတွက်ကွဲ့"

"မှန်ပါသည် အရှင်မင်းကြီး၊ အထူးကောင်းမွန်ဖို့အတွက် အကျွန်ုပ် တာဝန်ယူပါသည်၊ စိတ်ချတော်မူပါ"

ယင်းသည့်နောက် ကာလကြာမြင့်လေသော် သခင်တစ်ဦး မင်းသည် ရထားလုပ်သမားအား ဆင့်ခေါ်၍ မေးမြန်းလေသည်။

"အချင်း ရထားလုပ်သမား၊ သင့်အား ရထားဘီးအပ်နှံသည်မှာ ခြောက်လပြည့်ဖို့ ခြောက်ရက်ပဲ လိုတော့သည်၊ မပြီးသေးဘူးလား"

"အရှင်မင်းကြီး၊ ရထားဘီးသစ်တစ်ဖက် ပြီးစီးနေပါပြီ၊ အခြား တစ်ဖက်သာ ကျန်ပါတော့သည်"

"ဟေ၊ ပြီးပါဦးမလားကွဲ့၊ ခြောက်ရက်ပဲ လိုတော့သည်လေ၊ စစ်ပွဲမှာ သုံးဖို့ မီပါဦးမလား"

"အရှင်မင်းကြီး၊ စိတ်အေးအေးထားတော်မူပါ၊ လာမည့်ခြောက်ရက်မြောက်နေ့မှာ ရထားဘီးသစ်တစ်စုံကို ဆက်သပါမည်၊ စိုးရိမ်တော်မမူပါပါနှင့် အရှင်မင်းကြီး"

ယင်းသို့ဖြင့် ရထား အလုပ်သမားသည် ခြောက်ရက်မြောက် နေ့၌ သစေတနမင်းထံသို့ ဝင်ရောက်ကာ ရထားဘီးသစ်တစ်စုံကို ပေးအပ်လိုက်လေသည်။ ထိုအခါ သစေတနမင်းသည် ရထားဘီး နှစ်ခုကို နှိုင်းယှဉ်ကြည့်ရင်း မေးခွန်းထုတ်လေတော့၏။

"ရထားလုပ်သမား၊ သင့်အား ငါမေးလို၏၊ ရထားဘီးတစ်စုံအနက် ပထမဘီးကို ခြောက်လခန့်လုပ်မှ ပြီး၏၊ ဒုတိယဘီးကို ခြောက်ရက်မျှဖြင့် ပြီး၏၊ ဘယ်လိုထူးခြားမှု ရှိသနည်း၊ ငါကား ထူးခြားမှုကို မတွေ့၊ အတူတူပင် မြင်၏၊ ထူးခြားမှုကို ထင်ရှားအောင် ပြနိုင်မည်လား"

"ထူးခြားမှု ရှိပါသည် အရှင်မင်းကြီး၊ ထူးခြားမှုကို ထင်ရှားအောင် ပြနိုင်ပါသည်၊ ရှုစားတော်မူပါ"

## ရပ်တည်ခြင်းနှင့် လဲကျခြင်း

ရထားလုပ်သမားသည် ရထားဘီးတစ်ခုကို ယူကာ မြေပြင်၌ လှိမ့်လွှတ်လိုက်၏။ သစေတနမင်းနှင့် တကွ နန်းတွင်းပရိသတ်တို့ အာရုံစိုက်ပြီး ကြည့်ရှုနေကြသည်။

"အရှင် မင်းကြီး၊ ခြောက်ရက်မျှဖြင့် ပြီးစီးခဲ့သော ဒုတိယဘီး ဖြစ်ပါသည်၊ ထိုဘီး၏ အခြင်းအရာ သဘောသတ္တိကို ရှုစားတော်မူပါ"

လှိမ့်လွှတ်လိုက်သော ရထားဘီးသည် လက်ရှိန်ကုန်သွားသော အခါ ရပ်တန့်ပြီး၊ ၄-၅ ကြိမ်မျှ ပတ်ပတ်လည်နေ၏။ ထို့နောက် မြေပြင်သို့ လဲကျသွားလေသည်။

"အရှင်မင်းကြီး၊ ယခု ခြောက်လခန့် ပြုလုပ်၍ ပြီးစီးခဲ့သော ပထမဘီးကို ဆက်လက် ရှုစားတော်မူပါ"

ရထားလုပ်သမားသည် ထိုသို့ ပြောကြားရင်း ရထားဘီးကို ကိုင်စွဲကာ မြေပြင်၌ လှိမ့်လွှတ်လိုက်ပြန်၏။ မင်းနှင့်တကွ ပရိသတ်သည် ပို၍ စိတ်ဝင်စားလာကြ၏။

မြေပြင်၌ လိမ့်ပြေးနေသော ဘီးသည် တွန်းလွှတ်လိုက်သည့် လက်ရှိန် ကုန်လျှင် ရပ်တန့်သွား၏။ ယခင်ဘီးကဲ့သို့ ပတ်ပတ်သည်ခြင်း၊ လဲကျခြင်း မရှိဘဲ တည့်တည့်မတ်မတ် တည်တည်ငြိမ်ငြိမ် ရပ်တန့်လျက် ရှိလေ၏။

ထိုအခါ သခေတနမင်းက မေးမြန်းသည်။

"အို ရထားလုပ်သမား၊ အံ့ဩဖွယ် ရှိပေစွ၊ ဘီးချင်းတူညီလျက် အစွမ်းသတ္တိချင်း မတူညီပါကလား၊ အကြောင်း၊ ဘယ်လို ရှိသနည်း၊ ရှင်းလင်း၍ ပြဦးလော့"

## အခြေခံ ကွဲပြားမှု

"အရှင်မင်းကြီး၊ ပထမ လှိမ့်လွှတ်လိုက်သော ဘီးကို သေချာစွာကြည့်ရှု သုံးသပ်တော်မူပါ၊ ထိုဘီး၏ အကွပ်သည် အပြစ်အနာရှိပါ၏၊ အကောက် သေး ဖြစ်ပါ၏၊ ဆွေးနေသည့် သစ်သား ဖြစ်ပါ၏၊ အကွေ့ အကောက် လည်း ပါရှိပါ၏၊ ထိုဘီး၏ အကန့်နှင့် ပုံတောင်းကို သေချာစွာ ရှုမြင် သုံးသပ်တော်မူပါ၊ အသားတူပင် အပြစ်အနာများ ပါရှိနေပါသည် အရှင်မင်းကြီး"

"ဒုတိယ လှိမ့်လွှတ်လိုက်သော ဘီးကိုလည်း သေချာစွာ ကြည့်ရှု သုံးသပ်တော် မူပါဦး၊ ထိုဘီး၏ အကွပ်သည်လည်းကောင်း၊ ပုံတောင်းနှင့် အကန့်တို့သည်လည်းကောင်း အပြစ်အနာ မရှိပါ၊ အကောက် အကွေ့ အဆာ အဆွေး မဟုတ်သော သစ်ကောင်းများသာလျှင် ဖြစ်ကြပါသည်၊ ဤသို့လျှင် ဘီး နှစ်ခုတို့ အကြောင်းရင်း မတူ ကွဲပြား ခြားနားမှု ရှိကြောင်းပါ အရှင်မင်းကြီး"

ဤသည်တို့ကား ဗုဒ္ဓမြတ်စွာ မိဂဒါဝုန်တောဝယ် သီတင်းသုံးနေတော်မူစဉ် ရဟန်းတို့အား ဟောပြသည့် ဥပမာများ ဖြစ်၏။ ထို ဥပမာ၏ အနက်သဘောကိုလည်း တဆက်တည်းပင် ဟောကြားတော်မူလေသည်။

## သစ်သား၏ အပြစ် အနာ ဟူသည်မှာ

"ရဟန်းတို့၊ ထိုစဉ်အခါက ရထားလုပ်သမား ဟူသည်မှာ မည်သူဖြစ်မည်ဟု ထင်မှတ်ကြသနည်း၊ ရဟန်းတို့၊ ငါဘုရားသည် သစ်တို့၌ ကျွမ်းကျင်သော ရထားလုပ်သမား ဖြစ်ခဲ့ဖူးလေပြီ။

"ထို ငါသည် သစ်တို၏ အပြစ် အနာကို ကောင်းစွာ သိမြင် ကျွမ်း ကျင်ခဲ့ပေ၏၊ အကောက် အကွေ့ ဖြစ်ခြင်း၊ အကာ အဆွေး ဖြစ် ခြင်း စသော သစ်တို၏ အပြစ် အနာကို ကောင်းစွာ သိမြင် ကျွမ်း ကျင် ခဲ့ ပေ၏။

"ရဟန်းတို့၊ ယခုအခါ၌မူ အလုံးစုံသော တရား တို့ကို သိတော်မူ မြင်တော်မူသော ငါဘုရားသည် ကိုယ်၌ လည်းကောင်း၊ နှုတ်၌ လည်း ကောင်း၊ စိတ်၌ လည်းကောင်း၊ ကောင်းစွာ သိမြင် ကျွမ်းကျင်ခဲ့ပြီး လေပြီ။

"ကိုယ်၏ ကောက် ကွေ့ခြင်း၊ အကာ-အဆွေး ဖြစ်ခြင်း စသော ကိုယ်၏ အပြစ် အနာ ကာယဒုစရိုက်တို့၌ ကောင်းစွာ သိမြင် ကျွမ်းကျင် ခဲ့လေပြီ၊ နှုတ်၏ ကောက်ကွေ့ခြင်း၊ အကာ-အဆွေးဖြစ်ခြင်း စသော နှုတ်၏ အပြစ် အနာ ဝစီဒုစရိုက်တို့၌ ကောင်းစွာ သိမြင် ကျွမ်းကျင်ခဲ့ လေပြီ၊ စိတ်၏ ကောက်ကွေ့ခြင်း၊ အကာ-အဆွေးဖြစ်ခြင်း စသော စိတ်၏ အပြစ် အနာ မနောဒုစရိုက်တို့၌ ကောင်းစွာ သိမြင် ကျွမ်းကျင် ခဲ့လေပြီ။

"ရဟန်းတို့၊ စိတ်၏ အကွေ့ အကောက် အကာ-အဆွေးတည်းဟူသော အပြစ် အနာ မနောဒုစရိုက်ကိုလည်းကောင်း၊ နှုတ်၏ အကွေ့ အကောက် အကာ-အဆွေးတည်းဟူသော အပြစ်အနာ ဝစီဒုစရိုက်ကို လည်းကောင်း၊ ကိုယ်၏ အကွေ့ အကောက် အကာ-အဆွေးတည်းဟူသော အပြစ် အနာ ကာယဒုစရိုက်ကိုလည်းကောင်း မပယ်ဖျက်သော ပုဂ္ဂိုလ်သည် ဤ သာ သနာတော်၌ ဂုဏ်အားဖြင့် မတည်တံ့ပေ၊ ဤ သာသနာတော်မှ ဂုဏ် အားဖြင့် နိမ့်လျော့ကျလေ၏။ ဗြ-ရက်မျှဖြင့် ပြီးစီးခဲ့သော ရထားဘီး ကဲ့သို့တည်း။

"စိတ်၏ အကွေ့ အကောက် အကာ-အဆွေး တည်းဟူသော အပြစ် အနာ မနောဒုစရိုက်ကိုလည်း ပယ်ဖျက်ပြီးအံ့၊ နှုတ်၏အကွေ့ အကောက် အကာ-အဆွေးတည်းဟူသော အပြစ် အနာ ဝစီဒုစရိုက်ကိုလည်း ပယ် ဖျက်ပြီးအံ့၊ ကိုယ်၏ အလေ့ အကောက် အကာ-အဆွေးတည်း ဟူသော ကာယဒုစရိုက်ကိုလည်း ပယ်ဖျက်ပြီးအံ့၊ ထိုပုဂ္ဂိုလ်သည် ဤ သာသနာ တော်၌ ဂုဏ်အားဖြင့် တည်တံ့ပေ၏၊ ဤသာသနာတော်မှ ဂုဏ်အားဖြင့် နိမ့်လျော့မကျပေ"

[-သစေတနသုတ်]

## ဈေးသည်နှင့် အမြတ်အစွန်း

ဈေးဆောင်း၍ အသက်မွေးမြူသော သူသည်၊ ရောင်းဝယ်မှုဆိုင်ရာ ကိစ္စတို့ကို နံနက်ချိန်တွင်လည်း ကောင်းစွာပြုလုပ် စီစဉ်ခြင်းမရှိ၊ နေ့လယ်ချိန်တွင်လည်း ကောင်းစွာ ပြုလုပ် စီစဉ်ခြင်း မရှိ၊ ညနေချိန်၌လည်း ကောင်းစွာ ပြုလုပ် စီစဉ်ခြင်းမရှိ။

ထိုဈေးသည်အဖို့ မရရှိသေးသော စီးပွား ဥစ္စာသည်လည်း မရောက်လာနိုင်၊ ရရှိပြီးသော စီးပွားဥစ္စာသည်လည်း မတိုးပွားနိုင်ပေ။

အကြင်သူသည် နံနက်အခါ၌လည်း တည်ကြည်သော စိတ်အာရုံဖြင့် ကောင်းစွာ မဆောက်တည်၊ နေ့လယ် အချိန် ၌လည်း ကောင်းစွာ မဆောက်တည်၊ ညအချိန်၌လည်း ကောင်းစွာ မဆောက်တည်။

ထိုသူအဖို့ မရရှိသေးသော ကောင်းမှုကုသိုလ်သည်လည်း မဖြစ်ပေါ်လာနိုင်။ ရရှိပြီးသော ကောင်းမှု ကုသိုလ်သည်လည်း မတိုးပွားနိုင်ပေ။

[=ပထမ ပါပ ဏိကသုတ်]

## ဈေးသည်နှင့် အမှိုသုံးရပ်

ဤလောက၌ ဈေးသည်သည် မျက်စိအမြင်လည်း ရှိ၏၊ ဉာဏ်ပညာနှင့် ယှဉ်သော လုံ့လဝီရိယလည်း ရှိ၏၊ အမှီကောင်းလည်း ရှိ၏၊ ထို အင်္ဂါသုံးရပ်နှင့် ပြည့်စုံသော ဈေးသည်မှာ မကြာမီပင် ကြီးပွား တိုးတက်ရန် ရှိလေသည်။

ကုန်ပစ္စည်းတစ်ခုခုကို ဤသို့ဝယ်၍ ဤသို့ရောင်းရသည်၊ အရင်းအနှီး မည်မျှကုန်ကျ၍ အမြတ် အစွန်း မည်မျှ ကျန်ရှိသည်တို့ကို ပိုင်နိုင်စွာ သိခြင်းကား ဈေးသည်၏ မျက်စိအမြင်ပင် ဖြစ်၏။

ကုန် ပစ္စည်းကို ဝယ်ယူ ရရှိရေးနှင့် ရောင်းချရေးတွင် ကျွမ်းကျင် နားလည်ခြင်းကား ဈေးသည်၏ ဉာဏ် ပညာနှင့် ယှဉ်သော ဝီရိယပင် ဖြစ်၏။

ငွေကြေးဥစ္စာ ကြွယ်ဝသောသူတို့က ဈေးသည်အပေါ် ယုံကြည်စိတ်ချရသဖြင့် ငွေကြေးဖြစ်စေ၊ ဥစ္စာပစ္စည်း ဖြစ်စေ ချေးငှားပါ၊ ထုတ်ယူပါဟု ကမ်းလှမ်းမှုရှိသားခြင်းကား ဈေးသည်၏ အမှီကောင်းပင်ဖြစ်၏။

ကောင်းကျိုးချမ်းသာ ပွားများ၍ အောင်မြင်ခြင်းသို့ ရောက်လိုသော ပုဂ္ဂိုလ်သည်လည်း အင်္ဂါသုံး ရပ်နှင့်ပြည့်စုံရန် လိုအပ်ပေ၏။

မျက်စိအမြင်ရှိခြင်း၊ ဉာဏ်ပညာနှင့် ယှဉ်သော ဝီရိယ ရှိခြင်း၊ အမှီကောင်းရှိခြင်းဟူသော အင်္ဂါသုံးရပ်ပေတည်း။

ဤလောကတွင် လူသားတို့သည် စင်စစ်အားဖြင့် ဆင်းရဲ ပင်ပန်း နေကြသည်ကို ဆင်းရဲပင်ပန်းခြင်းပါကလား.ဟု အမှန်အတိုင်းသိ၏။ ဤသို့ ဆင်းရဲပင်ပန်းခြင်း ဖြစ်ပေါ်လာရသည့် အကြောင်းရင်းကိုလည်း အမှန်အတိုင်းသိ၏။ ဆင်းရဲခြင်းအေးရာ ချမ်းသာမှုကိုလည်း ကောင်းစွာ သိ၏။ ထို ချမ်းသာမှုရရှိရေးအတွက် ကျင့်သုံးရမည့် လမ်းစဉ်ကိုလည်း သိ၏။

ယင်းသို့ သိခြင်းကား အောင်မြင်ခြင်းသို့ ရောက်လိုသူအဖို့ မျက်စိအမြင်ပင်ဖြစ်လေသည်။

မကောင်းသော အပြုအမူ၊ အပြောအဆို၊ အကြံအစည်များ၊ မဖြစ်ပေါ်စေရန်နှင့် ကောင်းသော ပြုမူ၊ ပြောဆို၊ ကြံစည်မှုများသာလျှင် ဖြစ်ပေါ်စေရန် ကျင့်သုံးဆောက်တည်ခြင်းကား ဉာဏ်ပညာနှင့်ယှဉ်သော ဝီရိယပင်ဖြစ်လေသည်။

အကြား၊ အမြင်၊ အတွေးအခေါ် ဉာဏ်ပညာနှင့် ပြည့်စုံသူတို့က သိမြင် နားလည်ရန် ညွှန်ပြ ပြောဆိုမှုကို ရရှိခြင်းကား အမှီကောင်းပင် ဖြစ်လေသည်။

ထို အင်္ဂါ သုံးရပ်နှင့် ပြည့်စုံသူသည် ဆင်းရဲပင်ပန်းခြင်းတို့မှ မုချပင် လွတ်မြောက်ရပေမည်။ မိမိမျှော်မှန်းရာ ချမ်းသာမှုပန်းတိုင်သို့ မလွဲမသွေ ရောက်ရပေမည်။

[ဒုတိယပါပဏိကသုတ်]

## အမာဟောင်း၊ လျှပ်စစ်၊ စိန်

ဤလောက၌ အမာဟောင်းနှင့်တူသော စိတ်ရှိသူ၊ လျှပ်စစ်နှင့် တူသော စိတ်ရှိသူ၊ ဝဇီရစိန်နှင့် တူသော စိတ်ရှိသူ ဟူ၍ ပုဂ္ဂိုလ် သုံးမျိုးရှိ၏။ ထိုသုံးမျိုးကား-

သေးပုပ်၊ ပြည်ပုပ်တို့ တည်ခဲနေသော အနာဟောင်း အနာဆွေးကို ဝါးခြမ်းစ အိုးခြမ်းကွဲတို့ဖြင့် ထိခိုက်ရုံမျှဖြင့် သွေး ပြည် အရိုအရွဲများ ယိုထွက်ကုန်သကဲ့သို့ အချို့သော ပုဂ္ဂိုလ်တို့သည် စိတ်အလိုမကျခြင်း၊ အနည်းငယ်မျှဖြင့် အမျက်ထွက်တတ်၏။ အမှတ်မထင် သာမန်ပြောဆိုခြင်း၊ ကိုလည်း အမှတ်အစွဲ ကြီးတတ်၏။ စိတ် နာကျည်း ခက်ထန်ကာ မလိုမုန်းထားရှိတတ်၏။ ရန်တုံ့မူတတ်၏။ ထိုသူမျိုးကိုအမာဟောင်းနှင့် တူသောစိတ်ရှိသူဟု ဆိုရလေသည်။

မှောင်မိုက်သော ညဥ့်အခါ၌ လျှပ်စစ်လက်လိုက်သည် ရှိသော် ထိုခဏတွင် အရာဝတ္ထု အဆင်းသဏ္ဌာန် တို့ကို ပီပီထင်ထင် ကောင်းစွာ မြင်ရလေ၏။ ထိုနည်းတူစွာ အချို့သော ပုဂ္ဂိုလ်တို့သည် ဤလောက၌ ဖြစ်ပျက် ပြုပြင်ပြောင်းလဲလျက်ရှိနေသော သဘာဝတရားတို့ကို ကောင်းစွာ မြင်သိ၏။ ဤကား အကျိုးတရား၊ ဤကားအကြောင်းတရား၊ ဤကား အမှန်သဘော၊ ဤကား အမှားသဘော၊ ဤကား ဆင်းရဲခြင်းတည်း၊ ဤကား ချမ်းသာခြင်း တည်း စသည်ဖြင့် သဘော သဘာဝတို့ကို ပိုင်းခြားထင်ထင် သိတတ် မြင်တတ်၏။ ထိုသူမျိုးကို လျှပ်စစ်နှင့်တူသော စိတ်ရှိသူဟု ဆိုရလေသည်။

ဝဇီရစိန်သည် ကျောက်၊ ပတ္တမြား၊ ဖန်၊ မှန်တို့ကို ခွဲဖြတ်နိုင်စွမ်း ရှိသည်သာဖြစ်၏။ ထိုနည်းတူစွာပင် ဤလောက၌ အချို့သောပုဂ္ဂိုလ်သည် လိုချင် တပ်မက်ခြင်း၊ တွယ်တာနှစ်သက်ခြင်း၊ အမျက်ဒေါသ ထွက်ခြင်း၊ ငြူစူ စောင်းမြောင်းခြင်း၊ တွေဝေ မိုက်မဲခြင်း စသည့် ကိလေသာ အညစ်အကြေးတို့ကို ပယ်ဖျက်ပြီး ဖြစ်လေ၏။ ထိုသူမျိုးကို ဝဇီရစိန်နှင့်တူသော စိတ်ရှိသူဟု ဆိုရလေသည်။

[ ဝဇီရူပမသုတ် ]

## မစင်တွင်းထဲက မြွေ

မစင်တွင်းထဲ၌ ကျရောက်လျက် ရှိသော မြွေဆိုးကို ဆယ်ယူ တင်ပေးငြားအံ့၊ ထိုမြွေဆိုးသည် ဆယ်ယူ တင်ပေးသူကို ကိုက်မူလည်းကိုက်ရာ၏၊ မကိုက်စေကာမူ မစင်မူကား ထိရောက် ပေကျံမည်သာ ဖြစ်၏။

ဤလောက၌ အချို့သော သူသည် လိမ်လည် ကောက်ကျစ်သော သဘောရှိ၏။ စင်ကြယ်သော အကျင့် သိက္ခာမရှိ။ လောဘ၊ ဒေါသ၊ ရာဂ စသော ကိလေသာရမ္မက် အားကြီး၏၊ ထိုသူမျိုးကို ရှောင်ရှားရာ၏။ အပေါင်းအသင်း မပြုလုပ်ရာ။ ထိုသူမျိုးနှင့် ရောဝင် ပေါင်းသင်းသော် ထိုသူ၏ မကောင်းကျင့်များကို အတုလိုက်၍ ကျင့်သုံးမူလည်း ကျင့်သုံးရာ၏။ မကျင့်သုံးမိသော်လည်း 'ဤသူကား မကောင်းသော လူယုတ် လူညံ့နှင့် အပေါင်းအသင်း ရောင်းရင်း မိတ်ဆွေ ဖြစ်၏'ဟု အများတကာ၏ ထင်မှတ်ခြင်း ခံရမည်သာ မလွဲပေ။

[-ဇိဂုစ္ဆိတဗ္ဗသုတ်]

## လူ သုံးမျိုး စကားသုံးမျိုး

မစင်ကဲ့သို့ အနံ့ဆိုးသော စကားကို ဆိုတတ်သည့် ပုဂ္ဂိုလ်၊ ပန်းကဲ့သို့ ရနံ့မွှေးသော စကားကိုဆိုတတ်သည့်ပုဂ္ဂိုလ်၊ ပျားကဲ့သို့ ချိုမြိန်သော စကားကို ဆိုတတ်သည့် ပုဂ္ဂိုလ်ဟူ၍ လူ သုံးမျိုး၊ စကား သုံးမျိုး ရှိလေသည်။

အမှုကိစ္စ ပြဿနာ တစ်စုံတစ်ရာကို ဖြေရှင်းရန်အတွက် "အိုမိတ်ဆွေ၊ ကျေးဇူးပြု၍ ကူညီပါ၊ မိတ်ဆွေမြင်သည့်အတိုင်း ပြောပေးပါ၊ ကြားသည့်အတိုင်း၊ သိသည့်အတိုင်း အမှန်ကို ပြောဆို ပေးပါ"ဟု ဖိတ်ခေါ်၍ သက်သေအရာ၌ ထား၏။

ထိုသူသည် မြင်သည့်အတိုင်း မထွက်ဆိုပေ။ ကြားရ သိရသလို မထွက်ဆိုပေ။ တစ်ဖိုးလက်ဆောင်ကြောင့် ဖြစ်စေ၊ သူ လိုလားမှု၊ မလိုလားမှုကြောင့် ဖြစ်စေ၊ မမှန် မကန် လိမ်လည်၍ ပြောကြားလေ၏။ ထိုသူမျိုးသည် မစင်ကဲ့သို့ အနံ့ဆိုးသော စကားကို ဆိုတတ်သူ မည်ပေ၏။

အချို့သောသူကား သက်သေအရာ၌ ထားသောအခါ မည်သည့်အကြောင်းကိုမျှ မငဲ့တဲ မြင်သည့် အတိုင်း၊ ကြားသိရသည့် အတိုင်းသာလျှင် အမှန်အကန်ကို ပြောကြား၏။ ထိုသူမျိုးသည် ပန်းကဲ့သို့ ရနံ့မွှေးသော စကားကို ဆိုတတ်သူ မည်ပေ၏။

အချို့သော သူသည် စကားကို ကြမ်းကြမ်းတမ်းတမ်း မပြောပေ။ မောက်မာဝင့်ကြွား၍ မပြောပေ။ ပြေပြစ်ကင်းစင်သော စကားကိုသာ ပြောလေ့ရှိ၏။ သူတစ်ပါးနှင့်လိုဖွယ်ရာရှိသော စကားကောင်းကိုသာလျှင် ယဉ်ကျေး သိမ်မွေ့စွာ ပြောလေ့ရှိ၏။ ထိုသူမျိုးသည် ပျားကဲ့သို့ ချိုမြိန်သော စကားကို ဆိုတတ်သူ မည်ပေ၏။

[—ဂူထတာကိသုတ်]

## လူ သုံးမျိုး အမြင် သုံးမျိုး

ဤလောက၌ အချို့သောသူသည် စီးပွားဥစ္စာ ရရှိရေးနှင့် စီးပွားဥစ္စာ တိုးပွားရေးကိုလည်း မသိမြင်တတ်။ ဤသည်ကား အပြစ်ရှိ၏၊ ဤသည်ကား အပြစ်မရှိ၊ ဤသည်ကား နိမ့်၍ ဤသည်ကား မြင့်မြတ်၏၊ ဤသည်ကား အကြောင်းတရားဖြစ်၍ ဤသည်ကား အကျိုးတရား ဖြစ်ပေ၏ စသည်ဖြင့် သဘောသဘာဝကိုလည်း မသိမြင်တတ်။

ထိုသူမျိုးကား မျက်စိ စုံလုံးကန်းသူ မည်၏။

အချို့သော သူမှာမူ စီးပွားဥစ္စာ ရရှိရေးနှင့် စီးပွားဥစ္စာ တိုးပွားရေးကိုမူ သိမြင်တတ်ပေ၏။ အပြစ်ရှိခြင်း မရှိခြင်း၊ ယုတ်နိမ့်ခြင်း မြင့်မြတ်ခြင်း၊ အကြောင်းတရားဖြစ်ခြင်း၊ အကျိုးတရား ဖြစ်ခြင်းစသည့် သဘောသဘာဝတို့ကိုမူ မသိမြင်တတ်ပေ။

ထိုသူမျိုးကား မျက်စိတစ်ဖက်သာလျှင် မြင်သူမည်၏။

အချို့သောသူကား စီးပွားဥစ္စာ ရရှိရေးနှင့် စီးပွားဥစ္စာ တိုးပွားရေးကိုလည်း သိမြင်တတ်၏။ အပြစ်ရှိခြင်း မရှိခြင်း၊ ယုတ်နိမ့်ခြင်း၊

မြင့်မြတ်ခြင်း၊ အစကြောင်းတရားဖြစ်ခြင်း၊ အကျိုးတရား ဖြစ်ခြင်းစသည့် သဘော သဘာဝတို့ကိုလည်း သိမြင်တတ်၏။

ထိုသူမျိုးကို မျက်စိနှစ်ဖက်လုံး အမြင်ရှိသူဟု ဆိုရလေသည်။

[-အန္ဓသုတ်]

## လူသုံးမျိုး ရယူခြင်းသုံးမျိုး

မှောက်ထားသော ရေအိုးထဲသို့ ရေကို လောင်းထည့်သော်လည်း ရေ မဝင်ရောက်နိုင်။ အိုးထဲတွင် ရေ တစ်စက်လောက်မျှပင် ထည့်ရှိလိမ့်မည် မဟုတ်ပေ။

ဤလောက၌ အချို့သောသူသည် မိမိ လိမ္မာတတ်သိ ပညာရှိရန် အတွက် တစ်ပါးသူက သင်ကြားပို့ချ ပြောဟောသည်ကို နားထောင်၏။ သို့သော် စိတ်ဝင်စားခြင်း မရှိ၊ နာယူ မှတ်သားခြင်း လည်း မရှိ။ ထို့ကြောင့် သင်ကြား ပြောဟော၍ ပြီးဆုံးသွားသော်လည်း ထိုသူသည် ဘာမျှ မမှတ်မိလိုက်ပေ။ ဘာမျှမရရှိလိုက်ပေ။ ထိုသူမျိုးသည် မှောက် ထားသော အိုးနှင့်တူသူတည်း။

ဖွင့်လျက် လှန်ထားသော ရေအိုးထဲသို့ ရေကို လောင်းထည့်လျှင် ရေသည် ရေအိုးထဲသို့ ရောက်လျက် တည်နေမည်သာ ဖြစ်၏။

အချို့သောသူသည် တစ်ပါးသူက သင်ကြားပို့ချ ပြောဟောသည်ကို ကောင်းစွာလည်း နားထောင်၏။ စိတ် ဝင်စား၍ မှတ်သား နာယူ ခြင်းလည်း ရှိ၏။ ထို့ကြောင့် ထိုသူမှာ လိမ္မာ တတ်သိရန် ပညာများ ရရှိနိုင်ပေ၏။ ထိုသူမျိုးကား ဖွင့်လျက် လှန်ထားသော ရေအိုးနှင့် တူသူ တည်း။

ပုဆိုးခါးပိုက်ထဲတွင် နှမ်းစေ့များ၊ ပဲစေ့များ၊ ဆန်စေ့များကို ထည့်ထား၍သူသည် ထိုနေရာမှ အမှတ်မဲ့ထလိုက်လျှင် နှမ်းစေ့၊ ပဲစေ့၊ ဆန်စေ့များ ဖရိုဖရဲ ပြန့်ကျဲ လွင့်စဉ်ကျကုန်မည်သာ ဖြစ်၏။

အချို့သောသူသည် သူတစ်ပါးက သင်ကြားပို့ချ ဟောပြောသည်ကို နားထောင်ခြင်းကား ရှိ၏။ သို့သော် မှတ်သားနာယူခြင်းကား မရှိပေ။ သင်ကြား ပို့ချဟောပြောခြင်း ပြီးဆုံးသောအခါ ထိုသူမှာ တတ်သိလိမ္မာရန် ပညာများကို ဘာတစ်ခုမျှ မမှတ်မိ မရရှိတော့ပေ။ ထိုသူမျိုးကား ပုဆိုးခါးပိုက်သို့ လူမျိုးပေတည်း။

[-အဝကုဋ္ဌသုတ်]

## ခိုးသူကြီး နှစ်ယောက်

သူခိုးသည် အမှိုသုံးမျိုး ရရှိထားသဖြင့် အတင့်ရဲကာ ထကြွသောင်းကျန်းလျက် ရှိ၏။ အမှိုသုံးမျိုးကား မညီညွတ်သည့်နေရာ၊ တောအုပ်၊ အားကြီးသူ ဤသုံးမျိုးတို့ ဖြစ်၏။

၁။ သူခိုးသည် အသွား အလာ အကူးအသန်း ခက်ခဲသော မြစ်လည်းတောင်း၊ တောင်ကိုလည်းကောင်း အမှိုရထား၏။

၂။ အရှာရ အနဖွရခက်ခဲသော မြက်တော၊ သစ်တောနှင့် ထူထဲသည့် တောအုပ်ကို အမှိုရထား၏။

၃။ မင်းကိုသော်လည်းကောင်း၊ မှူးမတ်များကိုသော်လည်းကောင်း အမှိုရထား၏။ အပြစ်ကျူးလွန်သော ထိုခိုးသူကြီးအား မင်းကဖြစ်စေ၊ မှူးမတ်များက ဖြစ်စေ အပြစ်မရအောင် ကာကွယ်ပေးသော ရှိသောကြောင့် ထိုခိုးသူကြီးသည် ပို၍ ခိုးအားရှိလေ၏။

ယင်းသို့လျှင် မညီညွတ်သည့်နေရာ၊ တောအုပ်၊ အားကြီးသူတည်းဟူသော အမှိုသုံးမျိုး ရှိသဖြင့် သူခိုးသည် အိမ်တစ်အိမ်ကိုသော်လည်းဖောက်ထွင်းခိုးယူ၏။ ရွာကိုသော်လည်း၊ တိုက်ခိုက် လုယက်၏။ လမ်းခရီး၌စောင့်၍သော်လည်း တိုက်ခိုက် လုယက်၏။

### အမှိုသုံးမျိုး

ဤသာသနာတော်၌ အကျင့်သိက္ခာကင်းမဲ့သော ရဟန်းသည် သူခိုးကြီးကဲ့သို့ပင် အမှိုသုံးမျိုးဖြင့် ရပ်တည်၍နေ၏။ အသက် မွေးဝမ်းကျောင်း

ပြုရှိနေ၏။ အမှိုသုံးမျိုးကား မညီညွတ်သည့်နေရာ၊ တောအုပ်၊ အား ကြီးသူတို့ပင်တည်း။

ထိုရဟန်းအဖို့ မညီညွတ်သည့်နေရာ ဟူသည်မှာ မညီညွတ်သည့် အာယတနကို၊ ဝစီကံ၊ မနောကံတို့ ဖြစ်၏။ ကာယဒုစရိုက်၊ ဝစီဒုစရိုက်၊ မနော ဒုစရိုက်တို့ဖြစ်၏။

ထိုရဟန်းအဖို့ တောအုပ် ဟူသည်မှာ မှားသော အယူဝါဒတည်း။ ဥစ္ဆေဒဒိဋ္ဌိ၊ သဿတဒိဋ္ဌိစသော အယူမှားပေတည်း။

ထို ရဟန်းအဖို့ အားကြီးသူ ဟူသည်မှာ မင်းသော်လည်းကောင်း၊ မှူးကြီး မတ်ကြီး များသော် လည်းကောင်း ဖြစ်၏။ ထို ရဟန်းသည် အကျွမ်းဝင်သိကျွမ်း ကင်းမဲ့လျက်ရှိသော်လည်း မင်းကသော် လည်းကောင်း၊ မှူးကြီး မတ်ကြီးများကသော် လည်းကောင်း အာဏာအကျွယ် ပေး၏။ ထို ရဟန်း၏ ကောင်းသတင်းကို ပြောဆိုပေး၏။

ထိုသို့သော အမှို သုံးမျိုးဖြင့် ရဟန်းဆိုးသည် အသက်မွေး ဝမ်းကျောင်းကာ ရပ်တည်နေ၏။ ဤသည်ပင်လျှင် မိမိ၏ဂုဏ်ကို တူးဖြို ဖျက်ဆီးပစ်နေခြင်း မည်လေသည်၊ မကောင်းမှုများကို တိုးပွားစေခြင်း မည်လေသည်။

[မဟာဝဂ္ဂ၊ စာရသုတ်]

## အိမ်မီးလောင်သော်

အိမ်ကို မီးလောင်သည်ရှိသော် အိမ်ရှင်သည် အိုးခွက်စသည်ကိုထုတ်ယူ သယ်ဆောင်ရာ၏။ မီးစွဲလောင်ခြင်းမှ လွတ်ကင်းကျန်ရှိနေသော အချို့ ပစ္စည်းသည်း ရှိတတ်ပေ၏။ ထို ထုတ်ယူသယ်ဆောင်ထားသော ပစ္စည်း သည်လည်းကောင်း၊ မီး မလောင်ကျွမ်းဘဲ ကျန်ရစ်သည့် ပစ္စည်းသည် လည်းကောင်း အိမ်ရှင်အတွက် ဖြစ်၏။ အိမ်ရှင်အဖို့ အထောက်အပံ့ ဖြစ်၏။

ဤလောက၌ လူသားတို့အား အိုခြင်းမီး၊ နာခြင်းမီး၊ သေခြင်းမီးသည် အစဉ်သဖြင့် တောက်လောင် ပူကျွမ်းလျက် ရှိပေသည်။ မသေမီက အပြစ်မရှိ ကောင်းမြတ် စင်ကြယ်သော ပြုမှုလုပ်ဆောင်ချက်သည်သာလျှင်၊ ကုသိုလ်ကောင်းမှု အစုစုသည်သာလျှင် ထိုလူသားအတွက် အထောက်အပံ့ ဖြစ်လေသည်။ အိမ်မီးလောင်ရာ၌ ထုတ်ယူသယ်ဆောင်ထားအပ်သော ပစ္စည်းကဲ့သို့တည်း။

[ဒွေဗြာဟ္မဏသုတ်]

## မာလောနွယ်

မာလော နွယ်ပင်ဟူသည် အင်ကြင်းပင်၊ စမျာက်ငိုပင်၊ ကြို့ပင်စသော အခြားသောသစ်ပင်တို့ကို နွယ်တက်မြှေးယှက်၍ ဖျက်ဆီးတတ်၏။

ထို မာလောနွယ်ပင်ကို အမြစ်ရင်းမှ တူးဖြိုခုတ်စဉ်း၍ မီးရှို့ပစ်သည် ရှိသော် အခြားသစ်ပင်တို့ကို နွယ်တက်မြှေးယှက်၍ မဖျက်ဆီးနိုင်တော့။ မျိုးပြုတ်ကာ နောက်ထပ်တစ်ဖန် အပင်မပေါက်နိုင်သောကြောင့်တည်း။

လောဘ၊ ဒေါသ၊ မောဟ၊ မာနစသော ကိလေသာတို့သည် လူသားတို့အား ငြိကပ်နှောင်ဖွဲ့တတ်၏။ ကြောင့်ကြ ပူပန်စေတတ်၏။ ဆင်းရဲပင်ပန်းစေတတ်၏။

လူသားတို့သည် ထိုကိလေသာ အညစ်အကြေးတို့ကို သတိ ဝီရိယ ဉာဏ်ပညာဖြင့် အပြီးတိုင် ချေဖျက် သုတ်သင်ပစ်ရာ၏၊ ထိုအခါ လူသားတို့သည် ကြောင့်ကြ ပူပန်ခြင်း၊ ဆင်းရဲပင်ပန်းခြင်းမရှိ ဖြစ်ရလေတော့သည်။ လောဘ၊ ဒေါသ၊ မောဟ၊ မာန်မာနစသော ကိလေသာအညစ်အကြေးတို့ ကင်းပျောက် ဆိတ်သုဉ်းပြီးဖြစ်သောကြောင့်တည်း။

[အကုသလမူလသုတ်]

## စပါးကို ဖန်ဆင်း၍မရ

လယ်သမားသည် ''ငါ၏ စပါးတို့သည် ယနေ့ပင်ပေါက်စေသတည်း၊ နက်ဖြန်တွင် ဖုံးစေသတည်း၊ သန်ဘက်ခါတွင် မှည့်စေသတည်း'' ဟု ဖန်ဆင်း၍ မရပေ။ ထွန်ယက်စိုက်ပျိုး၍ ရေသွင်း ရေထုတ် စသည့်လုပ်ဆောင်အပ်သည်တို့ကို လုပ်ဆောင်မှသာ ဥတုရာသီအလိုက် စပါးကို ရရှိပေ၏။

ထို့နည်းတူစွာ တစ်စုံတစ်ယောက်သောသူသည် ''ငါသည် ယနေ့၌သော်လည်းကောင်း၊ နက်ဖြန်၌သော် လည်းကောင်း၊ သန်ဘက်ခါ၌သော်လည်းကောင်း၊ တဏှာဒိဋ္ဌိဟူသောကိလေသာ အညစ်အကြေး ကင်းစင်စေသတည်း''ဟုဖန်ဆင်း၍ မရပေ။ အဓိသီလ၊ အဓိစိတ္တ၊ အဓိပညာတည်းဟူသောသိက္ခာသုံးပါးတို့ဖြင့် ဆောက်တည် ကျင့်သုံးမှသာလျှင် ထိုက်သင့်သည်အားလျော်စွာ တရားထူးကို ရရှိနိုင်ပေ၏။

[လောဏကပလ္လဝဂ်၊ ပထမသုတ်]

## မိုးရွာခြင်းနှင့် ညီညွတ်ခြင်း

ကုန်းမြင့်တောင်ထိပ်တို့၌ မိုးရွာသွန်းသည် ရှိသော် မိုးရေ တို့သည် နိမ့်ရာသို့ စီးဆင်းကုန်၏၊ ထိုမိုးရေတို့သည် ရှေးဦးစွာ ပယ်ကြွားအက်တို့ကို ပြည့်လျှံစေ၏။ ထို့နောက် ချောင်းငယ် မြောင်းငယ်တို့ကို ပြည့်လျှံစေ၏။ ထိုမှနောက်တွင် အိုင်ငယ်အိုင်ကြီးတို့ကို ပြည့်လျှံစေ၏။ ထိုမှနောက်တွင် မြစ်ငယ်မြစ်ကြီးတို့ကို ပြည့်လျှံစေ၏။

ယင်းသို့ အဆင်ဆင့် ပြည့်လျှံရခြင်းသည်ကား မိုးရွာသွန်းခြင်းသည် ပထမ အခြေခံ ဖြစ်လေသည်။ မိုးရွာသွန်းခြင်း မရှိသော် အဆင့်ဆင့် ပြည့်လျှံခြင်းဟူ၍ မရှိနိုင်ပေ။ ပယ်ကြွားအက်မှစ၍ အင်၊ အိုင် ချောင်း မြောင်းနှင့် မြစ်ငယ်မြစ်ကြီးကို ပြည့်လျှံခြင်းဟူ၍ မရှိနိုင်ပေ။

ဤလောက၌ လူသားတို့သည် အချင်းချင်း ညီညွတ်စည်းလုံးမှုရှိလျှင် ဝမ်းမြောက်ဝမ်းသာ ရှိကြရ၏။

ဝမ်းမြောက်ဝမ်းသာ ရှိကြရခြင်းကြောင့် အပြော အဆို၊ အပြုအမူ၊ အကြံအစည် ဟူသမျှ ကောင်းမွန်သန့်ရှင်းစွာဖြင့် ပြုမူ၊ ပြောဆို၊ ကြံစည်ကြရလေ၏။

ထို့ကြောင့် အချင်းချင်း မနာလို ဝန်တိုခြင်း၊ ကောက်ကျစ်စဉ်းလဲခြင်း၊ အနိုင်ကျင့် အမြတ်ထုတ်ခြင်း၊ စိုးရိမ်ကြောင့်ကြရခြင်း၊ ပူပန်ဆင်းရဲရခြင်းတို့ ကင်းရှင်းကြရကုန်၏၊ ကျေနပ် နှစ်သက်ခြင်း၊ ရောင့်ရဲတင်းတိမ်ခြင်း၊ စိတ်ချယုံကြည်ရခြင်း စသော ချမ်းသာသုခကို ခံစားကြရကုန်၏။

အချင်းချင်း စည်းလုံးညီညွတ်မှုကို အရင်းအနှီး ပြု၍ ဖြစ်ပေါ်လာရသော အကျိုးအမြတ် ပေးတည်း။ စည်းလုံး ညီညွတ်မှု၏ ရလဒ်ပေတည်း။

[ပရိသာသုတ်]

## မြင်း နှင့် လူ

တန်ဖိုးထားရှိ လေးစားအပ်သော မြင်းကောင်း၏ အင်္ဂါရပ်ကား ၃-မျိုး ရှိပေ၏။

ပုံသဏ္ဌာန် အဆင်းတင့်တယ်ခြင်း၊ ခွန်အားရှိခြင်း၊ လျင်မြန်ခြင်းတို့ ပေတည်း။

ဤလောက၌ ရှိသောလေးစား၍ ကြည်ညိုအားထားအပ်လော ပုဂ္ဂိုလ်၏ အင်္ဂါရပ်ကား ၃-မျိုး ရှိပေ၏။

အဆင်း၊ ခွန်အား၊ လျင်မြန်ခြင်းတို့ပင်တည်း၊

ကောင်းမြတ်သန့်စင်သော သီလ၊ သိက္ခာနှင့် ပြည့်စုံသူကို အဆင်းရှုပ တင့်တယ်သူဟု ဆိုအပ်လေသည်။ မကောင်းသော အပြုအမူကို ရှောင်ကြဉ်၍ ကောင်းသော အပြုအမူကို သာလျှင် လုပ်ဆောင်ရန် ထက်သန် မြဲမြံစွာ ဆောက်တည်သူကို ခွန်းအားရှိသူဟု ဆိုအပ်လေသည်။

အကြောင်းနှင့် အကျိုး၊ အကောင်းနှင့်အဆိုး၊ အမှားနှင့်အမှန် ဟူ၍ သဘာဝတရားအားဖြင့် ပိုင်းခြား ဝေဖန်တတ်သူကို လျှင်မြန်ခြင်းနှင့် ပြည့်စုံသူဟု ဆိုအပ်လေသည်။

[-အာဇာနီယသုတ်]

## အငယ် အကြီး အသစ် အဟောင်း

လျှော်မျှင် အညံ့စားဖြင့် ရက်လုပ်ထားသော ပုဆိုးဟူသည်မှာ အသားလည်း ကြမ်းတမ်း၏။ အရောင်အသွေးလည်းမလှ။ တန်ဖိုးလည်းမရှိပေ။ ထို လျှော်မျှင်ပုဆိုး အသစ်သည် လည်းကောင်း၊ တစ်ပတ်ရစ်သည်လည်းကောင်း၊ အဟောင်းသည်လည်းကောင်း သဘောအားဖြင့် မခြားနားပေ။ အသားကြမ်း၊ အရောင်မလှ၊ အဖိုးမတန်သည် သာတည်း။

ဤလောက၌ အကျင့်သိက္ခာ ယုတ်ညံ့၍ အသိပညာ မရှိသူသည် အမှုအရာအားဖြင့်လည်း ယဉ်ကျေးသိမ်မွေ့မှုမရှိ၊ ရုန့်ရင်းကြမ်းကြုတ်၏။ အသွင်သဏ္ဌာန်အားဖြင့်လည်း မတင့်တယ်။ သူတစ်ပါးအား အကျိုးပြုခြင်းမရှိသဖြင့် တန်ဖိုးလည်း မရှိပေ။

ထိုသို့သော သူသည် လူငယ်ဖြစ်စေ၊ လူလတ်ဖြစ်စေ၊ လူကြီးဖြစ်စေ သဘောအားဖြင့် မခြားနားပေ။ အမူအရာ ရုန့်ရင်းကြမ်းတမ်း၊ အသွင်သဏ္ဌာန် မလှ၊ သူတစ်ပါးအား အကျိုးမပြုနိုင်သည် သာလျှင်တည်း။

အကောင်းစား ပိုးချည်ဖြင့် ရက်လုပ်ထားသော ပုဆိုး ဟူသည်မှာ အသစ်ဖြစ်စေ၊ တစ်ပတ်ရစ်ဖြစ်စေ၊ အဟောင်းဖြစ်စေ အသားနူးညံ့၏။ အရောင် အသွေး လှပ၏။ အသုံးဝင် တန်ဖိုးရှိ၏။

အကျင့်သိက္ခာရှိ၍ အသိပညာနှင့် ပြည့်စုံသူသည် လူကြီးဖြစ်စေ လူလတ်ဖြစ်စေ၊ လူငယ်ဖြစ်စေ အမူအရာအားဖြင့်လည်း ယဉ်ကျေးသိမ်မွေ့၏၊ အသွင်သဏ္ဌာန်အားဖြင့်လည်း တင့်တယ်ဖွယ်ရာရှိ၏၊ သူတစ်ပါးအား အကျိုးပြုနိုင်စွမ်းသဖြင့် တန်ဖိုးလည်း ရှိပေ၏။

[-ဥပါဒ္ဓကသုတ်]

## အနည်းနှင့်အများ၊ ဆားနှင့် ရေ

သောက်ရေခွက်ထဲတွင် စားတစ်ဇွန်းမျှ ထည့်၍ သောက်သော် ငန်လွန်းသဖြင့် သောက်ရေအဖြစ် မသောက်သုံးနိုင်ပေ။ ဆားများ၍ ရေနည်းသောကြောင့် ဖြစ်၏။ အိုးတုတ်ကြီးထဲတွင် ဆားတစ်ဇွန်းစာမျှ ထည့်၍ သောက်သော် ငန်ဇသော အရသာ မထင်ရှားသဖြင့် သောက်ရေအဖြစ် သောက်သုံးနိုင်ပေ၏။ ဆားနည်း၍ ရေများသောကြောင့်တည်း။

ဤလောက၌ လူသားသည် အပြစ်ရှိသော၊ မကောင်းသော ပြုလုပ်ဆောင်ရွက်ချက်တို့က များပြား၍ အပြစ်ကင်းသော ကောင်းသောပြုလုပ်ဆောင်ရွက်ချက်တို့က အနည်းငယ်မျှသာရှိ၏။ ထိုသူမျိုးသည် လောက၌ အသုံးမကျသော အမှိုက်သရိုက်မျှသာ ဖြစ်လေ၏။ သူတစ်ပါးအား မကောင်းကျိုးကို ဖြစ်စေသောကြောင့်တည်း။

အပြစ်မရှိသော၊ ကောင်းသော ပြုလုပ်ဆောင်ရွက်ချက်တို့က များပြား၍၊ အပြစ်ကင်းသော မကောင်းသော ပြုလုပ် ဆောင်ရွက်ချက် အနည်းငယ်မျှသာ ရှိသူကား လောက၌ အသုံးဝင်သူဖြစ်၏။ လောကကို အကျိုးပြုနိုင်သောကြောင့်တည်း။

## အနည်းနှင့်အများ၊ အခြေခံစွမ်းအား

ဤလောက၌ ပစ္စည်း ဥစ္စာ မရှိနွမ်းပါး ဆင်းရဲသောသူသည် အသပြာငွေတစ်ကျပ်ဖြင့်လည်း အမှုဖြစ်ပွားရတတ်၏။ အချုပ်အနှောင်ခံရတတ်၏။ အသပြာငွေ တစ်ဆယ်ဖြင့် လည်းကောင်း၊ အသပြာငွေ တစ်ရာဖြင့်လည်းကောင်း အမှု ဖြစ်ပွားရတတ်၏။ အချုပ် အနှောင် ခံရတတ်၏။ ပစ္စည်း ဥစ္စာ မရှိနွမ်းပါးသဖြင့် အသပြာငွေ တစ်ကျပ်ဖြစ်စေ၊ တစ်ဆယ်ဖြစ်စေ၊ တစ်ရာဖြစ်စေ နည်းများမဟူ ရယူလိုမှု အားကြီးသောကြောင့်ပေတည်း။

ပစ္စည်း ဥစ္စာ ပေါများကြွယ်ဝသောသူကား အသပြာငွေ တစ်ကျပ်ဖြင့်လည်း အမှု မဖြစ်ပွားရတတ်။ အချုပ် အနှောင် မခံရတတ်။ အသပြာငွေတစ်ဆယ်ဖြင့်လည်းကောင်း၊ တစ်ရာဖြင့်လည်းကောင်း အမှု မဖြစ်ပွားရတတ်။ အချုပ် အနှောင် မခံရတတ်။ ပစ္စည်း ဥစ္စာ ကြွယ်ဝ

ဖြည့်စုံနေပြီဖြစ်ရာ အသပြာငွေ တစ်ကျပ်၊ တစ်ဆယ်၊ တစ်ရာအတွက် ရယူလိုမှုအားကြီးရန် အကြောင်းမရှိသောကြောင့်တည်း။

အကျင့် သိက္ခာ၊ဉာဏ်ပညာမရှိ ခေါင်းပါးသူသည် အနည်းငယ်သော မကောင်းမှုကြောင့်လည်း အပြစ်ခံရတတ်၏။ ထို့ထက်ပိုမိုသောမကောင်းမှုကြောင့်လည်း အပြစ်ခံရတတ်၏။ များစွာသော မကောင်းမှုကြောင့်လည်း အပြစ် ခံရတတ်၏။ အကျင့် သိက္ခာ ဉာဏ် ပညာ အခံ မရှိသောကြောင့်တည်း။

အကျင့် သိက္ခာ ဉာဏ်ပညာနှင့် ပြည့်စုံသူအား အနည်းငယ်သော မကောင်းမှုကြောင့် ဖြစ်စေ၊ ထို့ထက်ပိုမိုသော မကောင်းမှုကြောင့် ဖြစ်စေ၊ များစွာသော မကောင်းမှုကြောင့် ဖြစ်စေ၊အပြစ်မခံရတတ်ပေ။ အကျင့် သိက္ခာ ဉာဏ်ပညာ အခံရှိထားသောကြောင့်ပေတည်း။

[လောဏကပလ္လသုတ်]

## ရွှေနှင့်စိတ်

ရွှေကျင်သော သူသည် ရွှေနှင့်တကွသော အမှိုက်သရိုက်များကို ရွှေကျင်သည့် ခွက်ထဲသို့ လောင်းသွန်ထည့်၏။ ရှေးဦးစွာ အကြမ်းစား၊ အမှိုက်သရိုက် ဖြစ်သော ကျောက်စရစ်ခဲ၊ အိုးခြမ်းကွဲစသည်တို့ ဆေးကြော ဖယ်ရှား၏။ အကြိမ်ကြိမ် ဆေးကြော၏။ ထို့နောက် အလတ်စား၊ အမှိုက်သရိုက်ဖြစ်သော ကျောက်စရစ်ခဲ၊ အိုးခြမ်းကွဲကလေးများ စသည်ကို ဆေးကြော ဖယ်ရှား၏။ အကြိမ်ကြိမ် ဆေးကြော၏။ ထို့နောက် အနုစား အမှိုက်သရိုက်ဖြစ်သော သဲမှုန့်၊မြေမှုန့် စသည်တို့ကို ဆေးကြောဖယ်ရှား၏။ အကြိမ်ကြိမ် ဆေးကြော၏။

ဤသို့ အထပ်ထပ် အားထုတ်ပြီးမှသာလျှင် ပကတိ ရွှေစင်ကို ရရှိလေသည်။

ထိုရွှေစင်ကား မနူးညံ့သေး။ ကြွပ်ဆတ်သေး၏။ ထို့ကြောင့် အလိုရှိရာ လက်ကောက်၊ နားတောင်း စသည်ကို ပြုလုပ်၍ မဖြစ်သေးပေ။

ပန်းထိမ်ဆရာသည် ထိုပကတိ ရွှေစင်ကို မိုက်လုံ၌ ထည့်၍ မှုတ်၏။ အကြိမ်ကြိမ် မှုတ်၏။ အဖန်ဖန် အထပ်ထပ် မှုတ်၏။

ယင်းသို့ အဖန်တလဲလဲ အားထုတ်ပြီးမှသာလျှင် ပဋိပတ္တိ ဂေရှသည့် နူးညံ့ပျော့ပျောင်းလေသည်။ ဖွံ့ဖွံ့ဖြိုးဖြိုးဖြစ်ထွန်းလာ အခရာဝ်ထွက်လေသည်။ လက်တောက် နားတောင်း စသည်ကို ပြုလုပ်ရန် အသင့် ဖြစ်လာလေသည်။

ဤနည်းလာကဲ့သို့ မြင့်မြတ်သူဖြစ်၍ အထွတ်အထိပ်သို့ ရောက်လိုသော ပုဂ္ဂိုလ်သည်ရှေးဦးစွာ အကြမ်းစားကိလေသာတို့ကို နှိမ်နင်းပယ်ဖျက်ရာ၏။

အကြမ်းစား ကိလေသာ ဟူသည်မှာ ကိုယ်ဖြင့် ပြုမှုလုပ်ဆောင်သော မကောင်းမှု ဒုစရိုက်၊ နှုတ်ဖြင့် ပြောဆိုလုပ်ဆောင်သော မကောင်းမှု ဒုစရိုက်၊ စိတ်ဖြင့် ကြံစည်လုပ်ဆောင်သော မကောင်းမှု ဒုစရိုက်များ ဖြစ်၏။

ယင်းသည့် မကောင်းမှုဒုစရိုက်တည်းဟူသော ကိလေသာ အကြမ်းစားကို အကြိမ်ကြိမ်အထပ်ထပ် နှိမ်နင်းပယ်ဖျက်၏။

ထိုမှတစ်ဆင့် ကိလေသာ အလတ်စားဖြစ်သော ကာမ ရာဂနှင့် ပတ်သက်သည့် အကြံအစည်၊ သူတစ်ပါး ပျက်စီးကြောင်း အကြံအစည်၊ သူတစ်ပါးကို နှိပ်စက် ဖျက်ဆီးကြောင်း အကြံအစည်တို့ကို နှိမ်နင်း ပယ်ဖျက်၏၊ အကြိမ်ကြိမ် အထပ်ထပ် နှိမ်နင်း ပယ်ဖျက်၏။

ထိုမှတစ်ဆင့် ကိလေသာ အနုစား ဖြစ်သော ဆွေမျိုး အပေါင်းအဖော်တို့နှင့် ပတ်သက်သည့် အကြံအစည်၊ မြို့နယ်၊ ရပ်ရွာ၊ နေရာဒေသနှင့် ပတ်သက်သည့် အကြံအစည်၊ မိမိကိုမထိမဲ့မြင် မပြုစေလိုခြင်းနှင့် ပတ်သက်သည့် အကြံအစည်တို့ကို ပယ်စွန့်၏၊ အကြိမ်ကြိမ် အထပ်ထပ် ဆုံးမ၍ ပယ်စွန့်၏။

ယင်းသို့လျှင် အညစ်အကြေး တည်းဟူသော ကိလေသာ အကြမ်းစား၊ အလတ်စား၊ အနုစားတို့ကို အကြိမ်ကြိမ် နှိမ်နင်း ပယ်ဖျက်ပြီး၍၊ အဆင့်ဆင့် ဆုံးမ ပယ်စွန့်ပြီး၍၊ မထန့်မလျော့ခြင်း သမ္မာသတိ၊ တည်ကြည်ခြင်း သမ္မာသမာဓိနှင့် ပြည့်စုံသော ပုဂ္ဂိုလ်ကား မြင့်မြတ်သော ပုဂ္ဂိုလ်တည်း။ အထွတ်အထိပ်သို့ ရောက်ပြီးသော ပုဂ္ဂိုလ်တည်း။

ထိုပုဂ္ဂိုလ်၏ စိတ်အစဉ်သည် ညစ်ကြေး နှောက်ကျုခြင်း ကိလေသာ ဆင်းစင်သောကြောင့် သန့်ရှင်းစင်ကြယ်၏၊ ကြည်လင် တောက်ပ၏။

အရာရာတိုင်းကို ကောင်းစွာ သိနိုင် မြင်နိုင်၏။ ထို့ကြောင့် ထိုပုဂ္ဂိုလ်သည် အလိုရှိသမျှ အရာရာတိုင်းကို ပြီးပြည့်စုံနိုင်ပေ၏။

[-ပံသုဓောဝကသုတ်]

## ပန်းထိမ်သည်၏ လုပ်ထုံး

ရွှေကောင်း ရွှေသန့်ကို စီရင် ပြုလုပ်သော ရွှေပန်းထိမ်သည် သည် ရွှေစကို လုံထဲတွင်ထည့်၍ ကျိုလေ၏။ ယင်းသို့ ကျိုရာတွင် မီးပြင်းတိုက်ခြင်း၊ ရေ ဆွတ်ဖျန်းမပေးခြင်း၊ မီးပြင်းမတိုက် ရေမဆွတ်ဖျန်းဘဲ အနေအားခံထား ခြင်းဟူသော အစီအစဉ်များ ရှိလေသည်။

ထိုသို့လျှင် ရံဖန်ရံခါ မီးဖြင့် မီးတောက်တိုက်၍ ရံဖန်ရံခါ ရေဖြင့် ဆွတ်ဖျန်းပေးလျက် ရံဖန်ရံခါ၌မူ မီးလည်း မတိုက် ရေလည်း မဖျန်းဘဲ ထားရှိခြင်းဟူသော အစီအစဉ်ကို လိုအပ်သည့် အခြေအနေသို့ တိုင်အောင် ပြုလုပ်သော အခါ ရွှေကောင်း ရွှေသန့် ဖြစ်လာရ၏။ ထိုရွှေသည် မာကြွမ်း ကြွပ်ဆတ်ခြင်း မရှိတော့ပေ။ နူးညံ့ပျော့ပျောင်းသော အရောင် တောက်ပလာရ၏။ နားတောင်း၊ လက်ကောက် စသည် ပြုလုပ်ရန် အသင့် ရှိနေသော ရွှေစင် ရွှေကောင်း ပေတည်း။

ရွှေပန်းထိမ်သည်သည် ရွှေစကို အစဉ်သဖြင့် မီးပြင်းတိုက်နေပါမူ ထိုရွှေသည် မီးလောင်ကျွမ်းခြင်းမျှသာ ရှိရာ၏။ ရွှေစင် ရွှေကောင်း ဖြစ်မလာနိုင်။ ထိုရွှေစကို ရေဖြင့်သာလျှင် အစဉ်ဆွတ်ဖျန်းနေပါမူ ထိုရွှေသည် အေးရုံမျှသာ ရှိရာ၏။ နူးညံ့သော ရွှေစင် ရွှေကောင်း မဖြစ်နိုင်ပေ။

## တရားကျင့်ထုံး

ကိလေသာ အညစ်အကြေး ကင်းစင်၍ ဈာန် မဂ်ဖိုလ်တရားကို ရယူလိုသော ပုဂ္ဂိုလ်သည် သမထ ဝိပဿနာ စိတ်ကို အဖန်ဖန် ပွားများ အားထုတ်လေ၏။

ယင်းသို့ ပွားများ အားထုတ်ရာ၌ ရံဖန်ရံခါ သမာဓိဟူသော အကြောင်းကို နှလုံးသွင်းအပ်၏။ ရံဖန်ရံခါ ဝီရိယ ဟူသော အကြောင်းကို

နှလုံးသွင်းအပ်၏။ ရံဖန်ရံခါ ဥပေက္ခာ ဟူသော အကြောင်းကို နှလုံးသွင်း အပ်၏။

ယင်းသို့လျှင် အစီအစဉ် အားလျော်စွာ၊ အကြောင်းအားလျော်စွာ ပွားများ အားထုတ်သည် ရှိသော် ထိုပုဂ္ဂိုလ်၏ စိတ်အစဉ်သည် တည်ကြည် ငြိမ်သက်လာ၏။ နူးညံ့သိမ်မွေ့လာ၏။ သန့်ရှင်းစင်ကြယ်၍ အရောင် တောက်ပလာ၏။ ထိုသို့ သဘောရှိသော စိတ်အစဉ်သည် မိမိလိုရာကို ပြုလုပ်ရန် စေစားရန် အသင့်ရှိနေသည်သာတည်း။

သမထ ဝိပဿနာ စိတ်ကို ပွားများအားထုတ်သော ပုဂ္ဂိုလ်သည် သမာဓိဟူသော အကြောင်းကိုသာလျှင် တစ်ဖက်သတ် နှလုံးသွင်းပါမူ စိတ်သည် ပျင်းရိငြီးငွေ့ခြင်း ဖြစ်လာတတ်၏။ ဝီရိယဟူသော အကြောင်း ကိုသာလျှင် တစ်ဖက်သတ် နှလုံးသွင်းပါမူ စိတ်သည် ပျံ့လွင့် တွေဝေခြင်း ဖြစ်လာတတ်၏။ ဥပေက္ခာဟူသော အကြောင်းကိုသာလျှင် တစ်ဖက်သတ် နှလုံးသွင်းပါမူ စိတ်သည် ကောင်းစွာမတည်ခြင်း ဖြစ်လာတတ်၏။

ထိုသို့ ရှိသော် စိတ်အစဉ်သည် နူးညံ့သိမ်မွေ့ခြင်း ဖြစ်မလာနိုင်။ သန့်ရှင်းစင်ကြယ်၍ အရောင်တောက်ပခြင်းလည်း ဖြစ်မလာနိုင်။ မိမိ လိုရာကို ပြုလုပ်စေစားရန် အသင့်ရှိခြင်းလည်း ဖြစ်မလာနိုင်ပေ။

[–နိမိတ္တသုတ်]

## မစင်ကို မထိလေနှင့်

မစင်တွင်းသည် ကျောက်ခရစ်ခဲ၊ အိုးခြမ်းကွဲကဲ့သို့ သေးငယ်သောအရာ ဝတ္ထုမျှဖြင့် ထိခိုက်မိသော်လည်း အနံ့ဆိုးထွက်လေ၏။ လှုန်လှုန်ကဲကဲ ဆိုးဆိုးရွားရွား အနံ့ထွက်တတ်၏။

ဤလောကတွင် အချို့သော သူသည် မပြောပလောက်သည့် အကြောင်း အချက်ကလေးမျှဖြင့်လည်း၊ အမျက်ထွက်တတ်၏။ အနည်းငယ်မျှ ပြောရုံ ဖြင့်လည်း၊ အမျက်ထွက်တတ်၏။ ခက်ထန်တတ်၏။ အမှတ်အငြိုးကြီး တတ်၏။ ရန်ပြုတတ်ပေ၏။

ထိုကဲ့သို့သော ပုဂ္ဂိုလ်မျိုးကို ပေါင်းသင်း ဆက်ဆံခြင်းမပြုဘဲ ရှောင်ကြဉ်ရာ၏။

[—ပုဂ္ဂလဝဂ် သတ္တမသုတ်]

## သားနှင့်အမိ ကယ်နိုင်ခြင်း မကယ်နိုင်ခြင်း

အိုးအိမ်မြို့ရွာကို မီးကြီးပြင်းထန်စွာ လောင်သည်ရှိသော် အမိကသားကို မကာကွယ်နိုင်၊ မစောင့်ရှောက်နိုင်။ သားကလည်း အမိကို မကာကွယ် မစောင့်ရှောက်နိုင်။

မိုးကြီးသည်းထန်စွာ ရွာသဖြင့် အိုးအိမ်မြို့ရွာတို့ မျောပါသည်ရှိသော် အမိက သားကို မကာကွယ် မစောင့်ရှောက်နိုင်။ သားကလည်း အမိကို မကာကွယ် မစောင့်ရှောက်နိုင်။

ဘေးပြု ခိုးသူတို့ လုယက်ဖျက်ဆီးသဖြင့် ပုန်းအောင်း ရွှေ့ပြောင်းကြရသောအခါ အမိကသားကို မကာကွယ် မစောင့်ရှောက်နိုင်။ သားက လည်း အမိကို မကာကွယ် မစောင့်ရှောက်နိုင်။

ဤသည်တို့သား အကြားအမြင် နည်းပါးသော ပုဂ္ဂိုလ်၏ အသိအမြင် ပေတည်း။ အယူအဆပေတည်း။

စင်စစ်အားဖြင့် မီးဘေး၊ ရေဘေး၊ ခိုးသူဘေးတို့ကို ကြုံတွေ့ရသော အခါ အမိနှင့်သားတို့ အချင်းချင်း ကာကွယ်စောင့်ရှောက်မှုသည် ဖြစ် နိုင်ပေသေးသည်။

အမိနှင့်သားတို့ တစ်ဦးကိုတစ်ဦး ကာကွယ် စောင့်ရှောက်ခြင်းငှာ မတတ်နိုင်ကောင်းသည်ကား အိုဘေး၊ နာဘေး၊ သေဘေးတို့သာလျှင် ဖြစ်သတည်း။

အမိအိုခြင်းကို သားက 'ငါ့အမိ မအိုပါစေနှင့်၊ ငါ အိုပါအံ့'ဟု ကာကွယ်စောင့်ရှောက်၍ မရပေ။ သားအိုခြင်းကိုလည်း အမိက 'ငါ့သား မအိုပါစေနှင့်၊ ငါပဲ အိုပါအံ့'ဟု ကာကွယ်စောင့်ရှောက်၍မရပေ။

နာခြင်း၊ သေခြင်းကိုလည်း အမိကသားအတွက် သားက အမိအတွက် ကာကွယ်စောင့်ရှောက်၍ မရပေ။

ယင်းသည့် အို၊ နာ၊ သေ ဟူသော တရားကြီးသုံးမျိုးသည်သာလျှင် အမိန့်ငွေသားတို့ အချင်းချင်း ဓာကွယ် စောင့်ရှောက်၍ မရနိုင်ကောင်းသောအရာ ဖြစ်ပေ၏။

ဤသည်အား အကြားအမြင်နှင့်ပြည့်စုံသော ပုဂ္ဂိုလ်တို့၏ အသိအမြင်ပေတည်း၊ အယူအဆပေတည်း။

အမိန့်ငွေသားတို့ အချင်းချင်း ကာကွယ် စောင့်ရှောက် နိုင်သော တရားမှုလည်းကောင်း၊ မကာကွယ် မစောင့်ရှောက်နိုင်သော တရားမှုလည်းကောင်း လွတ်မြောက်ရာလမ်းစဉ်သည် ရှိပေ၏။

ထိုလမ်းစဉ်အကျဉ်းအား 'မဂ္ဂင်ရှစ်ပါး' အရိယာမဂ်တရားပေတည်း။

[—မဟာဝဂ္ဂ ဘယသုတ်]

## ယင်ကောင်တွေ တရုန်းရုန်း

အခါတစ်ပါး၌ မြတ်စွာဘုရားသည် မိဂဒါဝုန်တော၌ သီတင်းသုံးနေတော်မူ၏။

ထိုအခါ ဆွမ်းခံရာမှ ပြန်လာပြီးသော မြတ်စွာဘုရားသည် ရဟန်းတို့အား ထူးခြားသော တရားစကားတို့ကို မြွက်ဆိုလေ၏။

"ရဟန်းတို့ ယနေ့နံနက်၌ ငါသည် ဗာရာဏသီ အနီး၊ နွားအရောင်းအဝယ်ပြုလုပ်သော ညောင်ကြီးပင် စခန်းတွင် ဆွမ်းခံဝင်ရာ ရဟန်းတစ်ပါးကို တွေ့မြင်ခဲ့ရ၏။

ထို "ထိုရဟန်းသည် တည်ကြည်သော စိတ်မရှိ၊ ဣန္ဒြေတို့ကိုလည်း မစောင့်ရှောက်၊ သတိလွတ်ကင်းကာ ကာမဂုဏ်တို့၌ သာယာ နှစ်သက်လျက်ရှိသည်ကို တွေ့ရ၏။

"ငါသည် ထိုရဟန်းအား 'ရဟန်း၊ သည်သည့် မိမိကိုယ်ကို ထွေးအန်ဖတ်ဖြစ်အောင် မပြုလုပ်သင့်၊ ထွေးအန်ဖတ် ပြုလုပ်သော် သားစိမ်းနံ့နံ့စော်လိမ့်မည်၊ ညစ်ပတ်ပေကျံလိမ့်မည်၊ ထိုအခါ ယင်ကောင်တို့သည် တရုန်းရုန်း ကျရောက် လာလိမ့်မည်'ဟု ဟောကြားခဲ့၏။ ထိုသို့ ဟောကြားဆုံးမသဖြင့် ထိုရဟန်းသည် ထိတ်လန့်ခြင်း သံဝေဂ ရရှိပေ၏"ဟု မြွက်ဆိုတော်မူ၏။

ထိုအခါ—

"အရှင်ဘုရား၊ ထွေးအန်ဖတ်ဟူသည်မှာ အဘယ်အရာကို ဆိုလိုပါသနည်း၊ သားစိမ်းနံ့ ဟူသည်မှာ အဘယ်အရာကို ဆိုလိုပါသနည်း၊ ယင်ကောင်ဟူသည်မှာ အဘယ်အရာကို ဆိုလိုပါသနည်း"ဟု ရဟန်းတစ်ပါးက လျှောက်ထားလေသည်။

"ရဟန်းတို့၊ ထွေးအန်ဖတ်ဟူသည်မှာ အလိုဆိုး အဘိဇ္ဈာပင်တည်း၊ သားစိမ်းနံ့ ဟူသည်မှာ နှိပ်စက်မှု ဗျာပါဒ ပင်တည်း၊ ယင်ကောင်ဟူသည်မှာ ယုတ်ညံ့သော တွေးတော ကြံဆမှု ဝိတက်ပင်တည်း။

"ရဟန်းတို့၊ မျက်စိ၊ နား၊ နှာခေါင်း၊ လျှာ၊ ကိုယ်ခန္ဓာ၊ စိတ်သဘောဟူသော ဣန္ဒြေတို့ကို မစောင့်စည်းသူသည် မိမိကိုယ်ကို ထွေးအန်ဖတ် ပြုလုပ်သည် ဖြစ်၍ သားစိမ်းနံ့ နံ့စော်သော ယင်ကောင်တို့ ကျရောက်လျက် ရှိသူ ဖြစ်၏။

"ပညာမရှိသော သီလ မစင်ကြယ်သော ထိုသူသည် ရွာ၌ သော်လည်းကောင်း၊ တော၌သော်လည်းကောင်း နေထိုင် လှည့်လည်ရာတိုင်း၌ စိတ်၏ ငြိမ်းချမ်းမှုကို မရ၊ ယင်ကောင်တို့ ဝိုင်းအုံ လိုက်ပါလျက် နေရလေ၏"

[—ကုသိနာရဝဂ်၊ကဋုဝိယသုတ်]

## အိမ်၏အမိုး လူ၏စိတ်

အထွတ်တပ်ထားသောအိမ်ကို ကောင်းစွာ မိုးမထားလျှင် အထွတ်ကိုလည်း စောင့်ရှောက်သည် မမည်။ အခြင်ကိုလည်း စောင့်ရှောက်သည် မမည်၊ နံရံကိုလည်း စောင့်ရှောက်သည် မမည်ပေ။

အထွတ်သည်လည်း မိုးရေဖြင့် စွတ်စို၏။ အခြင်၊ နံရံတို့သည်လည်း မိုးရေဖြင့် စွတ်စိုကုန်၏။

အထွတ်သည်လည်း ဆွေးမြည့်၏။ အခြင်၊ နံရံတို့သည်လည်း ဆွေးမြည့်ကုန်၏။

စိတ်ကို မစောင့်ရှောက်လျှင် ကာယကံကိုလည်း စောင့်ရှောက်သည် မမည်။ ဝစီကံကိုလည်း စောင့်ရှောက်သည် မမည်။ မနောကံကိုလည်း စောင့်ရှောက်သည် မမည်ပေ၊

ကာယကံသည်လည်း ကိလေသာ အညစ်အကြေးတို့ဖြင့် စွတ်စို မြေးယုက်၏။ ဝစီကံ၊ မနောကံတို့သည်လည်း ကိလေသာ အညစ်အကြေးတို့ဖြင့် စွတ်စို မြေးယုက်ကုန်၏။

ကာယကံသည်လည်း ဆွေးမြည့် ပျက်စီး၏။ ဝစီကံ၊ မနောကံ တို့သည်လည်း ဆွေးမြည့် ပျက်စီးကုန်၏။

[—အရက္ခိတသုတ်]

## အိမ်စာတုံးလို လူ

မျက်နှာ မြောက်ခုရှိသော အိမ်စာတုံးကို အထက်သို့ ပင့်မြှောက်လိုက်သော် ထို အိမ်စာတုံးသည် အောက်သို့ ကျရာ၌ မည်သည့်မျက်နှာဖြင့် ကျသည် ဖြစ်စေ ကောင်းစွာရပ်တန့် တည်ရှိနိုင်ပေ၏။

ဤလောက၌ အသိအမြင် အယူအဆ မှားယွင်း၍ အကျင့်သီလ ပျက်စီးနေသူသည် ငယ်သည့် နေရာ၌ မည်သည့် အချိန်ကာလသို့ ရောက်ရှိသည်ဖြစ်စေ မကောင်းသဖြင့် ရပ်တည်ရာ၏။ အကျိုးပျက်စီး သဖြင့် ရပ်တည်ရာ၏။

[—အပဏ္ဏကသုတ်]

## ကျောက်စာ မြေစာ ရေစာ

ကျောက်ပြား၌ ရေးထွင်းထားသော အက္ခရာသည် ကာလရှည်စွာ မပျက်မစီး တည်နိုင်၏။ လေဒဏ်၊ မိုးဒဏ်၊ နေပူဒဏ်တို့ကြောင့် ရုတ်တရက် ပျက်စီး ကွယ်ပျောက်သွားခြင်း မရှိနိုင်ပေ။

မြေကြီး၌ ရေးခြစ်ထားသော အက္ခရာသည် ကာလရှည်စွာ မတည် တံ့နိုင်။ လေတိုက်၍ဖြစ်စေ၊ မိုးရွာ၍ ဖြစ်စေ လျင်မြန်စွာ ပျောက်ကွယ် နိုင်ပေ၏။

ရေ၌ ရေးထားအပ်သော အက္ခရာသည်ကား အမှတ်မထင် ခဏချင်း ပင်လျှင် ကွယ်ပျောက်သွားပေ၏။

ဤလောက၌ အချို့သော ပုဂ္ဂိုလ်သည် အစဉ်မပြတ် အမျက်ထွက်တတ်၏။ ထိုအမျက်သည် လျင်မြန်စွာ ပြေငြိမ်းခြင်းမရှိ၊ ကာလရှည်စွာ ကိန်းအောင်း၍ နေပေ၏။ ထိုသူမျိုးကား ကျောက်၌ ရေးထွင်းထားသည့် အက္ခရာနှင့် တူပေ၏။

အချို့သူကား အစဉ်မပြတ် အမျက်ထွက်တတ်ပေသော်လည်း ထိုအမျက်ဒေါသသည် ကာလရှည်စွာ ကိန်းအောင်း၍ မနေ၊ မကြာ မတင် ပြေငြိမ်းသွား၏။ ထိုသူမျိုးသည် မြေကြီး၌ ရေးခြစ်ထားသော အက္ခရာနှင့် တူပေ၏။

အချို့သော သူမှာမူ အချင်းချင်း ကြမ်းကြုတ်သော စကား၊ မနှစ်သက်ဖွယ်သော စကားကို ပြောဆိုခြင်း ပြုသော်လည်း အမှတ် အစွဲ မရှိပေ။ နှီးနှောစွာ ဆက်ဆံမြဲအတိုင်းပင် ဆက်ဆံတတ်၏။ ထိုသူမျိုးကား ရေ၌ ရေးသားအပ်သော အက္ခရာနှင့် တူပေသတည်း။

[-ဥလ္လေခသုတ်]

## အညံ့ဆုံး ပုဆိုး

ချည်မျှင်ဖြင့် ရက်လုပ်အပ်သော အဝတ်အထည်တို့တွင် ဖြူဆံချည်မျှင်ဖြင့် ရက်လုပ်သော အဝတ်အထည် အညံ့ဆုံး၊ အယုတ်ဆုံးဖြစ်၏။ ထိုဖြူဆံချည်မျှင်ထည်သည် အေးသောရာသီ၌ အလွန်အေး၏။ ပူအိုက်သော ရာသီ၌ အလွန်ပူ၏။ အဆင်းမလှ၊ အနံ့မကောင်း၊ ကြမ်းတမ်း၏။

များစွာကုန်သော အယူဝါဒ ဟူသမျှတို့တွင် 'မက္ခလိဂေါသာလ၏ အယူဝါဒသည် အယုတ်ညံ့ဆုံးဖြစ်၏။ မက္ခလိဂေါသာလ၏ အယူဝါဒသည် 'ကုသိုလ် အကုသိုလ်ဟူ၍ မရှိ၊ ကောင်းမှုပြုလုပ်ခြင်း၊ မကောင်းမှု ပြုလုပ်ခြင်းဟူ၍ မရှိ၊ အားထုတ် ကြိုးစားခြင်း ဟူ၍ မရှိ' ဟူသော ဝါဒမျိုး ဖြစ်၏။

မကွလိဂေါသာလသည် ရှေးရှေးသော ကာလက ပွင့်တော်မူပြီးသည့် ဘုရားရှင်တို့ကို လည်းကောင်း၊ နေ့စဉ်ပွင့်တော်မူလတ္တံ့သော ဘုရားရှင်တို့ကိုလည်းကောင်း ဆန့်ကျင်သည့် မည်ပေ၏။

[-ဓေကသကမ္ဗလသုတ်]

## ဝေးကွာခြင်း

ကောင်းကင်နှင့် မြေကြီးသည် ဝေး၏၊ သမုဒ္ဒရာ၏ ဤမှာဘက်ကမ်းနှင့် ထိုမှာဘက်ကမ်းသည် ဝေး၏။ နေထွက်ရာအရပ်နှင့် နေဝင်ရာ အရပ်သည်လည်း ဝေး၏၊ သူတော်ကောင်းတို့နှင့် သူယုတ်မာတို့သည်တား အလွန်အလွန် ဝေး၏။

သူတော်ကောင်း တို့နှင့် ပေါင်းဖော်ခြင်းသည် မပျက်စီးသော သဘောရှိ၏။ သူယုတ်မာတို့နှင့် ပေါင်းဖော်ခြင်းသည် လျင်စွာ ပျက်စီး၏။ ထို့ကြောင့် သူတော်ကောင်းတို့၏ တရားသည် သူယုတ်မာတို့မှ ဝေးသတည်း။

[စတုက္ကနိပါတ်၊ သုဝိဒူရသုတ်]

## မိမိကိုယ်ကို မိမိ သတ်ဖြတ်ခြင်း

ဒေဝဒတ်သည် သံဃာကို သင်းခွဲ၍ လာဘ် ပူဇော်သကာ အကျော်အစော အတွက် အားထုတ်ခြင်းကား သူ့ကိုယ်သူ ဖျက်ဆီးခြင်း မည်၏။ သူ့ ကိုယ်သူ သတ်ဖြတ်ခြင်း မည်၏။

ငှက်ပျောပင်သည် မိမိကိုယ်ကို ဖျက်ဆီး သတ်ဖြတ်ရန် အသီးသီး လာသကဲ့သို့တည်း။

ဝါးပင်သည် မိမိကိုယ်ကို ဖျက်ဆီး သတ်ဖြတ်ရန် အသီးသီးလာ သကဲ့သို့တည်း။

ကျူပင်သည် မိမိကိုယ်ကို ဖျက်ဆီး သတ်ဖြတ်ရန် အသီးသီးလာ

အသိတိုရ်ိမြင်းမသည် မိမိကိုယ်ကို ဖျက်ဆီး သတ်ဖြတ်ရန် ကိုယ်ဝန်ဆောင်သကဲ့သို့တည်း။

[-ဒေဝဒတ္တသုတ်]

## ခေါင်းဆောင်နှင့် နောက်လိုက်

မြစ်ကို ကူးကုန်သော နွားတို့တွင် ရှေ့ဆောင် နွားလားသည် ကောက်ကွေ့၍ သွားသော် နောက်လိုက် နွားတို့သည်လည်း ကောက်ကွေ့၍ သာလျှင် လိုက်ကုန်၏။

ရှေ့ဆောင်နွားလားသည် ဖြောင့်တန်းစွာ ကူးသွားပါမူ နောက်လိုက် နွားတို့သည်အညီး ဖြောင့်တန်းစွာသာလျှင် ကူးလိုက်ကြကုန်၏။

ဤလောက၌ ရှေ့တန်းမှ တာဝန်ရှိသူ ခေါင်းဆောင် လုပ်သူက စည်းကမ်းတကျ အမှန်အကန် ကျင့်သုံး လုပ်ဆောင်လျှင် နောက်လိုက် လူများသည်လည်း စည်းကမ်းတကျ အမှန်အကန်ပင် ကျင့်သုံး လုပ်ဆောင်မြဲ ဖြစ်၏။

ခေါင်းဆောင်လုပ်သူ အကြီးအကဲက စည်းကမ်း မရှိ၊ မဟုတ်မမှန် ကျင့်သုံးလုပ်ဆောင်ပါမူ နောက်လိုက် လူအများမှာ အဘယ် ဆိုဖွယ်ရာ ရှိမည်နည်း။

[-အဓမ္မိကသုတ်]

## ရောက်လာခါစ ချွေးမ

ယောက္ခမ အိမ်သို့ လိုက်ပါလာသော ချွေးမသည် ထို ရောက်လာခါစ တစ်ရက်လောက်၌ လင်ကိုလည်း လွန်စွာ ရှက်ကြောက်၏။ ယောက္ခမ များကိုလည်း လွန်စွာ ရှက်ကြောက်၏။ လင်ဖြစ်သူ၏ ညီ၊ အစ်ကို၊ နှမ၊ အစ်မ တို့ကိုလည်း လွန်စွာ ရှက်ကြောက်၏။ ယုတ်စွအဆုံး အိမ်၌ ခိုင်းစေသူကိုပင် လွန်စွာ ရှက်ကြောက်လေ၏။

ထိုချွေးမသည် ကာလ ကြာ၍ ပေါင်းသင်းကျွမ်းဝင် ရှိလာသောအခါ တစ်အိမ်လုံးကို အရေးမစိုက်၊ ပေါ့ပေါ့ခနဲ့ ရှိလာတတ်၏။ "ဖယ်ကြစမ်းပါ၊ အင်တို့ နားမလည်ပါဘူး၊ ဝင် မရှုပ် ကြပါနှင့်" စသည်ဖြင့် မလေးမစား ရှိလာတတ်ပေ၏။

ဤ လောက၌ သူတော်ကောင်းတို့သည် မကောင်းမှုမှ ရှက်ခြင်း၊ ကြောက်ခြင်း တည်းဟူသော ဟိရီဩတ္တပ္ပတရားကို စောင့်ထိန်းရာ၌ ယောက္ခမအိမ်သို့ ရောက်သောအခါ ချွေးမကဲ့သို့ ကျင့်သုံးကုန်၏။

[—သပ္ပုရိသသုတ်]

## သူကောင်ဖုတ်ထင်းမှ ထောပတ်ကြည်သို့

ဤလောက၌ အချို့သော သူတို့သည် မိမိ အကျိုးရှိရန် အတွက်လည်း အားထုတ် ကျင့်သုံးခြင်း မရှိကြ။ သူတစ်ပါးအကျိုးရှိရန် အတွက်လည်း အားထုတ် ကျင့်သုံးခြင်း မရှိကြ။ ထိုသူမျိုးသည် အစွန်းနှစ်ဖက် မီးလောင်၍ အလယ်၌ မစင်လူးသော သူသေကောင်ဖုတ် ထင်းမီးစနှင့် တူကုန်၏။

သူသေကောင်ဖုတ် ထင်း မီးစသည် တော၌ဖြစ်စေ၊ မြို့ရွာ၌ ဖြစ်စေ၊ မည်သို့မျှ အသုံးပြု၍ မဖြစ်ချေ။

အချို့သော သူသည် သူတစ်ပါးအကျိုးရှိရန်အတွက် အားထုတ် ကျင့်သုံး၏။ မိမိ အကျိုးရှိရန်အတွက်အား အားထုတ်ကျင့်သုံးခြင်း မရှိ။

အချို့သော သူသည် မိမိအကျိုးရှိရန်အတွက် အားထုတ် ကျင့်သုံး၏။ သူတစ်ပါးအကျိုးရှိရန် အတွက်အား အားထုတ်ကျင့်သုံးခြင်း မရှိ။

အချို့သောသူသည် မိမိအကျိုးရှိရန် အတွက်လည်း အားထုတ် ကျင့်သုံး၏။ သူတစ်ပါး အကျိုးရှိရန်အတွက်လည်း အားထုတ် ကျင့်သုံး၏။

ထိုပုဂ္ဂိုလ်လေးမျိုးတို့တွင် ပထမ၊ ဒုတိယ၊ တတိယ အစဉ် အားဖြင့် မြတ်ကုန်၏။

နွားမမှသည် နို့ရည်၊ နို့ရည်မှသည် နို့ခမ်း၊ နို့ခမ်းမှသည် ထောပတ်၊ ထောပတ်မှသည် ဆီထောပတ်ကြည် အဖြစ်သို့ ရောက်ကြရာ၌ အဆီဦဆီဦ မွန်မြတ်သကဲ့သို့တည်း။

[-ဆဥ္ဂါလသုတ်];

## နွားလေးမျိုး လူလေးမျိုး

နွားတို့သည် အမျိုးအစားအားဖြင့် လေးမျိုးရှိ၏။ အဘယ်လေးမျိုး တို့နည်းဟူမူ-

ပဌမနွားသည် မိမိနွားအုပ်၌သာလျှင် ကြမ်းတမ်း၏။ အခြားနွားအုပ်၌ မကြမ်းတမ်း။ ဒုတိယနွားသည် အခြားနွားအုပ်၌သာလျှင် ကြမ်းတမ်း၏။ မိမိနွားအုပ်၌မူ မကြမ်းတမ်း။ တတိယနွားသည် မိမိနွားအုပ်၌လည်း ကြမ်းတမ်း၏။ အခြားနွားအုပ်၌လည်း ကြမ်းတမ်း၏။ စတုတ္ထနွားသည် မိမိနွားအုပ်၌လည်း မကြမ်းတမ်း၊ အခြားနွားအုပ်၌လည်း မကြမ်းတမ်းပေ။

ဤလောက၌ အချို့သောသူသည် မိမိအပေါင်းအသင်း ပရိသတ်ကို တုန်လှုပ် ချောက်ချားအောင် နှောင့်ယှက်တတ်သည်။ သူတစ်ပါး၏ အပေါင်းအသင်း ပရိသတ်ကိုမူ တုန်လှုပ်ချောက်ချားအောင် မနှောင့်ယှက်တတ်။ ပဌမနွားလားနှင့် တူသူတည်း။

အချို့သောသူသည် သူတစ်ပါး၏ အပေါင်းအသင်း ပရိသတ်ကို တုန်လှုပ်ချောက်ချားအောင် နှောင့်ယှက်တတ်၏။ မိမိ၏ အပေါင်းအသင်း ပရိသတ်ကိုမူ တုန်လှုပ်ချောက်ချားအောင် မနှောင့်ယှက်တတ်။ ဒုတိယ နွားလားနှင့် တူသူတည်း။

အချို့သောသူသည် မိမိ၏ အပေါင်းအသင်း ပရိသတ်ကိုလည်း တုန် လှုပ် ချောက်ချားအောင် နှောင့်ယှက်တတ်၏။ သူတစ်ပါး၏ အပေါင်း အသင်း ပရိသတ်ကိုလည်း တုန်လှုပ် ချောက်ချားအောင် နှောင့်ယှက် တတ်၏။ တတိယနွားလားနှင့် တူသူတည်း။

အချို့သောသူသည် မိမိအပေါင်းအသင်း ပရိသတ်ကိုလည်း တုန် လှုပ်ချောက်ချားအောင် မနှောင့်ယှက်တတ်။ သူတစ်ပါး၏ အပေါင်း

အသင်၊ ပရိသတ်ကိုလည်း တုန်လှုပ်ချောက်ချားစေအောင် မစွမ်းနိုင်ယှက်တတ်။ စတုတ္ထမြွားလားနှင့် တူသူတည်း။

[—ဗလိဗဒ္ဒသုတ်]

## သစ်ပင် လေးမျိုး လူလေးမျိုး

ဤလောကဌ် သစ်ပင်သည် လေးမျိုးရှိ၏၊ လူသည်လည်း လေးမျိုးပင်ရှိလေ၏။

ပထမသစ်ပင်မှာ အကာပင်ဖြစ်၍ အကာပင် အခြံအရံ ရှိသော သစ်ပင်၊ ဒုတိယသစ်ပင်မှာ အကာပင်ဖြစ်၍ အနှစ်ပင် အခြံအရံရှိသော သစ်ပင်၊ တတိယသစ်ပင်မှာ အနှစ်ပင် ဖြစ်၍ အကာပင် အခြံ အရံ ရှိသော သစ်ပင်၊ စတုတ္ထသစ်ပင်မှာ အနှစ်ပင်ဖြစ်၍ အနှစ်ပင် အခြံအရံရှိသော သစ်ပင်။ ဤသို့လျှင် သစ်ပင်သည် လေးမျိုး လေးစား ရှိလေသည်။

အချို့သောသူသည် ကိုယ်ကျင့်တရား မရှိ၊ စိတ်သဘောထား ယုတ်ညံ့၏၊ သူ၏ အပေါင်းအဖော် ပရိသတ်သည်လည်း ကိုယ်ကျင့်တရားမရှိ၊ စိတ်သဘောထား ယုတ်ညံ့၏။ ပထမ သစ်ပင်နှင့်တူသူတည်း။

အချို့သော သူသည် ကိုယ်ကျင့်တရား မရှိ၊ စိတ် သဘောထား ယုတ်ညံ့၏။ သူ၏ အပေါင်းအဖော် ပရိသတ်မှာမူကား ကိုယ်ကျင့်တရား ရှိ၏၊ စိတ် သဘောထား မြင့်မြတ်၏။ ဒုတိယ သစ်ပင်နှင့် တူသူတည်း။

အချို့သော သူသည် ကိုယ်ကျင့်တရားရှိ၏၊ စိတ်သဘောထားမြင့်မြတ်၏။ သူ၏ အပေါင်းအဖော် ပရိသတ်မှာမူ ကိုယ်ကျင့်တရား မရှိ၊ စိတ်သဘောထား ယုတ်ညံ့၏။ တတိယသစ်ပင်နှင့် တူသူတည်း။

အချို့သောသူသည် ကိုယ်ကျင့်တရားရှိ၏၊ စိတ်သဘောထားမြင့်မြတ်၏။ သူ၏ အပေါင်းအဖော် ပရိသတ်သည်လည်း ကိုယ်ကျင့်တရားရှိ၏၊ စိတ်သဘောထား မြင့်မြတ်၏။ စတုတ္ထသစ်ပင်နှင့် တူသူတည်း။

[—ရုက္ခသုတ်]

## မြွေလေးမျိုး လူလေးမျိုး

ဤလောက၌ မြွေလေးမျိုးရှိ၏။ လူသည်းလေးမျိုးရှိလေ၏။

ပထမမြွေသည် အဆိပ်တက်လျှင်မြန်၏၊ အဆိပ်မှာမူ မကြမ်း။ ဒုတိယမြွေသည် အဆိပ်ကြမ်း၏၊ အဆိပ်တက်ခြင်းကားမမြန်။ တတိယမြွေသည် အဆိပ်တက်လည်း လျင်မြန်၏၊ အဆိပ်သည်း ကြမ်း၏။ စတုတ္ထမြွေသည် အဆိပ်တက်လည်းမမြန်၊ အဆိပ်လည်းမကြမ်း။ ဤသို့လျှင် မြွေလေးမျိုး ရှိလေ၏။

အချို့သောသူသည် အစဉ်မပြတ် အမျက်ဒေါသထွက်တတ်၏၊ ထို အမျက်ဒေါသသည် ကာလရှည်စွာ မတည်၊ မကြာမီ ငြိမ်းလေ၏။ ပထမမြွေနှင့်တူသော ပုဂ္ဂိုလ်တည်း။

အချို့သောသူသည် အစဉ်မပြတ် အမျက်ဒေါသထွက်တတ်၊ ထွက်လာသော ဒေါသမူကား ရုတ်တရက် မပြေပျောက်ဘဲ ကာလရှည်စွာ ကိန်းအောင်းတတ်၏။ ဒုတိယမြွေနှင့်တူသော ပုဂ္ဂိုလ်တည်း။

အချို့သောသူသည် အစဉ်မပြတ် အမျက်ဒေါသ ထွက်တတ်၏။ ထို အမျက်ဒေါသသည်လည်း ကာလရှည်စွာကိန်းအောင်းနေတတ်၏၊ တတိယမြွေနှင့်တူသော ပုဂ္ဂိုလ်တည်း။

အချို့သောသူသည် အစဉ်မပြတ်လည်း အမျက်ဒေါသ မထွက်တတ်၊ ရံဖန်ရံခါ အမျက်ဒေါသထွက်လျှင်လည်း ကာလရှည်စွာ မကိန်းအောင်းတတ်၊ စတုတ္ထမြွေနှင့်တူသော ပုဂ္ဂိုလ်တည်း။

[–အာသီဝိသသုတ်]

## မြင်းငယ်သုံးမျိုး

မြင်းငယ်တို့ကို သုံးမျိုးခွဲခြား၍ ရှုမြင်နိုင်လေသည်။

လျင်မြန်ခြင်းနှင့် ပြည့်စုံ၏၊ အရောင်အဆင်းနှင့် အလုံးအရပ်မှာမူ မပြည့်စုံသောမြင်းငယ်။

လျင်မြန်ခြင်းနှင့် ပြည့်စုံ၏၊ အရောင် အသွေးနှင့်လည်း ပြည့်စုံ၏၊ အလုံးအရပ် မပြည့်စုံသော မြင်းငယ်။

လျင်မြန်ခြင်း၊ အရောင်အသွေး၊ အလုံးအရပ် သုံးမျိုးလုံးနှင့် ပြည့်စုံသော မြင်းငယ်။

ဤသာဓကနောင်တော်၌ ရဟန်းငယ်တို့ကိုလည်း သုံးမျိုးခွဲခြား၍ ရှုမြင်သုံးသပ်နိုင်လေသည်။

လျင်မြန်ခြင်းနှင့်သာ ပြည့်စုံ၍ အရောင်အသွေး၊ အလုံးအရပ် မပြည့်စုံသော ရဟန်းငယ်။

လျင်မြန်ခြင်း အရောင်အသွေး တို့နှင့်သာ ပြည့်စုံ၍ အလုံးအရပ်နှင့် မပြည့်စုံသော ရဟန်းငယ်။

လျင်မြန်ခြင်း၊ အရောင်အသွေး၊ အလုံးအရပ် သုံးမျိုးလုံးနှင့် ပြည့်စုံသော ရဟန်းငယ်။

လျင်မြန်ခြင်းနှင့်သာ ပြည့်စုံ၍ အရောင် အသွေး၊ အလုံးအရပ်တို့နှင့် မပြည့်စုံခြင်းဟူသည်မှာ ရဟန်းငယ်သည် ဆင်းရဲခြင်းကိုလည်းကောင်း၊ ဆင်းရဲခြင်း၏ အကြောင်းခံကို လည်းကောင်း၊ ဆင်းရဲကင်းရာ နိဗ္ဗာန်ချမ်းသာကိုလည်းကောင်း သိမြင်လေ၏။ ဤသို့သိမြင်ခြင်းသည် ထိုရဟန်းငယ်၏ ဉာဏ်တည်းဟူသော လျင်မြင်ခြင်း ပေတည်း။ မေ့ဆိုင်ရာ၌လည်းကောင်း၊ ဝိနယဆိုင်ရာ၌လည်းကောင်း ပြဿနာ တစ်စုံတစ်ရာကို မေးမြန်းလျှင်မူ ထို ရဟန်းငယ် မဖြေဆိုနိုင်ပေ။ ဤသို့ မဖြေဆိုနိုင်ခြင်းသည် ဂုဏ်တည်းဟူသော အရောင်အသွေး မရှိခြင်းပေတည်း။ ထိုရဟန်းငယ်၌ သင်္ကန်း၊ သပိတ်၊ ကျောင်း၊ ဆေး စသော ရဟန်း၏ အသုံးအဆောင် ပြည့်စုံအောင် မရရှိ။ ဤသို့ ပစ္စည်းလေးပါး မရရှိခြင်းသည် အလုံးအရပ် မပြည့်စုံခြင်းပေတည်း။

လျင်မြန်ခြင်း၊ အရောင်အသွေး ဟူသော နှစ်မျိုးနှင့် ပြည့်စုံခြင်းကိုလည်းကောင်း၊ လျင်မြန်ခြင်း၊ အရောင်အသွေး၊ အလုံးအရပ် ဟူသော သုံးမျိုးလုံးနှင့်ပြည့်စုံခြင်းကိုလည်းကောင်း အနက်သဘောသိသာနိုင်ပေ၏။

[အသဿခဠုင်္ဂသုတ်]

# သတ်ပစ်ခြင်း

တစ်ရံရောအခါ ကေသီ အမည်ရှိသော မြင်းဆရာသည် မြတ်စွာဘုရား ထံတော်သို့ ချဉ်းကပ်၍ တရားနှင့်စပ်သော စကားတို့ဖြင့် လျှောက်ထားလေ၏။

ထိုအခါ မြတ်စွာ ဘုရားသည် မြင်းဆရာ ကေသီအား၊ "အသင်သည် မြင်းရိုင်းကို အဘယ်သို့ ဆုံးမ သွန်သင်သနည်း"ဟု မေးတော်မူ၏။

"အရှင်ဘုရား၊ တပည့်တော်သည် ရိုင်းသောမြင်းကို အနုနည်းဖြင့် ဆုံးမပါသည်၊ အကြမ်းနည်းဖြင့်လည်း ဆုံးမပါသည်"ဟု မြင်းဆရာက လျှောက်ထား၏။

"ကေသီ၊ အသင်သည် မြင်းရိုင်းတို့ကို ထိုနည်းများဖြင့် ဆုံးမ သွန်သင်၍ မရလျှင် အဘယ်သို့ ပြုသနည်း"ဟု မြတ်စွာဘုရားက မေးတော်မူပြန်သည်။

"အရှင်ဘုရား၊ ဤသို့ နည်းမျိုးစုံဖြင့် ဆုံးမသွန်သင်ခြင်းကို မခံယူသောမြင်းရိုင်းအား သတ်ပစ်ပါသည်၊ အဘယ်ကြောင့် ဤသို့ သတ်ပစ်ရသနည်းဟူမူ ဆုံးမမှုကို မခံယူသော ထိုမြင်းကြောင့် တပည့်တော်တို့ မြင်းဆရာစဉ်ဆက်၏ဂုဏ်ကို မထိခိုက်စေရန် ဖြစ်ပါသည်"ဟု လျှောက်ထားလေ၏။

ထိုအခါ မြတ်စွာဘုရားသည် ဤသို့ မိန့်တော်မူ၏။

"ကေသီ၊ ငါဘုရားသည်လည်း ဆယ်ဥ်ကျေးသေးသော ပရိသတ်ကို ဆုံးမရာ၌ အနုနည်းအားဖြင့် လည်းကောင်း၊ အကြမ်းနည်းအားဖြင့် လည်းကောင်း၊ အနု အကြမ်းအားဖြင့်လည်းကောင်း ဆုံးမ၏၊ ထိုထိုနည်းတို့ဖြင့်ဆုံးမခြင်းကို မခံယူသောသူအား သတ်ပစ်သည်သာတည်း။"

"အရှင်မြတ်ဘုရား၊ အဘယ်သို့ပါနည်း"ဟု ကေသီက အံ့သြစွာဖြင့် မေးလျှောက်ပြန်၏။

"အပြစ်မရှိသော၊ ကောင်းသော အပြုအမူ၊ အပြောအဆို၊ အကြံ အစည်ဟူသည်ကား ဤသို့တည်း၊ ဤသည်တို့ကို ကုသိုလ်တရားဟုလည်း ခေါ်၏၊ သုစရိုက်တရားဟုလည်း ခေါ်၏၊ ထိုကုသိုလ် သုစရိုက်တရား

တို့ကို ပြုမူ ကျင့်သုံးပါမူ ဤသို့ ဤသို့သော ကောင်းကျိုးကို ရရှိခံစားရ၏” ဟု ဆုံးမသွန်သင်ခြင်းသည် အနုနည်း မည်၏။

“အပြစ်ရှိသော မကောင်းသောအပြုအမူ၊ အပြော အဆို၊ အကြံ အစည် ဟူသမျှတား ဤသို့တည်း၊ ဤသည်တို့ကို အကုသိုလ်တရား ဟုလည်းခေါ်၏၊ ဒုစရိုက်တရားဟုလည်း ခေါ်၏၊ ထိုအကုသိုလ် ဒုစရိုက် တရားတို့ကို ပြုမူ ကျင့်သုံးပါမူ ဤသို့ ဤသို့သော မကောင်းကျိုးကို ရရှိ ခံစားရ၏” ဟု ဆုံးမသွန်သင်ခြင်းသည် အကြမ်းနည်း မည်၏။

“ကုသိုလ် သုစရိုက်ကို လည်းကောင်း၊ အကုသိုလ် ဒုစရိုက်ကို လည်းကောင်း နှစ်ပါးစုံရော၍ ဆုံးမသွန်သင်ခြင်းသည် အနု အကြမ်းနည်း မည်ပေ၏။

“အနုနည်းအားဖြင့်လည်း အဆုံးအမ မခံ၊ အကြမ်းနည်းအားဖြင့်လည်း အဆုံးအမ မခံ၊ အနု အကြမ်းနည်း အားဖြင့် လည်း အဆုံးအမ မခံသောသူအား ငါဘုရားသည် မပြောဆို ဆုံးမထိုက်သူ ဟူ၍ အသိအမှတ် မပြုတော့ပေ၊ ယင်းသို့ အသိအမှတ် မပြုခြင်းသည်ပင်လျှင် ငါဘုရား၏ အဆုံးအမ၌ သတ်ပင်လိုက်သည် မည်ပေ၏” ဟု မြွက်ကြားတော်မူ၏။

[-ကေသိသုတ်]

## မြင်းလေးမျိုး လူလေးမျိုး

ဤလောက၌ မြင်းလေးမျိုးရှိ၏။ လူလည်း လေးမျိုး ရှိလေ၏။

ပထမမြင်းကား နှင်တံရိပ်ကို မြင်ရာမျှဖြင့် မြင်းထိန်း၏ သဘောကို ကောင်းစွာသိ၏။ ‘ယနေ့ ငါ၏သခင်သည် အဘယ်ကိစ္စမျိုးကို ခိုင်းစေ မည်နည်း၊ ငါသည် သခင်အတွက် ဘယ်သို့ လုပ်ဆောင်ရမည်နည်း’ ဟူ၍ ဆင်ခြင်တတ်၏။ ထိတ်လန့်တတ်၏။

ဒုတိယ မြင်းကား နှင်တံရိပ်ကို မြင်ရာမျှဖြင့် ကောင်းစွာမသိတတ်။ မဆင်ခြင်တတ်။ ထိတ်လန့် တုန်လှုပ်ခြင်း မရှိ။ နှင်တံဖြင့် အမွေးကို တို့ထိမှသာလျှင် ကောင်းစွာ သိတတ်၏။ ဆင်ခြင်တတ်၊ တုန်လှုပ် ထိတ်လန့်တတ်၏။

တတိယမြင်းသား နှင်တံရိပ်ကို မြင်ရာမျှဖြင့်လည်းကောင်း၊ အမွေးကို ထိတို့ရာမျှဖြင့် လည်းကောင်း မသိတတ်။ မဆင်ခြင်တတ်။ ထိတ်လန့် တုန်လှုပ်ခြင်း မဖြစ်။ နှင်တံဖြင့် အရေကို ထိုးထိမှသာလျှင် သိတတ်၏။ ဆင်ခြင်တတ်၏၊ တုန်လှုပ် ထိတ်လန့်တတ်၏။

စတုတ္ထမြင်းသား နှင်တံရိပ်ကို မြင်ရာမျှဖြင့်လည်းကောင်း၊ အမွေးကို ထိတို့ရာမျှဖြင့် လည်းကောင်း၊ အရေကို ထိတို့ရာမျှဖြင့် လည်းကောင်း မသိတတ်။ မဆင်ခြင်တတ်။ ထိတ်လန့် တုန်လှုပ်ခြင်း မရှိ။ နှင်တံဖြင့် အရိုးကို ထိုးထိမှသာလျှင် ကောင်းစွာ သိ၏။ ဆင်ခြင်တတ်၊ တုန်လှုပ် ထိတ်လန့်တတ်၏။

ဤကား ဥပမာစကားတည်း။

အချို့သော ပုဂ္ဂိုလ်သည် အရပ်တစ်ပါးမှ တစ်စုံတစ်ယောက်သော မိန်းမ ယောကျ်ားတို့ မှားယွင်းသော မကောင်းမှုကြောင့် အပြစ်ဒဏ် ခံရသည်ဟု လည်းကောင်း၊ အနာရောဂါ နှိပ်စက်သဖြင့် ဆင်းရဲ ပင်ပန်းသည်ဟု လည်းကောင်း၊ သေကျေပျက်စီးသည်ဟု လည်းကောင်း သတင်း စကားကြားရုံမျှဖြင့် မိမိအတွက် ဆင်ခြင်မိ၏။ တုန်လှုပ် ထိတ်လန့်မိ၏။ ထိုပုဂ္ဂိုလ်မျိုးသည် ပဌမမြင်းနှင့် တူပေ၏။

အချို့သော ပုဂ္ဂိုလ်သည် အရပ်တစ်ပါးမှ တစ်စုံတစ်ယောက်သော မိန်းမယောကျ်ားတို့ မှားယွင်းသော မကောင်းမှုကြောင့် အပြစ်ဒဏ်ခံရသည်ကို လည်းကောင်း၊ အနာရောဂါ နှိပ်စက်သဖြင့် ဆင်းရဲပင်ပန်းသည်ကို လည်းကောင်း၊ သေကျေပျက်စီးသည်ကို လည်းကောင်း ကိုယ်တိုင် မြင်တွေ့မှသာလျှင် မိမိအတွက် ဆင်ခြင်မိ၏။ တုန်လှုပ် ထိတ်လန့်မိ၏။ ထိုပုဂ္ဂိုလ်မျိုးသည် ဒုတိယမြင်းနှင့် တူပေ၏။

အချို့သော ပုဂ္ဂိုလ်သည် မိမိ၏ဆွေမျိုး ရင်းချာထဲက တစ်စုံ တစ်ယောက်သော မိန်းမယောကျ်ားတို့ မှားယွင်းသော မကောင်းမှုကြောင့် အပြစ်ဒဏ်ခံရသည်ကို လည်းကောင်း၊ အနာရောဂါနှိပ်စက်သဖြင့် ဆင်းရဲ ပင်ပန်းသည်ကို လည်းကောင်း၊ သေကျေ ပျက်စီးသည်ကို လည်းကောင်း ကြုံတွေ့မှသာလျှင် မိမိအတွက် ဆင်ခြင်မိ၏။ ထိတ်လန့် တုန်လှုပ်မိ၏။ ထိုပုဂ္ဂိုလ်မျိုးသည် တတိယမြင်းနှင့် တူပေ၏။

အချို့သော ပုဂ္ဂိုလ်သည် မိမိ ကိုယ်တိုင်ပင် မှားယွင်းသော မကောင်း မှုကြောင့် အပြစ်ဒဏ် ခံနေရစဉ် လည်းကောင်း၊ အနာရောဂါ နှိပ်စက်

သဖြင့် ဆင်းရဲပင်ပန်းရစဉ် လည်းကောင်း၊ သေလောက်သော ဘေးကို ကြုံတွေ့ရစဉ် လည်းကောင်း မိမိအတွက် ဆင်ခြင်မိ၏၊ ထိတ်လန့်မိ၏။ ထိုပုဂ္ဂိုလ်မျိုးသည် စတုတ္ထမြင်းနှင့် တူ၏။

[-ပတောဒသုတ်]

## ဆင်လေးမျိုး လူလေးမျိုး

ဤလောက၌ ဆင်လေးမျိုး ရှိ၏။ လူလည်း လေးမျိုး ရှိ၏။ အဘယ် လေးမျိုးတို့နည်း ဟူမူ-

ပဌမဆင်သည် ယခင်က ပြုလုပ်ခဲ့ဖူးသည် ဖြစ်စေ၊ မပြုလုပ်ဖူးသည် ဖြစ်စေ ဆင်ထိန်းက ခိုင်းစေသော အလုပ်ကို ကောင်းစွာ လုပ်၏။ ရိုသေလေးစားစွာ နားထောင်၍ ထက်သန်စွာ လုပ်ဆောင်၏။

ဒုတိယ ဆင်သည် စစ်မြေပြင်အရပ်၌ အခြံ၊ဆင်ကို သတ်တတ်၏။ ဆင်စီးသူရဲကိုလည်း သတ်တတ်၏။ မြင်းကိုလည်းကောင်း၊ မြင်းစီးသူရဲကို လည်းကောင်း သတ်ဖြတ်တတ်၏။ ခြေလျင် သူရဲကိုလည်း သတ်ဖြတ် တတ်၏။ ရထားတို့ကိုလည်း ဖျက်ဆီးပစ်တတ်၏။

တတိယ ဆင်သည် စစ်မြေပြင် အရပ်၌ လှံဖြင့် ထိုးခြင်းကို သည်းခံ နိုင်ရည်ရှိ၏။ ပုဆိန်ဖြင့် ခေါက်ခြင်း၊ မြားဖြင့်ပစ်ခြင်းကိုလည်း၊ သည်းခံ နိုင်စွမ်း ရှိ၏။ စည်ကြီးသံ၊ ခရုသင်းတံပိုးမှုတ်သံ၊ ပဲ့တင်သံတို့ကို လည်း၊ သည်းခံနိုင်စွမ်း ရှိ၏။

စတုတ္ထဆင်သည် မရှေးက ရောက်ခဲ့ဖူးသည် ဖြစ်စေ၊ မရောက်ဖူးသည် ဖြစ်စေ ဆင်ထိန်းက စေလွှတ်သော အရပ်သို့ လျင်မြန်စွာ သွားတတ်၏။

ဤသို့လျှင် နာယူတတ်သော ဆင်၊ သတ်ဖြတ်တတ်သောဆင်၊ သည်းခံ တတ်သော ဆင်၊ သွားတတ်သော ဆင်ဟူ၍ လေးမျိုးရှိလေ၏။

ထိုနည်းတူစွာပင် ပုဂ္ဂိုလ်လေးမျိုးတို့ကား နာယူတတ်သူ၊ သတ်ဖြတ် တတ်သူ၊ သည်းခံတတ်သူ၊ သွားတတ်သူဟူ၍ လေးမျိုးတို့ပေတည်း။

မြတ်စွာဘုရားစသော ပညာရှိ သူတော်ကောင်းတို့က ကောင်းမြတ် သော တရားလမ်းဖြင့် ညွှန်ပြ ပြောကြားသည်ကို ရိုသေလေးစား နှလုံး

ထား၍ စိတ်အား ထက်သန်စွာ နာယူ လက်ခံသူသည် နာယူတတ်သူ မည်၏။

သတ်ဖြတ်တတ်သောသူ ဟူသည်ကား မကောင်းမှု အကုသိုလ်တရား ယုတ်တို့ ဖြစ်ပေါ်ခြင်းကို လက်မခံဘဲ တွန်းလှန်ပယ်ဖျက်သော ပုဂ္ဂိုလ်ပင် ဖြစ်၏။

သည်းခံတတ်သူ ဟူသည်ကား၊ အစားဆင်းရဲခြင်း၊ အနေ ဆင်းရဲခြင်း၊ အဝတ်ဆင်းရဲခြင်းနှင့် အပူအအေးစသော အနှောင့်အယှက်ကို ခံနိုင်စွမ်း ရှိလျက် မဟုတ်မမှန် စွပ်စွဲ ပြောဆိုခြင်း၊ စသည်ကိုလည်း မတုန်မလှုပ် ခံနိုင်စွမ်းရှိသော ပုဂ္ဂိုလ်ပင်ဖြစ်၏။

သွားတတ်သူ ဟူသည်ကား အကြင်ပုဂ္ဂိုလ်သည် ဆင်းရဲခြင်းကင်းရာ ချမ်းသာသော အဖြစ်သို့ မရောက်ဖူးသေးသော်လည်း၊ လောဘ ဒေါသ စသော ကိလေသာ လမ်းအရှုပ်တို့ကို ပယ်စွန့်ကျော်လွှား၍ သာယာ ချမ်းမြေ့သည့် ဘဝစခန်းသို့ ရောက်ရှိနိုင်၏။ ထိုသူသည် သွားတတ်သူ ပေတည်း။

[နာဂသုတ်]

## ငါးကြီးလား ငါးငယ်လား

ရေအိုင် ကမ်းနား၌ ရပ်လျက်ရှိသော၊ မျက်စိ အမြင်ရှိသော သူသည် ရေထဲ၌ ပေါ်လာသော ငါးကို မြင်ရာ၏။ ထိုငါး၏ ကူးသန်း သွားလာ ပုံကိုလည်းကောင်း၊ လျင်မြန် ဖျတ်လတ်ပုံကိုလည်းကောင်း၊ ရေလှိုင်း ဖျက်ဆီးပုံ အခြင်းအရာကိုလည်းကောင်း မြင်ရာ၏။ ထိုသို့ မြင်သဖြင့် ထိုငါးသည် မည်မျှလောက် ကြီးမားပုံကိုလည်းကောင်း၊ မည်မျှလောက် သေးငယ်သည်ကိုလည်းကောင်း သိနိုင်ရာ၏။

ဤအတူပင် ပုဂ္ဂိုလ်အချင်းချင်း ဆွေးနွေးလတ်သော် ထိုပုဂ္ဂိုလ်၏ အမေးပြဿနာ ပေါ်လာပုံ၊ အမေးပြဿနာ ဖြေကြားပုံ၊ ပြဿနာနှင့် စပ်လျဉ်း၍ စဉ်းစားပုံ၊ ပြောဆိုပုံ အခြင်းအရာ အားဖြင့် ထိုပုဂ္ဂိုလ်ကို အကဲခတ်နိုင်ရာ၏။ ပညာရှိသူလား၊ ပညာဉာဏ် ကင်းမဲ့သူလားဟူ၍ အကဲ ခတ်၍ သိနိုင်ရာ၏။

[ဌာနသုတ်]

# မြစ်ကို ကူးသူ

မြစ်ကို ကူးမြောက်လိုသူ တစ်ဦးသည် တောသို့ဝင်၍ အင်ကြင်းပင်ကြီး တစ်ပင်ကို အရင်းမှခုတ်လှဲ၏၊ ထို့နောက်အဖျားကိုဖြတ်၍လည်းကောင်း၊ အကိုင်းအခက်တို့ကို ဖြတ်ချင်၍လည်းကောင်း၊ အင်ကြင်းတုံးကို အပြင်မှ မားမဖြစ်ဖို့ သုတ်သင်၏၊ ပဲခွပ်ဖြစ်ဖို့လည်း သုတ်သင်၏၊ ကျားလျှာ တံစဉ် ဖြင့်လည်း ချောမွေ့အောင် သုတ်သင်၏။ ထို အင်ကြင်းတုံးကို မြစ်ထဲသို့ချ၍ တစ်ဖက်ကမ်းသို့ လှော်ယက် ကူးခတ်လာသော် ထိုသူသည် မည်သို့ရှိမည်နည်း။ သစ်တုံးသည်လည်းကောင်း၊ ထိုသူသည်လည်းကောင်း လှိုင်းဂယက် ကြားတွင် နစ် မြုပ် ပျက် စီး ရာ ၏။ တစ်ဖက်ကမ်းသို့အစ၊ မရောက်နိုင်ရာ။

အကယ်၍ ထိုသူသည် အင်ကြင်းတုံး၏ အရင်းအဖျား အကိုင်းအခက် တို့ကို ခုတ်ဖြတ်၍ အပြင်မှ ပြေပြစ်ချောမွေ့အောင် ပွတ်တိုက် သုတ်သင်အံ့၊ သစ်တုံး၏ အတွင်းကိုလည်း ပုဆိန်၊ ပဲခွပ်တို့ဖြင့် ထွင်းဖောက် သုတ်သင်၍ ပြေပြစ်အောင် ပြုပြင်ငြားအံ့၊ တက်မ ထိုးဝါးကိုလည်း စီရင်ငြားအံ့၊ ထို့နောက် ထိုထင်းတုံးကို မြစ်ထဲသို့ချ၍ တစ်ဖက်ကမ်းသို့ လှော်ယက် ကူးခတ်ငြားအံ့၊ မြစ်၏တစ်ဖက်ကမ်းသို့ မလွဲမသွေဆိုက်ရောက်ရှိမည်သာဖြစ်၏။

ဤအတူပင် အကြင်သူသည် ကိုယ်ဖြင့် ပြုမူ လုပ်ဆောင် ခြင်း၌ လည်းကောင်း၊ နှုတ်ဖြင့်ပြောဆိုခြင်း၌ လည်းကောင်း၊ စိတ်ဖြင့် ကြံစည် ခြင်း၌ လည်းကောင်း သန့်ရှင်းစင်ကြယ်မှု မရှိငြားအံ့၊ အကျင့်သီလ အရာ၌ ဖြောင့်မှန် စင်ကြယ်မှု မရှိငြားအံ့၊ ထိုသူသည် အမှန်တရားကို ရှာဖွေ၍ မရရှိနိုင်၊ အမြင်မှန်ကို မရရှိနိုင်။ လောဘ၊ ဒေါသ၊ မောဟ၊ မာန်မာနစသော ကိလေသာ အညစ်အကြေးတို့ဖြင့် လိမ်းကျံ ငြိစပ် လျက်သာ နစ်မွန်းရာ၏။

အကယ်၍ ထိုသူသည် ကိုယ်၊ နှုတ်၊ စိတ်တို့ဖြင့် ပြုလုပ် ပြောဆိုကြံစည် ရာ၌ သန့်ရှင်းစင်ကြယ်၍ အကျင့်သီလလည်း ဖြောင့်မှန်စင်ကြယ်ငြားအံ့၊ အမှန်တရားကို ရရှိ၍ အမြင်မှန်ကို ရရှိသော် ကိလေသာ အညစ်အကြေး တို့နှင့် ကင်းလွတ်ရာ၏။ ဆင်းရဲပင်ပန်းခြင်းတို့ကို ကျော်လွန် ကူးမြောက် နိုင်ရာ၏။

[ဗသာဋ္ဌသုတ်]

## ကလေးငယ်နှင့် ကလေးထိန်း

အသက် အရွယ် ငယ်နုနယ်သေးသော ကလေးသူငယ်သည် သစ်သားစကို ဖြစ်စေ၊ အိုးခြမ်းကွဲကို ဖြစ်စေ အမှတ်မထင် မျိုမိ၏။ ထိုအခါ ကလေး ထိန်းသူသည် အလျင်အမြန် လုံ့လပြု၍ ထုတ်ယူရာ၏။ အလွယ်တကူဖြင့် ထုတ်ယူ၍ မရသော် လက်တစ်ဖက်ဖြင့် ကလေး၏ ဦးခေါင်းကို ထိန်းကိုင် လျက်၊ လက်တစ်ဖက်ဖြင့် လက်ညှိုးကို ကွေး၍ ထုတ်ယူရာ၏။ ကလေးငယ်မှာ နာကျင်သည့် ဝေဒနာ ခံစားရသည်ဖြစ်စေ၊ အလွန်နာကျင်သည့်ဝေဒနာ ခံစားရသည် ဖြစ်စေ ထုတ်ယူရာ၏။

ထိုအမှုကိစ္စ၊ ထိုအိုးခြမ်းကွဲသည် သူငယ်၏ လည်ချောင်းကို ပိတ်ဆို့ မြိုမြိုသွားသော် အသက်ပင် ဆုံးရှုံး ပျက်စီးပေမည်။ ကလေးသူငယ် အသက် မဆုံးရှုံးစေရန် စောင့်ရှောက်သော အားဖြင့် နာကျင်သည့် ဝေဒနာကို မငဲ့ဘဲ ဆောင်ရွက်ရာ၏။

ထိုကလေးသူငယ်သည် အရွယ်တန်၍ အသိစိတ် ရှိလာသော အခါ တွင်ကား မိမိကိုယ်ကို စောင့်ရှောက်နိုင်ပြီ ဖြစ်၍ ကလေးထိန်းသည် ကြည့်ရှုဖွယ် မလိုပေ။

ထို့နည်းပင် ငါဘုရားသည် သုံးမထိုက်သူအား သုံးမ စောင့်ရှောက် ရမည်သာတည်း။ အသိမှန်၊ အမြင်မှန် မရှိသေးသဖြင့် ကျင့်သုံးမှု သီလ သိက္ခာ မစင်ကြယ်သေးသူအား သုံးမစောင့်ရှောက်ရမည်သာတည်း။ ထို သူသည် အသိမှန် အမြင်မှန် ရရှိ၍ လမ်းစဉ်မှန်အတိုင်း ကျင့်သုံးဆောက် တည်သောအခါ၌မူကား ကြည့်ရှုဖွယ် မလိုပေ။ မိမိကိုယ်ကို စောင့်ရှောက် တတ်ပြီဖြစ်၍ မေ့လျော့တော့မည် မဟုတ်ပေ။

[ ပဉ္စကနိပါတ်၊ ကုမာရသုတ် ]

## ရေစီးကို တန့်စေခြင်း

တောင်ကျရေတို့ဖြင့် အဝေးသို့ စီးဆင်းလျက်ရှိသော မြစ်ငယ်တစ်ခုကို ကြည့်ပါ။ လျင်မြန်သော ရေ အလျင်ဖြင့် အမှိုက်သရိုက် ဒိုက်သရော စသည်ကို သယ်ဆောင်သွားသည်ကို တွေ့ရလိမ့်မည်။

ထိုမြစ်ငယ်၏ ထမ်းပါးနှစ်ဖက်မှ ရေနုတ်မြောင်း တူးဖော်ကြည့်ပါ။ ရေစီးသည် အရှိန် တန့်သွားလိမ့်မည်။ ရေအလျင်သည် ဟိုဘက် သည်ဘက် ကွဲပြား ပျံ့နှံ့လျက် အမျိုးမျိုးအဖုံဖုံ ဖရိုဖရဲ ဖြစ်ပေါ်လိမ့်မည်။ ထိုအခါ အမှိုက်သရိုက် ဒိုက်သရော သည်တို့သည် အဝေးသို့ စီးဆင်း မျောပါ၍ မသွားသည်ကို တွေ့ရလိမ့်မည်။

တူးသော ဉာဏ်ပညာဖြင့် အမှန်တရားကို ရယူလိုသော ပုဂ္ဂိုလ်သည် ပိတ်ပင်တားဆီး၍ အားနည်းစေတတ်သော အကြောင်းတို့ကို ကျော်လွှား ရပေမည်။

ထိုအကြောင်းတို့ကား—

ကာမဂုဏ်တို့၌ လိုလားတပ်မက်မှု၊ သူတစ်ပါးကို ဖျက်ဆီးလိုမှု၊ လေးလံ ထိုင်းမှိုင်းမှု၊ မတည်ငြိမ် ပျံ့လွင့်မှု၊ နောင်တ ပူပန်မှု၊ ဝေခွဲဝေဝါ မဝေခွဲ နိုင်မှုတို့ ပေတည်း။ ဤအကြောင်းတို့သည် တူးသော ဉာဏ်ပညာဖြင့် အမှန်တရားရရှိရေးကို တားဆီးတတ်၏။ နှောင့်နှေးစေတတ်၏။

[—နီဝရဏဝဂ်၊ အာဝရဏသုတ်]

## စစ်သည်တော် ငါးယောက်၊ မိန်းမနှင့် ရဟန်း

ဤလောက၌ စစ်သည်တော် ငါးမျိုး ရှိလေ၏။

ပထမ စစ်သည်တော်သည် စစ်မြေပြင်သို့ ထွက်ခါရာ၌ တစ်ဖက်မှ ဆင်တပ်၊ မြင်းတပ်၊ ရထားတပ်၊ ခြေလျင်တပ်တို့ ချီတက် လှုပ်ရှား မှုကြောင့် မြူမှုန်များ လွင့်တက်လာသည်ကို မြင်ရုံမျှဖြင့် ကြောက်ရွံ့၏။ စစ်တိုက်ခြင်းငှာ မစွမ်းနိုင်တော့။ နောက်ဆုတ် ထွက်ပြေးလေသတည်း။

ဒုတိယ စစ်သည်တော်ကား တစ်ဖက်မှ လွင့်တက်လာသော မြူမှုန် တို့ကို မြင်ကာမျှဖြင့် ကြောက်ရွံ့ခြင်း မရှိ။ ကြံ့ကြံ့ခံနိုင်သေး၏။ သို့သော် တစ်ဖက်မှ လွင့်တူ ချီတက်လာသော စစ်အလံများကို မြင်လျှင်ကား ကြောက်ရွံ့လေ၏။ စစ်တိုက်ခြင်းငှာ မစွမ်းနိုင်တော့။ နောက်ဆုတ် ထွက်ပြေးလေသတည်း။

တတိယစစ်သည်တော်ကား မြူမှုန်တို့ကိုမြင်ကာမျှဖြင့် လည်းကောင်း၊ အလံများကို မြင်ကာမျှဖြင့် လည်းကောင်း၊ ကြောက်ရွံ့ခြင်း မရှိ။ ကြံ့ကြံ့ခံနိုင်သေး၏။ သို့သော် ဆင်သံ၊ မြင်းသံ၊ ရဲမက်တို့၏ အော်ဟစ်ကြွေးကြော်သံကို ကြားရလျှင်ကား ကြောက်ရွံ့လေ၏၊ စစ်တိုက်ခြင်းငှာ မစွမ်းနိုင်တော့။ နောက်ဆုတ် ထွက်ပြေးသည်သာတည်း။

စတုတ္ထစစ်သည်တော်သည်ကား မြူမှုန်ကိုမြင်ကာမျှဖြင့်လည်းကောင်း၊ အလံများကို မြင်ကာမျှဖြင့် လည်းကောင်း၊ အော်ဟစ် ကြွေးကြော်သံကို ကြားရုံမျှဖြင့် လည်းကောင်း ကြောက်ရွံ့ခြင်းမရှိ။ ကြံ့ကြံ့ခံနိုင်သေး၏။ သို့သော် တိုက်ခိုက်ထိုးခုတ်ရာ၌ကား ခံနိုင်ရည်မရှိ။ ပင်ပန်းအားကုန်ကာ ကျဆုံး ပျက်စီးရလေသည်။

ပဉ္စမ စစ်သည်တော်ကား တက်လှမ်းလာသော မြူမှုန်တို့ကို မြင်ကာမျှဖြင့် လည်းကောင်း၊ စစ်အလံများကို မြင်ကာမျှဖြင့် လည်းကောင်း၊ အော်ဟစ်ကြွေးကြော်သံတို့ကို ကြားကာမျှဖြင့် လည်းကောင်း၊ ကြောက်ရွံ့ခြင်းမရှိ။ ကြံ့ကြံ့ခံနိုင်၏။ တိုက်ခိုက်ထိုးခုတ်ရာ၌လည်း ကြံ့ကြံ့ခံနိုင်၍ အားစွမ်းသတ္တိရှိသောကြောင့် အနိုင်ရရှိလေ၏၊ ထိုစစ်သည်တော် သူရဲကောင်းကား စစ်ပွဲ အောင်နိုင်သဖြင့် စစ်မြေပြင်ကို စိုးမိုးအုပ်ချုပ်၍နေလေသတည်း။

ဤကား ဥပမာစကားရပ် ဖြစ်၏။

## စစ်သည်တော် ဟူသည်မှာ

ဤသာသနာတော်၌ အချို့သော ရဟန်းသည် 'မည်သည့် မြို့ ရွာ နိဂုံး၌ အလွန် ချောမောပြေပြစ်သည့် မာတုဂါမသည် ရှိ၏၊ ထို မာတုဂါမသည် ရှုချင်စဖွယ် တင့်တယ်လှပ၏၊ စိတ်ကြည်လင် ဖွယ်ရာသော အသွင်ယဉ်ကျေးနှုံရှိ၏၊ နှစ်သက် မြတ်နိုးလောက်၏' ဟု သတင်း စကား ကြားကာမျှဖြင့် ထို မာတုဂါမကို တပ်မက်စွဲလမ်းလေ၏။ မချုပ်တည်း နိုင်အောင်ပင် တပ်မက်စွဲလမ်းသဖြင့် သီလသိက္ခာကို မဆောက်တည်နိုင်။ ထိုသို့ ကျင့်လေသော နိုင်မက်သောကြောင့် ရဟန်းအဖြစ်မှ လူအဖြစ်သို့ ကူးပြောင်းလေ၏။ ပထမစစ်သည်တော်နှင့် တူသတည်း။

အချို့သော ရဟန်းကား ရှုမငြီးဖွယ်ရာ လှပတင့်တယ်သော မာတုဂါမ၏ သတင်းစကားကို ကြားရုံမျှဖြင့် မတုန်လှုပ်ပေ။ ကြံ့ကြံ့ခံနိုင် သေး၏။ ထိုမာတုဂါမကို မြင်တွေ့လေသော် ကြံ့ကြံ့ မခံနိုင်တော့ပေ။

တပ်မက်စွဲလမ်းသဖြင့် သီလ သိက္ခာကို မစောင့်ထိန်းနိုင်တော့ပေ။ သိက္ခာချ၍ လူထွက်လေ၏။ ဒုတိယစစ်သည်တော်နှင့် တူသူတည်း။

အချို့သော ရဟန်းသည် အချောအလှ သတင်းကြီးလှပေသော မာတုဂါမ၏အကြောင်းကို ကြားရသော်လည်းကောင်း၊ ထိုမာတုဂါမကို တွေ့မြင်ရသော်သော်လည်းကောင်း မတုန်လှုပ်ပေ။ ကြံ့ကြံ့ခံနိုင်သေး၏။ ထိုမာတုဂါမသည် အနီးသို့ ချဉ်းကပ်လာကာ ပြုံး၍ပြုံး၏၊ ရယ်၍ပြုံး၏၊ သာယာချိုအေးသော အသံဖြင့် စကားဆို၏။ ထိုအခါတွင်ကား ရဟန်းသည် မာတုဂါမအား စွဲလမ်းတပ်မက်ခြင်း ဖြစ်လာသဖြင့် သီလ သိက္ခာကို မစောင့်ထိန်းနိုင်တော့ပေ။ လူဝတ်လဲလေတော့၏။ တတိယစစ်သည်တော်နှင့် တူသူပေတည်း။

အချို့သော ရဟန်းကား မာတုဂါမ၏အချောအလှသတင်းကိုကြားရသော် လည်းကောင်း၊ ထို မာတုဂါမကို ကိုယ်တိုင် တွေ့မြင်ရသော်လည်းကောင်း၊ ထိုမာတုဂါမ၏ ပြုံးရွှင်သော ဟန်ပန်၊ သာယာသော အသံတို့ကို အနီးကပ်၍မြင်ရ-ကြားရသော်လည်းကောင်း မတုန်လှုပ်ပေ။ ကြံ့ကြံ့ခံနိုင်သေး၏။ မာတုဂါမသည် ရဟန်းအနီးသို့ ကပ်၍ ထိုင်လာ၏၊ ကပ်၍ အိပ်လာ၏၊ ကလူကျီစယ် မြူဆွယ်၍ ပွေ့ဖက်ဆွဲဆောင်၏။ ထိုအခါတွင်ကား ရဟန်းသည် မစောင့်စည်းနိုင်တော့ပေ။ စိတ်ကိုထိန်းချုပ်နိုင်တော့သဖြင့် သိက္ခာချခြင်း၊ လူဝတ်လဲခြင်းပင် မပြုလုပ်ဘဲ ထိုမာတုဂါမနှင့် မှားယွင်းလေ၏။ စတုတ္ထစစ်သည်တော်နှင့် တူသူတည်း။

အချို့သော ရဟန်းသည်ကား မာတုဂါမ၏ အချောအလှသတင်းကို ကြားရသော် လည်းကောင်း၊ ကိုယ်တိုင် မြင်တွေ့ရသော် လည်းကောင်း၊ ပြုံးခြင်း ရယ်ခြင်းနှင့် ချိုဖွယ်သောစကား ဆိုလာသော် လည်းကောင်း မတုန်လှုပ်ပေ။ ကြံ့ကြံ့ခံနိုင်၏။ ထို့ပြင် မာတုဂါမသည် ထိုင်၍ လည်းကောင်း၊ အိပ်၍ လည်းကောင်း၊ ကလူကျီစယ် မြူဆွယ်ပွေ့ဖက် ဆွဲဆောင်လာသော် လည်းကောင်း မတုန်လှုပ်ပေ။ သီလ သိက္ခာ မချွတ်မယိမ်းအောင် ကြံ့ကြံ့ခံ၍ စောင့်ထိန်း၏။ မာတုဂါမနှင့် ဝေးရာသို့ ပြောင်းရွှေ့၏။ ပွေ့ဖက်သော် ဖြေ၍ ရုန်း၍ ခွာထွက်၏။

မက်မောဖွယ်တာမှု ဟူသမျှကို လွတ်လွတ် ရှင်းရှင်း စွန့်ပယ်နိုင်ပေသော ထိုရဟန်းသည်ကား ပဉ္စမသူရဲကောင်းနှင့် တူလေသတည်း။

[ပဉ္စကနိပါတ်၊ ပထမ ယောဓာဇီဝသုတ်]

## စစ်သည်တော် ငါးယောက်

အချို့သော စစ်သည်တော်သည် တာဝန်အားလျော်စွာ စစ်မြေပြင်သို့ ထွက်ခဲ့၏၊ လက်နက် စွဲကိုင်လျက် တစ်ဖက်ရန်သူကို တိုက်ခိုက်လေ၏။ ယင်းသို့ တိုက်ခိုက်ရင်းပင် စစ်ပွဲ၌ ကျဆုံးသွားရ၏။ ဤကား ပထမ စစ်သည်တော်တည်း။

ဒုတိယ စစ်သည်တော်ကား စစ်မြေပြင်သို့ ထွက်ခဲ့၍ တိုက်ခိုက်ရင်း ဒဏ်ရာရ၏။ ထိုစစ်သည်တော်အား အဖော်စစ်သည်တို့က မိမိတို့ စစ်တပ်ရှိရာသို့ ယူဆောင်၏၊ ထို့နောက် သူ၏ မိတ်ဆွေမျိုးများထံ ပို့ဆောင်သောအခါ လမ်းခရီး၌ပင် သေဆုံးသွားလေ၏။

တတိယ စစ်သည်တော်ကား စစ်မြေပြင်သို့ ထွက်ခဲ့၍ တိုက်ခိုက်ရင်း ဒဏ်ရာရရှိ၏။ ၎င်းအား အဖော်စစ်သည်တို့က မိမိတို့၏ စစ်တပ်သို့ ယူဆောင်လျက် တစ်ဖန် သူ၏ မိတ်ဆွေမျိုးများထံ ပို့ဆောင်လေ၏။ မိတ်ဆွေမျိုးတို့က စောင့်ရှောက် ပြုစု ပေးစဉ်မှာပင် ထိုစစ်သည်တော်သည် သေဆုံးသွားလေ၏။

စတုတ္ထ စစ်သည်တော်ကား စစ်မြေပြင်သို့ ထွက်ခဲ့၍ တိုက်ခိုက်ရင်း ဒဏ်ရာရရှိ၏။ အဖော် စစ်သည်တို့က ၎င်းအား မိမိတို့၏ စစ်တပ်သို့ ယူဆောင်လျက်၊ တစ်ဖန် သူ၏ မိတ်ဆွေမျိုးများထံ ပို့ဆောင်လေ၏။ မိတ်ဆွေမျိုးများက ပြုစုစောင့်ရှောက်ကြသဖြင့် ဒဏ်ရာပျောက်ကင်းသွားလေ၏။

ပဉ္စမ စစ်သည်တော်ကား မြေပြင်သို့ထွက်ခဲ့၍ တစ်ဖက်ရန်သူတို့ကို တိုက်ခိုက်ရာ အောင်မြင်သွားလေ၏။ ထိုစစ်သည်တော်သည် စစ်အောင်နိုင်သူဖြစ်၍ ထိုစစ်မြေပြင်အရပ်ကို စိုးအုပ်ရလေ၏။

## ရဟန်းငါးမျိုး

ဤသာသနာတော်၌ အချို့သောရဟန်းသည် နံနက်ချိန်တွင် ရပ်ထဲရွာထဲသို့ ဆွမ်းခံဝင်၏။ ကိုယ်၊ နှုတ်၊ စိတ် ဟူသော ဣန္ဒြေသုံးပါးကို မစောင့်စည်းမူ၍သာလျှင် ဆွမ်းခံဝင်၏။ ထိုရဟန်းသည် မလုံမခြုံ ဝတ်

ဆင်၍ ထားသော မာတုဂါမကို မြင်သောကြောင့် ကာမစိတ် ဖြစ်ပေါ်လာ၏။ စွဲခက်ခြင်းရာဂကို မချုပ်တည်းနိုင်။ ထို့ကြောင့် သိက္ခာမချ၊ လူဝတ်မလဲတော့ဘဲ မေထုန် မှီဝဲလိုက်လေ၏။ ရဟန်းအဖြစ်မှ ဆုံးရှုံးရလေ၏။ ပထမစစ်သည်တော်နှင့် တူသတည်း။

အချို့သောရဟန်းအား ဤနေ့ခြမစောင့်စည်းဘဲ ရပ်ထဲရွာထဲသို့ ဆွမ်းခံဝင်၍ မာတုဂါမကို တွေ့မြင်သောအခါ တပ်မက်ခြင်း ရာဂစိတ် ဖြစ်ပေါ်သော်လည်း ဤသို့ အကြံဖြစ်၏။ “ငါသည် ကျောင်းသို့ပြန်သွားမည်၊ အခြားသော အတူနေ ရဟန်းတို့အား ‘အကျွန်ုပ်သည် ရာဂစိတ်ဖြစ်ပွားသဖြင့် ရဟန်းတရားကို မကျင့်သုံးနိုင်တော့ပါ၊ သိက္ခာချ၍ လူဝတ်လဲပါတော့မည်’ ဟု ဝန်ခံပြောကြားမည်” ဟု အကြံ ဖြစ်ပေါ် လာ၏။ ထို ရဟန်းသည် ယင်းသို့ ကြံတွေးမိ၍ ကျောင်းသို့ ပြန်လာသော်လည်း ကျောင်းသို့အား မရောက်။ လမ်း၌ပင် သိက္ခာချ လူဝတ် လဲလိုက်လေတော့၏။ ဒုတိယစစ်သည်တော်နှင့် တူသတည်း။

အချို့သော ရဟန်းအား ဣန္ဒြေကို မစောင့်စည်းဘဲ ရပ်ထဲ ရွာထဲသို့ ဆွမ်းခံဝင်၍ မာတုဂါမကို မြင်သောအခါ ကာမစိတ် ဖြစ်ပေါ်၏။ တပ်မက် စွဲလမ်း၏။ သို့သော် ထို ရဟန်းသည် မိမိ နေထိုင်ရာ ကျောင်းသို့ ပြန်သွား၍ အတူနေ ရဟန်းတို့အား ဝန်ခံပြောဆို၏။ “အကျွန်ုပ်သည် မာတုဂါမကို စွဲလမ်း တပ်မက်သဖြင့် မြတ်သော အကျင့်ကို မကျင့်နိုင်တော့ပါ၊ လူဝတ်လဲပါတော့မည်” ဟု ဝန်ခံပြောဆို၏။

ထိုအခါ ရဟန်းတို့က “ငါ့ရှင်၊ လူဝတ် မလဲပါနှင့်၊ ကာမဂုဏ် တို့မည်သည် အပြစ်များလှပါ၏၊ ဆင်းရဲ ပင်ပန်းခြင်း များလှပါ၏၊ ကာမဂုဏ်တို့သည် အသားမကပ်သောအရိုးနှင့် တူပေသည်ဟု လည်းကောင်း၊ အသားတစ်နှင့်တူသည်ဟု လည်းကောင်း၊ ကောက်ရိုးမီးနှင့် တူသည်ဟု လည်းကောင်း၊ မီးကျီးတွင်း နှင့် တူသည်ဟု လည်းကောင်း ကာမဂုဏ်တို့၏ ဆိုးပြစ် ကို မြတ်စွာဘုရား ညွှန်ပြထားသည် မဟုတ်လော” ဟူ၍ ဆုံးမကြကုန်၏။ ယင်းသို့ ဆိုဆုံးမသော်လည်း ထိုရဟန်းသည် ကာမစိတ်ကို မချုပ်တည်းနိုင်သဖြင့် လူဝတ်လဲလေ၏။ တတိယ စစ်သည်တော်နှင့် တူသတည်း။

အချို့သောရဟန်းကား ဆွမ်းခံဝင်၍ မာတုဂါမကို တွေ့မြင်၊ ကာမစိတ် ဖြစ်ပေါ်၊ ကျောင်းသို့ ပြန်သွား၊ အတူနေ ရဟန်းတို့အား ဝန်ခံ

ပြောကြား၏။ အတူနေ ရဟန်းတို့က "ငါ့ရှင်၊ ကာမရာဂသည် ပူလောင်နှိပ်စက်တတ်ပါ၏၊ ဆင်းရဲ ပင်ပန်းလှပါ၏၊ လူ့ဝတ်မလဲပါနှင့်၊ ကာမရာဂသည် အိပ်မက်နှင့်တူသည်ဟု လည်းကောင်း၊ အသီးရှိသော သစ်ပင်နှင့် တူသည်ဟုလည်းကောင်း၊ စဉ်းတီတုံးနှင့် တူသည်ဟု လည်းကောင်း၊ တံစို့တံကျင်နှင့် တူသည်ဟု လည်းကောင်း မြတ်စွာဘုရား ညွှန်ပြ ထားသည် မဟုတ်လော၊ ကာမ ရာဂ၏ ဆိုးပြစ်ကို ရှုမြင် သုံးသပ်ပါ၊ လူမထွက်ပါနှင့်" ဟု ဆိုဆုံးမကုန်၏။ ထိုရဟန်းသည် ကာမ ရာဂ ကို ချိုးနှိပ်လိုက်သဖြင့် ရဟန်းအဖြစ်နှင့်ပင် ဆက်လက် တည်နေ၏။ လူ့ဝတ် မလဲတော့ပေ၊ စတုတ္ထ စစ်သည်တော်နှင့် တူသတည်း။

အချို့သော ရဟန်းကား ရပ်ထဲ ရွာထဲသို့ ဆွမ်းခံ ဝင်ရာ၌ ကိုယ်—နှုတ်—စိတ် ဟူသော ဒွါရတို့ကို ကောင်းစွာ စောင့်စည်း၏။ မလုံ့တလုံ ဝတ်ဆင်ထားသော မာတုဂါမကို မြင်သော်လည်းကောင်း၊ ပြုံး ရယ် မြူးထူးသည်ကို မြင်သော်လည်းကောင်း၊ သာယာ နာပျော်ဖွယ် အသံကို ကြားရသော် လည်းကောင်း၊ တွန့်လှုပ်ခြင်း မဖြစ်။ ကြံ့ ကြံ့ ခံနိုင်၏။ အဆင်း—အသံ—အနံ့စသော အာရုံတို့သည် မမြဲကုန်၊ ဖြစ်—ပျက်—ပြုပြင်ပြောင်းလဲ ဖောက်ပြန်ခြင်း သဘော ရှိကုန်၏ ဟု အမြင်မှန်ဖြင့် ရှုမြင်သုံးသပ်၏။ ဆွမ်းခံခြင်း ကိစ္စပြီးသော် မိမိ လိုရာ အရပ်သို့ ထွက်ခွာသွားလေ၏။ ပဉ္စမ စစ်သည်တော်နှင့် တူသတည်း။

[ ဒုတိယ ယောဓာဇီဝသုတ် ]

## အဆင်း ရုပ နှင့် အရှင်းမူလ

ဤလောက၌ နွားတို့တွင် နွားဖြူ၊ နွားနီ၊ နွားနက်၊ နွားညို၊ နွားပြောက်၊ နွားကျား—စသည်ဖြင့် အရောင် အမျိုးမျိုး ရှိကြ၏။

ထို နွားတို့တွင် ယဉ်ကျေး လိမ္မာသော၊ လျင်မြန် ပြေးနိုင်ဆန်းစွာ သွားတတ်သော၊ ခွန်အားနှင့် ပြည့်စုံ၍ ဝန်ကိုဆောင်နိုင်သော နွားသည် နွားကောင်း ဖြစ်လေ၏။ လူတို့သည် ထိုနွားကိုသာလျှင် စုံမက် နှစ်သက်ကြ၏။ တန်ဖိုးထား လေးစားကြ၏။ ထိုနွား၏ အရောင်ကိုမူ နိုသည်၊

ဖြူသည်၊ ပြာသည်ဟူ၍ စူးစမ်းမှုဖြင့် ပဓာန မပြုကြကုန်။ ထိုနွားတို့၏ အဆင်းအရောင်ကို တန်ဖိုးထားကြခြင်း မဟုတ်သောကြောင့်တည်း။

ထိုနည်းတူပင် လူတို့တွင်လည်း မင်းမျိုး၊ သေဋ္ဌေးမျိုး၊ ဆင်းရဲသားမျိုး၊ ဒွန်းစဏ္ဍားမျိုး ဟူ၍ ပဓာန ပြုဖွယ်မရှိပေ။ ထိုသူ၏ ကိုယ် အမူအရာ၊ နှုတ်အမူအရာ ယဉ်ကျေး သိမ်မွေ့၍ စိတ်ထား စင်ကြယ် မြင့်မြတ်ခြင်းသည်သာ ပဓာန ဖြစ်၏။ ထိုသို့ ယဉ်ကျေး သိမ်မွေ့၍ မြင့်မြတ် စင်ကြယ်ခြင်းသည်သာလျှင် သူတစ်ပါးအား ကောင်းကျိုး ပြုနိုင်သည် ဖြစ်သောကြောင့်ပေတည်း။

[ဥပါသကဝဂ်၊ ဂိဟိသုတ်]

# ရေလဲ၌ အရိပ်ပေါ်ခြင်း

တစ်ရံတစ်ခါ၌ သင်္ဂါရဝ ပုဏ္ဏားသည် မြတ်စွာဘုရားထံ ချဉ်းကပ်၍ မေးလျှောက်လေ၏။

"အရှင်မြတ်ဘုရား၊ အကျွန်ုပ်သည် ဗေဒင် အတတ်ကို တတ်ကျွမ်း၍ ဗေဒင်ဟောတတ်သူ ဖြစ်ပါသည်၊ တစ်ခါတစ်ရံ၌ ဗေဒင်တို့သည် ဉာဏ်၌ မထင် လာပါကုန်၊ နေ့ ညဉ့် မဟူ ရွတ်ဖတ် သရဇ္ဈာယ် ပါသော်လည်း မှန်ကန်စွာ မထင်လာကုန်၊ တစ်ခါတစ်ရံဆွင်မူ ရွတ်ဖတ် သရဇ္ဈာယ်မှု များစွာ မပြုသော်လည်း ဗေဒင်တို့သည် ဉာဏ်၌ မှန်ကန်စွာ ထင်ပေါ်လာပါကုန်သည်၊ အကြောင်း မည်သို့ ရှိပါသနည်း" ဟု လျှောက်မေးလေ၏။

ထိုအခါ မြတ်စွာဘုရားသည် ထို ပုဏ္ဏားအား၊ "ပုဏ္ဏား၊ ဟုတ်တိုင်း မှန်စွာ သိခြင်း၊ မသိခြင်း၏ အကြောင်းသည် ရှိ၏၊ ထိုအကြောင်းကား ကာမဂုဏ်တို့၌ စွဲမက်ခြင်း ဟူသော ကာမ ရာဂ၊ ဖျက်ဆီးလိုခြင်းဟူသော ဗျာပါဒ၊ လေးလံ ထိုင်းမှိုင်းခြင်း ဟူသော ထိနမိဒ္ဓ၊ ပျံ့လွင့်ခြင်း-နောင်တ ပူပန်ခြင်း ဟူသော ဥဒ္ဓစ္စ-ကုက္ကုစ္စ၊ မဝေခွဲ မဆုံးဖြတ် နိုင်ခြင်း ဟူသော ဝိစိကိစ္ဆာတို့ ပေတည်း။

"ဤ ငါးပါးသော ကိလေသာ အညစ်အကြေးတို့ ကပ်ငြိ ဖိစီးခြင်း ခံရသော် အမှန်ကို မသိမြင်နိုင်ပေ၊ မိမိနှင့် ပတ်သက်၍ လည်းကောင်း၊

သူတစ်ပါးနှင့်ပြတ်သက်၍လည်းကောင်း၊ အကြောင်းအကျိုး၊ အကောင်း–အဆိုး၊ အမှား–အမှန်တို့ကို ပိုင်းခြား၍ မသိမြင်နိုင်ပေ။

"ဤ ငါးပါးသော ကိလေသာ အညစ်အကြေးတို့ကို ကပ်ငြိ ဖိစီးခြင်း မခံရသော်မူ ပိုင်းခြား၍ သိမြင်နိုင်၏၊

"ပုဏ္ဏား ဥပမာအားဖြင့် သန့်စင် ကြည်လင်သော ရေခွက် ထဲသို့ ငုံ့ကြည့်ပါ၊ သင်၏ အရိပ်ကိုလည်းကောင်း၊ အခြားတစ်ပါးသော အရိပ်ကိုလည်းကောင်း ကောင်းစွာမြင်နိုင်သည် မဟုတ်လား။

"ပုဏ္ဏား၊ အကယ်၍ ထိုရေသည် အနီ၊ အပြာ၊ အစိမ်း၊ စသော ဆေးမှုန့်များ ရောခတ်ထားလျှင်ဖြစ်စေ၊ သို့တည်းမဟုတ် ပွက်ပွက်ဆူလျက် အခိုးအငွေ့ထွက်နေလျှင်ဖြစ်စေ၊ သို့တည်းမဟုတ် ရေညှိရေမှော်တို့ဖြင့် ရောယှက် ရှုပ်ထွေးနေလျှင်ဖြစ်စေ၊ သို့တည်းမဟုတ် လေပြင်း တိုက်ခတ်သဖြင့် မတည်မငြိမ် လှုပ်ရှားနေသည်ဖြစ်စေ၊ သို့တည်းမဟုတ် ရွှံ့ညွန် အနယ်တို့ဖြင့် နောက်ကျုနေလျှင်ဖြစ်စေ ငုံ့ကြည့်သော်လည်း မြင်နိုင်ပါမည်လား၊ သင်၏မျက်နှာရိပ်ကိုလည်းကောင်း၊ အခြားတစ်ပါးသော အရိပ်ကိုလည်းကောင်း ကောင်းစွာမြင်နိုင်ပါမည်လား" ဟု မေးတော်မူ၏။

ထိုအခါ သင်္ဂါရဝပုဏ္ဏားသည် "မှန်ပါသည် အရှင်ဂေါတမ၊ မမြင်နိုင်ကောင်းပါဘုရား" ဟု ပြန်လည် လျှောက်ထားလေ၏။

"ပုဏ္ဏား၊ ဤသည်လျှင် ဟုတ်တိုင်းမှန်စွာ သိမြင်ရခြင်းနှင့် မသိမြင်ရခြင်း၏ အကြောင်းရင်းပေတည်း" ဟု မြွက်ဆိုတော်မူ၏၊

[–သင်္ဂါရဝသုတ်]

## ရေထဲက အန္တရာယ်လေးမျိုး

မြစ် ပင်လယ်ပြင် ထဲသို့ ဆင်းသက်သူအား မုချကေန် တွေ့ကြုံရမည့်ဘေး အန္တရာယ်သည် လေးမျိုးရှိ၏။

လှိုင်းတံပိုးဘေး၊ မိကျောင်းဘေး၊ ဝဲဂယက်ဘေး၊ လပိုင်ဘေးတို့ ပေတည်း။

အိမ်ရာထည့်ခေါ်င်လော လူ့ပံတ်ာင်မှ အိမ်ရာ မတည့်သောသင်သော ရဟန်းတော်သို့ ဝင်ရောက်သူတို့အား မှုချ ကောန် တွေ့ကြုံရမည့် ဘေး အန္တရာယ်သည်လည်း လေးမျိုးရှိပေ၏။

လှိုင်းတံပိုးဘေး၊ မိကျောင်းဘေး၊ ဝဲဂယက်ဘေး၊ လပိုင်ဘေးတို့နှင့် အလားလူစွာ ဥပမာဆိုရာ၏။

ဤလောကသ၌ အချို့သော ယောက်ျားသည် လူ့ဗုဒ္ဓအဝနှင့် အတူ အိုရခြင်း၊ နာရခြင်း၊ သေရခြင်းဟူသော ဆင်းရဲပင်ပန်းမှုတို့ကို ဆင်ခြင် ထိတ်လန့်မိသဖြင့် ရဟန်းတော်သို့ ကူးပြောင်းလေ၏။

ထိုရဟန်းသစ်အား သိက္ခာအားဖြင့် ကြီးကုန်သော ကျောင်း၌ရှိ ရဟန်းတို့က နေထိုင်ကျင့်သုံးမှု၌ ဆုံးမ ပြောကြားကုန်၏၊ သင်္ကန်းဝတ်ရုံပုံ၊ နေထိုင်သွားလာပုံတို့၌ ရဟန်းကျင့်ဝတ်နှင့် ညီစေရန် သွန်သင် ပြောဆို ကြကုန်၏။

ထိုအခါ ရဟန်းသည် 'ငါ့အောက် ငယ်ကုန်သော သူတို့ကသည်း ငါ့ကို ဆုံးမကြကုန်၏၊ အမျိုးမျိုး ညွှန်ကြားကြကုန်၏၊ ငါသည် လူ့ဘောင်မှာ ရှိစဉ်က သူတပါးကို ဆုံးမသွန်သင်ခဲ့သူပင် ဖြစ်လျက် ယခု ငါ့ကို စကားဖြင့် လွှမ်းမိုးချုပ်ချယ်ကြကုန်၏ ဘကား' ဟူ၍ အမျက် ဒေါသဖြစ်လေ၏။ ထိုရဟန်းသည် ကြာမီပင် လူဝတ်လဲ၍ အိမ်သို့ ပြန်ထွက်လေတော့၏။

ထို ရဟန်းသစ်၏ မခံချင်စိတ်ဖြင့် အမျက်ဒေါသ ဖြစ်ပွားခြင်းကို 'လှိုင်းတံပိုး ဘေးအန္တရာယ်' ဟူ၍ ခေါ်ဆိုရလေသည်။

ဤလောက၌ အချို့သောယောကျ်ားသည် လူ့ဘောင်ကို ငြီးငွေ့သဖြင့် ရဟန်းတော်သို့ ကူးပြောင်းလေ၏။

ရဟန်းသစ်အား ကျောင်း၌ ရှိနှင့်ပြီးသော သီတင်းသုံးဖော် ရဟန်းတို့က စားသောက်မှုဆိုင်ရာ သွန်သင်ဆုံးမ ကြကုန်၏။ "ဤအစာကို နံနက်ချိန်မှသာ စားရာ၏၊ မွန်းလွဲချိန်၌ မစားရာ၊ ဤအစာသည် အား ခံ့ွယ်သည်း၊ မလျက်ရာ၊ မသောက်ရာ။ ဤအစာသည် သင့်အဖို့ မအပ်၊ မသုံးဆောင်ရာ" စသည်ဖြင့် ရဟန်းကျင့်ဝတ်နှင့် ညီစေရန် ဆုံးမပြော ကြားကြကုန်၏။

ထိုအခါ ရဟန်းသစ်သည် "ဤရဟန်းတို့သည် ငါ၏ခံတွင်းကို ပိတ်ဆို့ကြကုန်၏။ သူတစ်ပါးပေးလှူသည်ကို မစားရ၊ မသောက်ရ၊ မလျက်ရဟု တားဆီး ပိတ်ပင်ကြကုန်၏။ ရှေး လူဖြစ်စဉ်ကမူ ငါသည် နံနက်—နေ့—ညဉ့် ဟူ၍ ရှောင်ရန် မလို၊ အလို ရှိရာကို စားသောက် နိုင်ခဲ့၏၊ ယခုသော် ငါ၏ခံတွင်းကို ပိတ်ဆို့ထားကြသည်ဘာတား" ဟူ၍ အမျက်ဒေါသဖြစ်၏။ စိတ်မချမ်းမြေ့ခြင်း၊ ပင်ပန်းဆင်းရဲခြင်း ဖြစ်၏။

ထို့ကြောင့် လူဝတ်လဲကာ အိမ်သို့ပြန်လေ၏။

ထိုရဟန်းသစ်၏ ဝမ်းစာအရေးဖြင့် ပူဆွေးဒေါသ ဖြစ်ပွားခြင်းကို 'မိကျောင်းဘေး' ဟူ၍ ဆိုရလေသည်။

ဤလောက၌ အချို့သော ယောကျ်ားသည် လူ့ဘောင်ကို ငြီးငွေ့သဖြင့် ရဟန်းဘောင်သို့ ကူးပြောင်းလေ၏။ ထိုရဟန်းသစ်သည် နံနက်ချိန်၌ သပိတ်ပိုက်ကာ ရပ်ထဲ ရွာထဲသို့ ကူမြွေ မစောင့်စည်းဘဲ ဆွမ်းခံဝင်၏။ ထိုအခါ ရပ်ထဲ ရွာထဲရှိ အချို့သူများမှာ ကာမဂုဏ် အာရုံအားဖြင့် တင့်တယ် စံပယ်လျက် ရှိခြင်းကို တွေ့မြင်ရ၏။ ထို ရဟန်းအား 'ငါသည်လည်း ရှေးက ဤသို့ပင် စည်းစိမ်ခံစားခဲ့၏၊ ငါ၌ စည်းစိမ်ခံစားရန် ရှိသည်သာတည်း၊ ဤသို့ ကာမဂုဏ် စည်းစိမ်ကို ခံစားရင်း ကုသိုလ်ကောင်းမှုပြုလျက် နေရသော် ကောင်းလေစွ' ဟု အကြံ ဖြစ်အောလူဝတ်လဲလေ၏။

ထိုရဟန်းသစ်၏ အာရုံငါးပါး၌ ငြိတွယ်ခြင်းကို 'ဝဲဂယက်ဘေး' ဟု ဆိုရလေသည်။

ဤလောက၌ အချို့သော ယောကျ်ားသည် လူ့ဘောင်ကို ငြီးငွေ့သဖြင့် ရဟန်းအဖြစ်သို့ ကူးပြောင်းလေ၏။ ထိုရဟန်းသစ်သည် နံနက်အချိန်၌ သပိတ်စွဲလျက် ရပ်ထဲရွာထဲသို့ ဆွမ်းခံဝင်၏။ ကိုယ်၊ နှုတ်၊ စိတ်၊ တို့ကို မထိန်းချုပ် မစောင့်စည်းသဖြင့် မာတုဂါမတို့ကို ကြည့်မိမြင်မိ၏။ မလုံမခြုံ ဝတ်ရုံထားသော မာတုဂါမတို့ကို မြင်သော် ထိုရဟန်းသည် တပ်မက်ခြင်း ရာဂ နှိပ်စက်သဖြင့် လူဝတ်လဲ၍ သူ၏ နေရင်းအိမ်သို့ ပြန်လေ၏။

ထိုရဟန်း၏ မာတုဂါမ တို့ကို ရာဂဖြင့် တပ်မက် စွဲလမ်းခြင်းသည် 'လပိုင်ဘေး' မည်သတည်း။

[စတုတ္ထနိပါတ်၊ ဦမိဘယသုတ်]

# အညစ်အကြေး

သံ၊ ကြေး၊ ခဲမဖြူ၊ ခဲပုပ်၊ ငွေတည်းဟူသော ကျိုင်ငါးမျိုးတို့သည် ရွှေ၏ အညစ်အကြေးများ ဖြစ်၏။

ရွှေသည် ကျိုင်ငါးမျိုးကြောင့် ညစ်နွမ်း၏။ မာကျော ကြွပ်ဆတ်၏။ လက်ကောက်၊ နားတောင်းစသည် ပြုလုပ်ရန်အသင့်မဖြစ်ပေ။

ထို ငါးမျိုးတို့ ကင်းစင်မှုကား ရွှေသည် အရောင်လည်း ထွက်၏။ နူးညံ့ ပျော့ပျောင်းခြင်းလည်း ရှိ၏။ လက်ကောက်၊ နားတောင်းစသည် ပြုလုပ်ရန် အသင့်လည်း ဖြစ်လေ၏။

ထိုနည်းတူပင် စိတ်၏ အညစ်အကြေးတို့သည် ငါးမျိုးရှိ၏။ ကာမဂုဏ်ကို လိုလားမှုဟူသော ကာမစ္ဆန္ဒ၊ နှိပ်စက်ဖျက်ဆီးလိုမှုဟူသော ဗျာပါဒ၊ လေးလံထိုင်းမှိုင်းမှုဟူသော ထိနမိဒ္ဓ၊ မတည်ငြိမ် ပျံ့လွင့်မှုနှင့် နောင်တပူပန်မှု ဟူသော ဥဒ္ဓစ္စ ကုက္ကုစ္စ၊ မဝေခွဲနိုင်မှု ဟူသော ဝိစိကိစ္ဆာ၊ ဤငါးမျိုးတို့ပေတည်း။

ဤငါးမျိုးတို့ကြောင့် စိတ်သည် ညစ်နွမ်း၏။ နူးညံ့သိမ်မွေ့မှု မရှိ။ အကြည်ဓာတ် အလင်းရောင်ကင်းမဲ့၏။ ထို့ကြောင့် ထူးသောဉာဏ်ဖြင့် တစ်စုံတစ်ခုသော လမ်းမှန် တရားမှန်ကို သိမြင်ရန် မျက်မှောက်ပြုရန် စိတ်ညွတ်ခြင်း မရှိနိုင်ပေ။

[ပဉ္စကနိပါတ်၊ ဥပက္ကိလေသသုတ်]

# စမ်းရေအိုင်၏ထွက်စိုခြင်း

စိမ့်ရေတို့နှင့် ပြည့်လျက်ရှိသော စမ်းရေအိုင်ကြီးကို ကြည့်ပါ။ ရေဝင်ပေါက်ဟူ၍ မရှိပေ။ အရပ်လေးမျက်နှာ မည်သည့်ဘက်မှ ရေဝင်ပေါက် မရှိပေ။ မိုးရွာသွန်းခြင်းလည်းမရှိပေ။

သို့ဖြစ်သော်လည်း ထို စမ်းရေအိုင်ကြီး၌ ရေ ရှိနေပေသည်။ စိမ့်၍ ထွက်သော ရေတို့တည်း။

ထို ရေသည် အေးမြ၏။ အိုင်ကြီး တစ်ခုလုံးသည် စွတ်စိုလျက်ရှိ၏။ ထိုအိုင်ကြီးသည် နေရာမလပ် ပျံ့နှံ့စွာ စွတ်စိုလျက်သာ ရှိလေ၏။

ထိုနည်းတူပင် တရားအားထုတ်သော ပုဂ္ဂိုလ်သည် ကိလေသာ အညစ်အကြေးတည်းဟူသော မကောင်းမှုတို့ကို နှိမ်နင်း ပယ်ဖျက်ပြီးသဖြင့် တည်ကြည်ခြင်း၊ သမာဓိကို ကောင်းစွာရ၏။

ထိုသမာဓိကြောင့် ဖြစ်သော နှစ်သက်ခြင်း 'ပီတိ' နှင့် ချမ်းသာခြင်း 'သုခ'ကို ထိုပုဂ္ဂိုလ်သည် ခံစားရ၏။ ပီတိနှင့် သုခသည် တစ်ကိုယ်လုံး၌ ပျံ့နှံ့၍ ဖြစ်ပေါ်၏။ နေရာလပ်ဟူ၍ မရှိအောင် ပျံ့နှံ့ ဖြစ်ပေါ်လေ၏။

[—ပဉ္စင်္ဂိကသုတ်]

## ရေအိုး ရေကန် မြင်း

မြေညီရာအရပ်၌ ရေအပြည့်ရှိသော အိုးကြီးကို ကရွတ်ဖြင့် ကောင်းစွာ တည်ထား၏။ အားကောင်းသော ယောကျ်ားသည် ထို ရေအိုးကြီးကို မည်သည့်ဘက်သို့ ဖြစ်စေ၊ စောင်းငဲ့ သွန်ချသော် ရေသည် ထွက်ကျသည်သာဖြစ်၏။

မြေညီရာ အရပ်၌ ဆန်ပေါင်ရိုးတို့ဖြင့် ဖွဲ့ထားသော ရေကန်ကြီးသည် ရေပြည့်လျက်တည်ရှိ၏။ အားကောင်းသော ယောကျ်ားသည် ထိုရေကန်ကြီး၏ မည်သည့်ဘက်က ဖြစ်စေ ဆန်ပေါင်ရိုးကိုတူးဖြို ဖွင့်ထုတ်သော် ရေတို့သည် စီးထွက်သည်သာ ဖြစ်၏။

ကျွမ်းကျင်သော မြင်းဆရာသည် လမ်းလေးခုဆုံရာအရပ်၌ မြင်းကို စီးလျက် တည်ရှိနေ၏။ ထိုမြင်းဆရာသည် မိမိသွားလိုရာအရပ်သို့ မြင်းကို မောင်းနှင်နိုင်သည်သာ ဖြစ်၏။

ထိုနည်းတူပင် ကောင်းမြတ်သော တည်ကြည်ခြင်း သမ္မာသမာဓိကို အဖန်တလဲလဲ ပွားများဆောက်တည်ပြီး၍ ထူးသော ဉာဏ် အမြင်ကို ရရှိသော ပုဂ္ဂိုလ်သည် တစ်စုံတစ်ခုသော တရားကို မျက်မှောက်ပြုရန် (တွေ့ရှိသိမြင်ရန်) စိတ်ကို ညွတ်စေနိုင်သည်သာတည်း။

[ပဉ္စင်္ဂိကသုတ်]

## ရုက္ခဓမ္မနှင့် ဘိက္ခုဓမ္မ

ရာဇဂြိုဟ်ပြည် ဂိဇ္ဈကုဋ်တောင်၌ မြတ်စွာဘုရား သီတင်းသုံးနေတော်မူစဉ် အခါ ဖြစ်၏။

ထိုအခါဝယ် အရှင် ဓမ္မိကသည် ဇာတိ ဘူမိ အရပ်၌ ကျောင်း ခုနစ်ဆကျောင်းတို့ ပိုင်သော ကျောင်းထိုင် ပုဂ္ဂိုလ်ဖြစ်လေသည်။

ထိုအရှင် ဓမ္မိကသည် ခန်းနေ အာဂန္တုရဟန်းများအား ဆဲရေးလေ့ ရှိ၏။ မာန်မဲ ခြိမ်းခြောက်လေ့ ရှိ၏။ နှိမ့်ချ၍ ပြောဆိုလေ့ ရှိ၏။ ထို့ကြောင့် အာဂန္တု ရဟန်းများသည် အရပ်တစ်ပါးသို့ ပြောင်းရွှေ့ သွားကြလေသည်။

ထိုအခါ ဇာတိ ဘူမိ အရပ်သူ အရပ်သားတို့သည် ‘ငါတို့သည် ရဟန်း သံဃာများအား ဆွမ်း၊ သင်္ကန်း၊ ကျောင်း၊ ဆေးဝါးဟူသော ပစ္စည်း လေးပါးတို့ဖြင့် လှူဒါန်းပြုစုကြပါကုန်လျက် အာဂန္တုရဟန်းများသည် မပျော်မွေ့ဘဲ ပြောင်းရွှေ့သွားကြခြင်းအား အဘယ်ကြောင့်နည်း’ဟု ကြံစည်တွေးဆကြကုန်၏။ စုံစမ်းကြကုန်၏။

### နှင်ထုတ်ခြင်း

ထို့နောက် အရှင်ဓမ္မိက၏ ဆဲရေးမှုများ၊ ချုပ်ချယ်နှိမ့်ချ၍ ပြောဆိုမှုများကြောင့် အာဂန္တု ရဟန်းများ ကျောင်း၌မမြဲသည်ကို သိရှိကြသဖြင့် ဇာတိ ဘူမိ အရပ်သားတို့သည် အရှင်ဓမ္မိကအား နှင်ထုတ်ကြကုန်၏။

ထို့ကြောင့် အရှင်ဓမ္မိကသည် အခြား ဒုတိယ ကျောင်းသို့ ပြောင်း ရွှေ့နေထိုင်၏။

ထိုကျောင်း၌လည်း ပထမ ကျောင်းတုန်းကကဲ့သို့ပင် ပြဿနာပေါ် ပေါက်ပြန်ရာ ထိုကျောင်းနှင့်ပတ်သက်သော ဒါယကာတို့က နှင်ထုတ်ကြ ပြန်လေသည်။

အရှင် ဓမ္မိကသည် တတိယကျောင်းသို့၊ တစ်ဖန် စတုတ္ထကျောင်းသို့၊ တစ်ဖန် ပဉ္စမကျောင်းသို့၊ နောက်တစ်ဖန် ဆဋ္ဌမကျောင်းသို့၊ ထို့နောက် တစ်ဖန် သတ္တမကျောင်းသို့ အဆင့်ဆင့် ရွှေ့ပြောင်းနေထိုင်၏။ အလားတူ ပြဿနာများ ပေါ်၍ ပေါ်၍ လာသဖြင့် ပြောင်းရွှေ့ရခြင်းဖြစ်၏။

ယင်း သတ္တမမြောက် ကျောင်း၌လည်း၊ အရှင်မဟိံသသည် အာဂန္တု ရဟန်းများကို ဆဲရေးခြင်း၊ ချုပ်ချယ် နှိမ့်ချသော စကားများကို ပြောဆိုခြင်းကြောင့်ပင် နောက်ဆုံး၌ ဇာတိ ဘူမိ အရပ်သားတို့သည် “အရှင်မဟိံသ၊ ဤကျောင်း ခုနစ်ကျောင်းလုံးမှ ထွက်ခွာသွားပါ” ဟု နှင်ထုတ်ကြလေသည်။

ထိုအခါ အရှင်မဟိံသသည် ဂိဇ္ဈကုဋ်တောင်၌ သီတင်းသုံး နေတော်မူသော မြတ်စွာဘုရားထံသို့ သွားရောက်လေ၏။ ဇာတိ ဘူမိအရပ်သား တို့က ကျောင်း ခုနစ်ကျောင်းလုံးမှ နှင်ထုတ် လိုက်ကြောင်း ကိုလည်း လျှောက်ထားလေသည်။

မြတ်စွာဘုရားသည် အရှင်မဟိံသအား ခမ်းမြန်း စုံစမ်းပြီးသောအခါ ဤသို့ မိန့်ကြားတော် မူလေသည်။

## ကမ်းကြည့်ငှက်

“မဟိံသ၊ ရှေး၌ ဖြစ်ခဲ့ဖူး၊ ဆည်အား ကုန်သည် တို့သည် ပင်လယ် သမုဒ္ဒရာကို ဖြတ်ကူးသည်ရှိသော် ကမ်းကြည့်ငှက်ကို ယူဆောင် သွားကြ ကုန်၏၊ လှေ၊ သင်္ဘော တို့သည် ကမ်းသို့ ကပ်လိုသည့်အခါ ကမ်းကို မမြင်နိုင်ကြသည်ရှိသော် ကမ်းကြည့်ငှက်ကို လွှတ်လိုက်ကြကုန်၏၊ ထို ငှက်သည် ကောင်းကင်သို့ ပျံတက်ပြီးလျှင် အရှေ့အရပ်သို့ ပျံသွား၏၊ ကမ်းကို မတွေ့မြင်ရသော် ထိုငှက်သည် လှေ၊ သင်္ဘောသို့သာ ပြန်လည် ဆိုက်ရောက်လာသေး၏။

“ကုန်သည်တို့သည် ထိုငှက်ကို တစ်ဖန် ထပ်၍ စေလွှတ်လိုက်ကြပြန်၏၊ ထိုငှက်သည်လည်း ကောင်းကင်သို့ ပျံတက်ပြီးလျှင် အနောက် အရပ်သို့ ပျံသွား၏၊ ကမ်းကို မမြင်ရသော် လှေ၊ သင်္ဘောသို့သာ ပြန်လည် ဆိုက်ရောက်လာပြန်လေ၏။

“ထိုနည်းအတိုင်းပင် အရပ် ရှစ်မျက်နှာစုံအောင် ပျံသန်းသွားသော ထို ငှက်သည် ကမ်းကို မမြင်မတွေ့ရတိုင်း လှေ၊ သင်္ဘောသို့သာလျှင် ဆိုက် ရောက်လာလေသည်။

“မဟိံသ၊ သင်သည်လည်း ကျောင်းခုနစ်ကျောင်းတို့မှ နှင်ထုတ်ခြင်း ခံရသည်ဖြစ်၍ ငါ့ထံသို့သာလျှင် ရောက်လာ၏။

''သင့်လျှော်ပေ၏ ဓမ္မိက၊ သင့်အတွက် ထိုဇာတိဘူမိ အရပ်၌ နေခြင်းဖြင့် အကျိုးမရှိနိုင်သည်သာလျှင်တည်း။

''ရှေး၌ ဖြစ်ခဲ့သည့် အကြောင်းကို ဟောကြားဦးမည်၊ ကောင်းစွာနာကြားလော့ ဓမ္မိက။

## အသီးချိုသော ညောင်ပင်ကြီး

''ဓမ္မိက၊ ရှေးအခါက ကောရဗျ အမည်ရှိသော မင်း၏ နိုင်ငံ၌ ထူးခြားသော ညောင်ပင်ကြီးတစ်ပင် ရှိခဲ့လေ၏၊ ထို ညောင်ပင်ကြီးသည် အကိုင်းကြီး ငါးကိုင်းရှိလျက် ကြည်နူးမွေ့လျော်ဖွယ်ရာသော အရိပ်လည်း ရှိပေ၏၊ အသီးတို့သည် လွန်စွာကြီးမားလျက် ချိုမြိန် ကောင်းမွန်သော အရသာ ရှိပေ၏။

''ထိုညောင်ပင်ကြီး၏ အကိုင်းတစ်ကိုင်းကို ကောရဗျမင်းနှင့် မောင်းမ မိဿံတို့ သုံးဆောင်ကြ၏၊ အကိုင်းတစ်ကိုင်းကို စစ်သည်ဗိုလ်ပါတို့ သုံးဆောင်ကြ၏၊ အကိုင်းတစ်ကိုင်းကို မြို့သူမြို့သား၊ ရွာသူ ရွာသားတို့ သုံးဆောင်ကြ၏၊ အကိုင်းတစ်ကိုင်းကို ရဟန်း ပုဏ္ဏားတို့ သုံးဆောင်ကြ၏၊ အကိုင်းတစ်ကိုင်းကိုမူ ကျေးငှက် သားသမင်တို့ သုံးဆောင်ကြကုန်၏။

''ဓမ္မိက၊ ထိုညောင်ပင်၏ အသီးတို့ကို မည်သူမျှ စောင့်ရှောက်တားမြစ်ခြင်းရှိပေ၊ တစ်ဦး၏ အသီးကို အခြားသူတစ်ဦးက ဆွတ်ယူစားသုံးခြင်း၊ နှောင့်ယှက်ခြင်းလည်း မရှိပေ၊ စည်းကမ်း စောင့်ထိန်းကြလေသည်။

## အသီးစား အခက်ချိုးခြင်း

''တစ်နေ့သ၌ ယောကျ်ားတစ်ဦးသည် ပညောင်ပင်၏အသီးကို စားသုံးပြီးလျှင် အခက်ကို ချိုးဖဲ့ထားခဲ့လေ၏။

ထိုအခါ ပညောင်ပင်ကို စောင့်သော နတ်သည် အလွန် အံ့ဩခြင်းဖြစ်သွားလေသည်။ ရှေးယခင်က မဖြစ်ခဲ့ဖူးသည်ကို ကြုံတွေ့ရသဖြင့်

စိတ်၌ ထိခိုက်သွားလေသည်၊ 'အလွန်ယုတ်မာသော သူပေတကား၊ အသီးကို စားပြီး အခက်ကို ချိုးဖျက်ခဲ့သူ ပေတကား'ဟုလည်း ရေရွတ်မိလေသည်။

''ထို့နောက် ညောင်ပင်စောင့် နတ်သည် 'ဤမျှလောက် ယုတ်ညံ့သူတို့အား ညောင်သီးမပေးရလျှင် ကောင်းလေစွ'ဟု စိတ်ကူးအကြံ ဖြစ်ပေါ်မိလေ၏။

''ထို့ကြောင့် ညောင်ပင်ကြီးသည် အသီးကို မပေးတော့ပေ၊ ထိုအခါ တောရဗျမင်းသည် သိကြားမင်းထံ 'အရှင် သိကြားမင်း၊ ပညောင်ပင်ကြီးသည် အသီးကို မပေးတော့ပါ' ဟု တိုင်တန်းပြောကြားလေ၏။

''သိကြားမင်းသည် လေကြီး မိုးကြီး ပြင်းထန်စွာ တိုက်ခတ်စေ၍ ညောင်ပင်ကြီးကို လဲကျစေ၏။ ဦးစောက် ပြောင်းပြန် ထောင်နေစေ၏။ ထိုအခါ ညောင်ပင်စောင့်နတ်သည် နေထိုင်ရန် ဘုံဗိမာန် မရှိတော့၍ မှိုင်တွေချ ငိုယိုစေတော့သည်။

''သိကြားမင်းက 'အသင်နတ်သား၊ အသင်၏ညောင်ပင်သည် သစ်ပင်တို့၏ အစဉ်အလာတရား 'ရုက္ခဓမ္မ' နှင့် အညီ တည်ရှိနေပါလျက်နှင့် ယခုကဲ့သို့ လေပြင်းတိုက်ခတ်ကာ ပြိုလဲရခြင်း ဖြစ်သလော' ဟု မေး၏။

''သစ်ပင်တို့၏ အစဉ်အလာတရား 'ရုက္ခဓမ္မ' ဆိုသည်မှာ ဘယ်သို့ပါနည်း'ဟု ညောင်ပင်စောင့်နတ်က မေး၏။

''အသင် ညောင်ပင်စောင့်နတ်၊ ဤလောက၌ သစ်ပင်၏ အရွက်ကို အလိုရှိသူသည် အရွက်ကိုခူး၏၊ အပွင့်-အသီးကို အလိုရှိသူသည် အပွင့်အသီးကိုခူးဆွတ်၏၊ အကိုင်း၊ အခက်၊ အခေါက်ကို အလိုရှိသူသည်အကိုင်း အခက် အခေါက်ကို ချိုးဖြတ်ခွာယူပေ၏၊ ထို သစ်ပင်ကိုစောင့်သော နတ်သည် မနှစ်သက် မလိုလားခြင်း မဖြစ်ထိုက်ပေ၊ တစ်စုံတစ်ရာဆုတ်နစ်တွန့်တိုမှုကို မပြုထိုက်ပေ၊ အသင် နတ်သား၊ ဤသည်လျှင် သစ်ပင်၏ သဘာဝတရား၊ အစဉ်အလာ 'ရုက္ခဓမ္မ' ပေတည်း။

''ဩ ညောင်စောင့်နတ်၊ သင်သည် အကယ်၍ 'ရုက္ခဓမ္မ' ၌တည်သည် ဖြစ်ငြားအံ့၊ သင်၏ ဗိမာန်သည် ရှေးယခင်အတိုင်း ဖြစ်နိုင်ရာ၏' ဟု သိကြားမင်းက ပြောလေသော် 'အရှင်သိကြားမင်း၊ အကျွန်ုပ်သည်

'ရှက်စုံမွေ'၌ တည်ပါအံ့၊ ဗိမာန်ကို ရရှိပါစေ' ဟု နတ်သားက ဝန်ခံ တောင်းပန်လေ၏။

"ထို့နောက် သိကြားမင်းသည် ထိုဓညောင်ပင်ကြီးကို ဦးစောက် ပြောင်းပြန်အဖြစ်မှ ယခင်အတိုင်းတည်ရှိအောင် ဖန်ဆင်းပေးလိုက်လေ၏။

"ဓမ္မိကာ၊ ဤသည်လျှင် သင်သိရန် ဥပမာပေတည်း၊ ဓမ္မိကာ၊ ရဟန်းမည်သည်မှာ ရဟန်းတို့၏ သဘောသဘာဝအစဉ်အလာ 'ဘိက္ခုမွေ'၌ တည်ကုန်၏။ သင်ကား ဇာတိ ဘူမိအရပ် ခုနစ်ကျောင်းလုံးမှ နှင်ထုတ် ကြသည်မှာ ဘယ်သို့နည်း၊ သင်သည် 'ဘိက္ခုမွေ'၌ တည်ပါလျက်နှင့် နှင်ထုတ်ကြသလော" ဟု ဗုဒ္ဓက မေးတော်မူ၏။

"အရှင်ဘုရား၊ ဘိက္ခုမွေ'ဟူသည်မှာ 'ဘယ်သို့ပါနည်း" ဟု အရှင် ဓမ္မိကက ပြန်လည်လျှောက်ကြား၏။

## ဆဲသူကို ပြန်မဆဲနှင့်

"ဓမ္မိကာ၊ ငါဘုရား၏ သာသနာတော်၌ ရဟန်းသည် ဆဲရေးသူကို ပြန်လည် မဆဲရေး၊ ချုပ်ချယ်သူကို ပြန်လည် မချုပ်ချယ်၊ နှိမ့်ချသူကို ပြန်လည် မနှိမ့်ချ၊ ခြိမ်းခြောက်သူကို ပြန်လည် မခြိမ်းခြောက်၊ ဓမ္မိကာ၊ ဤသည် ပင်လျှင် ရဟန်းတို့၏ သဘောသဘာဝ အစဉ်အလာ 'ဘိက္ခုမွေ'ပေတည်း"

"အရှင်ဘုရား ဤသို့ဖြစ်လျှင် တပည့်တော်သည် ဘိက္ခုမွေ'၌ မတည်ခဲ့ပါ၊ မတည်သောကြောင့်သာလျှင် နှင်ထုတ်ခြင်းခံခဲ့ရပါ၏ဘုရား"

"ဓမ္မိကာ၊ အတူနေ သီတင်းသုံးဖော်တို့အား ဆဲရေးခြင်း၊ နှိမ့်ချ ချုပ်ချယ်ခြင်း၊ ခြိမ်းခြောက်ခြင်းသည် မိမိကိုယ်ကို တူးဖြိုခြင်း မည်ပေ၏" ဟု ဟောကြားတော်မူလေ၏။

[ဆက္ကနိပါတ်၊ ဓမ္မိကဝဂ်]

## ဘေးကြီးလေးရပ် အာပတ်လေးဖုံ

သူခိုး တစ်ယောက်သည် ဘုရင့်ရှေ့မှောက်တွင် ရောက်ရှိနေလေ၏။ လူသူအများက ဝိုင်းဝန်းဖမ်းဆီးကာ ခေါ်ဆောင်ခဲ့ခြင်း ဖြစ်လေသည်။

"အရှင်မင်းကြီး၊ ဤသူသည် ခိုးသူ ဖြစ်ပါ၏၊ ခိုးယူနေစဉ် လက်ပူး လက်ကြပ် ဖမ်းမိခြင်း ဖြစ်ပါ၏၊ အပြစ်ပေးတော်မူပါ" ဟု လူသူအများ က လျှောက်ထားကြလေသည်။

"ကောင်းပြီ အချင်းတို့၊ ဤသူခိုးကို လက်ပြန်ကြိုး တုပ်ကြလော့၊ ခေါင်းတုံးရိတ်ကြလော့၊ လမ်းတကာပြပြီး မောင်းခကြားနှင်ခတ်ကာ မြို့ တောင်တံခါးက ထုတ်ကြလော့၊ လူသတ်ကုန်းကို ပို့ပြီး ဦးခေါင်းကို ဖြတ်ကြလော့" ဟု မင်းအာ အမိန့်ထုတ်လိုက်လေသည်။

သက်ဆိုင်ရာ မင်းမှုထမ်းများသည် မင်း၏ အမိန့်အတိုင်း လုပ်ဆောင် ကြ၏ သူခိုးအား သုသာန်၌ ဦးခေါင်းဖြတ်၍ သတ်ပစ်လိုက်ကြသည်။

လူတစ်ယောက်သည် သူခိုး၏ အဖြစ်အပျက် အစအဆုံးကို အတိုင်းသိ ကြည့်ရှုနေ၏။ ထို့နောက် သူ၏ စဉ်းစားမိလေ၏။

"အင်း-သူခိုးသည် မပြုထိုက်သည့် မကောင်းမှုကို ကျူးလွန်၍သောလျှင် ဂုဏ်ပျက် အရှက်ရပြီး မကောင်းသော သေခြင်းဖြင့် သေရလေသည် တကား၊ ငါသည် ဤသူခိုးကဲ့သို့ ယုတ်ညံ့သော မကောင်းမှုကို မကျူး လွန်မိအောင် ထိန်းသိမ်းရပေမည် တကား" ဟု စဉ်းစားမိလေ၏။

ထိုနည်းတူပင်–

ဤသာသနာတော်၌ ရဟန်းသည် ပါရာဇိကအာပတ် (ဝိနည်းသိက္ခာ တို့တွင် အကြီးလေးဆုံးအပြစ်) တို့၌ ကြောက်လန့်ဖွယ်ရာ အားအန္တရာယ် ကြီးပါတကားဟု ပြင်းပြစွာ ရှေးရှုသင်ခဲ့ပါမူ ထိုရဟန်းအား ပါရာဇိက အာပတ် မကျူးလွန်သေးလျှင်လည်း ကျူးလွန်တော့မည် မဟုတ်ပေ။ ကျူးလွန်ပြီး ဖြစ်နေလျှင်လည်း တရား အားလျော်စွာ ထိုအာပတ်ကို ကုစားပေလိမ့်မည်။

တင်းပုတ်ထမ်းသူ

ပြစ်မှု ကျူးလွန်ထားသော လူတစ်ယောက်သည် အဝတ်နက်ကို ဝတ်ရုံ ထား၏။ ဆံပင်များကို ဖရိုဖရဲ ဖြန့်ကြဲထား၏။ တင်းပုတ်ကို ပခုံး၌ ထမ်းထား၏။ ထိုသူသည် ပရိသတ်ရှိရာသို့ ချဉ်းကပ်ကာ ဤသို့ ဝန်ခံစကား ပြောကြား၏။ တောင်းပန်စကားလည်း ပြောကြားလေ၏။

"အို ပရိသတ်တို့၊ အကျွန်ုပ်သည် တင်းပုတ်ဖြင့် ရိုက်ပုတ်ထိုက်သော၊ ကဲ့ရဲ့ထိုက်သော မကောင်းမှုကို ကျူးလွန်မိပါသည်၊ ပရိသတ်တို့ နှစ်သက်သလို အကျွန်ုပ် ပြုလုပ်ပါမည်၊ လိုအပ်သလို ပြောကြားကြပါလော့"

ဤသို့ ပြစ်မှု ကျူးလွန်ထားသူ ပြုမူ ပြောဆိုနေသည်ကို တစ်ယောက်သော လူသည် သတိပြု၍ ကြည့်ရှုနေ၏။ ထို့နောက် ထိုလူအာ စဉ်းစားမိလေ၏။

"အင်း— ဤသူသည် တင်းပုတ်ဖြင့် ရိုက်ပုတ်ထိုက်အောင်၊ ကဲ့ရဲ့ထိုက်အောင် မကောင်းမှုကို ပြုလုပ်ခဲ့လေသည်တကား၊ ထို့ကြောင့်လည်း ထိုသူသည် ပရိသတ်ရှေ့၌ ရှက်ဖွယ်ရာ ပြုမူ ပြောဆိုနေရလေသည်တကား၊ ငါသည် ထိုကဲ့သို့ ကဲ့ရဲ့ထိုက်သော မကောင်းမှုကို မပြုလုပ်မိအောင် စောင့်ထိန်းရပေမည် တကား"

ထိုနည်းတူပင်—

ဤသာသနာတော်၌ ရဟန်းသည် သံဃာဒိသိသ်အာပတ် (ဝိနည်းသိက္ခာတို့တွင် ဒုတိယအကြီးလေးဆုံး အပြစ်) တို့၌ ကြောက်လန့်ဖွယ်ရာ ဘေးအန္တရာယ်ကြီးပါတကားဟု ပြင်းပြစွာ ရှေးရှု ထင်မြင်ခဲ့ပါမူ ထိုရဟန်းအား သံဃာဒိသိသ်အာပတ် မကျူးလွန်သေးလျှင်လည်း ကျူးလွန်ဘော့မည် မဟုတ်ပေ။ ကျူးလွန်ပြီး ဖြစ်နေလျှင်လည်း တရားအားလျော်စွာ ထိုအာပတ်ကို ကုစားပေလိမ့်မည်။

## ပြာထုပ်ထမ်းသူ

ပြစ်မှုကျူးလွန်ထားသော လူတစ်ယောက်သည် အဝတ်နက်ကို ဝတ်ရုံထား၏။ ဆံပင်ကို ဖရိုဖရဲ ဖြန့်ကြဲထား၏။ ပြာထုပ်ကို ပခုံး၌ ထမ်းထား၏။ ထိုသူသည် ပရိသတ်ရှိရာသို့ ချဉ်းကပ်ကာ ဤသို့ ဝန်ခံစကား ပြောကြား၏။ တောင်းပန်စကားလည်း ပြောကြားလေ၏။

"အို ပရိသတ်တို့၊ အကျွန်ုပ်သည် ပြာထုပ်ဖြင့် ဦးခေါင်းကို ရိုက်ပုတ်ထိုက်သော၊ ကဲ့ရဲ့ထိုက်သော မကောင်းမှုကို ပြုမိပါပြီ၊ ပရိသတ် နှစ်သက်သလို အကျွန်ုပ် ပြုလုပ်ပါမည်၊ လိုအပ်သလို ပြောကြားကြပါကုန်လော့"

ဤသို့ ဖြစ်မှု ကျူးလွန်ထားသူ ပြုမူပြောဆိုနေသည်ကို တစ်ယောက်သော လူသည် သတိပြု၍ ကြည့်ရှုနေ၏၊ ထို့နောက် ထိုလူသာ စဉ်းစားမိလေ၏။

"အင်း–ဤသူသည် ပြာတုံဖြင့် ဦးခေါင်းကို ရိုက်ပုတ် ထိုက်အောင်၊ ကဲ့ရဲ့ထိုက်အောင် မကောင်းမှုကို ပြုလုပ်ခဲ့သေသည်တကား၊ ထို့ကြောင့်လည်း ထိုသူသည် ပရိသတ်ရှေ့၌ ရှက်ဖွယ်ရာ ပြုမူပြောဆို နေရလေသည်တကား၊ ငါသည် ထိုသူကဲ့သို့ ကဲ့ရဲ့ထိုက်သော၊ မကောင်းမှုကို မပြုလုပ်မိအောင် စောင့်ထိန်းရပေမည် တကား"

ထိုနည်းတူပင်–

ဤသာသနာတော်၌ ရဟန်းသည် ပါစိတ်အာပတ် (ဝိနည်းသိက္ခာတို့အား တတိယ အကြီးသေးဆုံးအပြစ်) တို့၌ ကြောက်လန့်ဖွယ်ရာ ဘေးအန္တရာယ်ကြီးပါတကားဟု ပြင်းပြစွာ ရှေးရှု ထင်မြင်ခဲ့ပါမူ ထိုရဟန်းသည် ပါစိတ် အာပတ်ကို မကျူးလွန်သေးလျှင်လည်း၊ ကျူးလွန်တော့မည် မဟုတ်ပေ။ ကျူးလွန်ပြီး ဖြစ်နေလျှင်လည်း တရားအားလျော်စွာ ထိုအာပတ်ကို ကုစားပေလိမ့်မည်။

## အဝတ်မည်းနှင့် ဖရိုဖရဲ ဆံပင်

ဖြစ်မှုကျူးလွန်ထားသော လူတစ်ယောက်သည် အဝတ်နက်ကို ဝတ်ရုံထား၏။ ဆံပင်ကို ဖရိုဖရဲ ဖြန့်ကြဲထား၏။ ထိုသူသည် ပရိသတ်ရှိရာသို့ ချဉ်းကပ်အာ ဤသို့ ဝန်ခံစကား ပြောကြားလေ၏။ တောင်းပန်စကားလည်း ပြောကြားလေ၏။

"အို၊ ပရိသတ်တို့၊ အကျွန်ုပ်သည် စွပ်စွဲထိုက်၊ ကဲ့ရဲ့ထိုက်သည့် မကောင်းမှုကို ကျူးလွန်မိပါသည်၊ ပရိသတ်တို့ နှစ်သက်သလို အကျွန်ုပ် ပြုလုပ်ပါမည်၊ လိုအပ်သလို ပြောကြားပါလော့"

ဤသို့ ဖြစ်မှုကျူးလွန်ထားသူ ပြုမူပြောဆိုနေသည်ကို တစ်ယောက်သော လူသည် သတိပြု၍ ကြည့်ရှုနေ၏။ ထို့နောက် ထိုလူက စဉ်းစားမိလေ၏။

"အင်း ဤသူသည် စွပ်စွဲထိုက်၊ ကဲ့ရဲ့ထိုက်အောင် မကောင်းမှုကို ပြုလုပ်ခဲ့လေသည်တကား၊ ထို့ကြောင့်လည်း ထိုသူသည် ပရိသတ်ရှေ့၌ ရှက်ဖွယ်ရာ ပြုမူပြောဆိုနေရလေသည်တကား၊ ငါသည် ထိုသူကဲ့သို့ ကဲ့ရဲ့ထိုက်သော မကောင်းမှုကို မပြုလုပ်မိအောင် စောင့်ထိန်းရပေမည် တကား"

ထိုနည်း၊တူပင်–

ဤသာသနာတော်၌ ရဟန်းသည် ပါဠိမောက္ခအာပတ် (ဝိနည်း သိက္ခာတို့တွင် စတုတ္ထအကြီးဆုံးအပြစ်) တို့၌ ကြောက်လန့်ဖွယ်ရာ ဘေး အန္တရာယ်ကြီးပါတကားဟု ပြင်းပြစွာ ရှေးရှု ဆင်ခြင်ခဲ့ပါမူ ထိုရဟန်း သည် ပါဠိမောက္ခ အာပတ်ကို မကျူးလွန်သေးလျှင်လည်း ကျူးလွန် တော့မည် မဟုတ်ပေ။ ကျူးလွန်ပြီး ဖြစ်နေလျှင်လည်း တရားအား လျော်စွာ ထိုအာပတ်ကို ကုစားပေလိမ့်မည်။

[စတုက္ကနိပါတ်၊ အာဝဇ္ဇသုတ်]

## လူမွဲတို့၏ ထွက်ရပ်လမ်း

ဤလောက၌ ကိုယ်ပိုင်ဥစ္စာ မရှိသော လူမွဲသည် ကြွေးယူရ၏။ ငွေချေး ငှားရ၏။ ကြွေးယူ ချေးငှားရာ၌ အတိုးပေးပါမည်ဟု ဝန်ခံရ၏။ ဝန်ခံသည့်အတိုင်း မပေးဆပ်နိုင်သော် ကြွေးရှင်တို့က တောင်းဆို၏။ တောင်းဆို၍ မပေးဆပ်နိုင်သော် ကြွေးရှင်တို့သည် ထိုသူ၏ နောက်သို့ လိုက်ကြကုန်၏။ အဖန်ဖန်လိုက်၍ တောင်းဆိုသော်လည်း မပေး ဆပ်နိုင်။ ထို့ကြောင့် ထိုသူကို ဖမ်းဆီးချုပ်နှောင်ကြကုန်၏။

ဤသို့လျှင် ကိုယ်ပိုင်ဥစ္စာမရှိသော လူမွဲသည် ဆင်းရဲပင်ပန်းခြင်း၊ နှလုံးမသာယာခြင်း၊ ကြောင့်ကြ ပူပန်ခြင်းတို့ဖြင့် နှိပ်စက်ခံရလေ၏။

တစ်စုံတစ်ယောက်သော သူသည် မှန်ကန် ကောင်းမွန်သော ကျင့်ဝတ် လမ်းစဉ်၌ ယုံကြည်မှုသဒ္ဓါ မရှိသည် ဖြစ်အံ့၊ မကောင်းသော ပြုလုပ်မှု၌ ရှက်ခြင်း–ကြောက်ခြင်း ဟူသော ဟိရီဩတ္တပ္ပမရှိသည် ဖြစ်အံ့၊ လုံ့လ မရှိ– ကောင်းမြတ် စင်ကြယ်သည့် လုပ်ဆောင်ဖွယ်တို့၌ အားထုတ်

ကြိုးစားခြင်း ဟူသော ဝီရိယ မရှိသည်ဖြစ်အံ့၊ အကြောင်း၊ အကျိုး၊ အကောင်းအဆိုးနှင့် အမှား အမှန်တို့ကို ဆင်ခြင်သိတတ်မှု ဟူသော ပညာမရှိသည် ဖြစ်အံ့၊ ထိုသူကို ကိုယ်ပိုင်ဥစ္စာမရှိသော လူမွဲဟု ဆိုရလေ၏။

ယင်းသည့် သဒ္ဓါ၊ ဟိရီ၊ ဩတ္တပ္ပ၊ ပညာ ဟူသော ကိုယ်ပိုင်ဥစ္စာမရှိသူ၏ မကောင်းမှု ဒုစရိုက်တို့ကို ပြုကျင့်ခြင်းသည် ကြွေးယူ ချေးငှားခြင်း မည်၏။

'ထိုသူအား မကောင်းမှု ဒုစရိုက်တို့ကို ကျူးလွန်သူတည်း' ဟူ၍ အခြားသူတို့က ပြောဆိုခံရခြင်းသည် ကြွေးတောင်းခံရခြင်း မည်၏။

ထိုသူ သွားလာ လုပ်ကိုင်လှုပ်ရှားလေရာတိုင်း၌ မကောင်းမှု ဒုစရိုက်ကြောင့် စိတ်နှလုံး မသာယာခြင်း၊ ပင်ပန်းဆင်းရဲခြင်း ဖြစ်ရ၏။ ဤသို့ ဖြစ်ရခြင်းသည် ကြွေးရှင်တို့နောက်က လိုက်ခြင်းမည်၏။

ထိုသူသည် မိမိပြုခဲ့သော မကောင်းမှုဘို့ကြောင့် မကောင်းပြစ် ကျရောက်ခံရ၏၊ မကောင်းမှု၏ ဖိစီးနှိပ်စက်ခြင်းကို ခံရ၏။ ဤသို့ ခံရခြင်းသည် ကြွေးရှင်တို့က ဖမ်းဆီးချုပ်နှောင်ခြင်းကိုခံရသည် မည်ပေ၏။

လူမွဲတို့သည် ကိုယ်ပိုင်ပစ္စည်းဥစ္စာရှိနေလျှင် ကြွေးယူ ချေးငှားရခြင်း၊ ကြွေးတောင်းခံရခြင်း၊ ကြွေးရှင်တို့အလိုက်ခံရခြင်း၊ အချုပ်အနှောင် ခံရခြင်း၊ ဟူသော ဆင်းရဲပင်ပန်းမှုမှ လွတ်ကင်း၊ ချမ်းသာပေမည်တည်း။

သဒ္ဓါ၊ ဟိရီ၊ ဩတ္တပ္ပ၊ ဝီရိယ၊ ပညာဟူသော 'မွေ့ဥစ္စာ' ကိုယ်ပိုင် ရှိသူသည်လည်း မကောင်းသောအပြုအမူတို့ကို ရှောင်ကြဉ် ထိန်းသိမ်းသဖြင့် ကောင်းကျိုးချမ်းသာကို ရရှိခံစားရပေမည်တည်း။

[—ဇူဏသုတ်]

## ကြက်တောင် ကြက်မွေး

ဤလောက၌ ခန္ဓာငါးပါးကို မတင့်တယ် ဟူ၍ လည်းကောင်း၊ ရွံရှာဖွယ် ဟူ၍ လည်းကောင်း ရှုမြင်အပ်သော အသုဘ ကမ္မဋ္ဌာန်းဖြစ်၍ အဖန်

တလဲလဲ ဆင်ခြင်သုံးသပ်သော သူသည် မေထုန်အကျင့်ကို မလိုလားပေ။ မေထုန်ကျင့်ရမည်ကို ရွံ၏။ တွန့်ဆုတ်၏။

ဥပမာသော်ကား ကြက်တောင် ကြက်အမွှေးကိုလည်းကောင်း၊ အကြောထုံးကိုလည်းကောင်း မီးကျီး၌ ချသည်ရှိသော် ပြန့်ခြင်း၊ ပွားခြင်းမရှိပေ။ ထိုကြက်တောင် ကြက်မွှေးအကြောထုံးတို့သည် တွန့်ဆုတ်သည်သာတည်း။ ရှုံ့တွသည်သာတည်း။

[–သတ္တကနိပါတ်၊ ဒုတိယ သညာသုတ်]

## သေမင်း၏ ကျော့ကွင်း

အမျက်ဒေါသ ထွက်လေ့ရှိသူသည် ပြုလုပ်ရန် မလွယ်ကူသည့် ကိစ္စကိုပင် အလွယ်တကူ မှားယွင်းစွာ ပြုလုပ်မိကတတ်၏။ ထိုသူသည် အမျက် ဒေါသ မပြေပျောက်သွားသည့်အခါ၌ မီးလောင်ခံရသူကဲ့သို့ နောင်တ ပူပန်ခြင်း ဖြစ်ရ၏။

အမျက် ဒေါသ ထွက်လျက်ရှိသူ၏ မျက်နှာသည် သန့်ရှင်း ကြည်လင်ခြင်း မရှိ၊ တဖွဲဖွဲ တောက်ပခြင်းလည်း မရှိ၊ မီးခိုး တအူအူ ထွက်၍နေသော မီးပုံ ကဲ့သို့တည်း။

အမျက် ဒေါသ ထွက်လျက်ရှိသူသည် မိမိ၏ အကျိုးစီးပွားကိုလည်း ဖျက်ဆီးတတ်ပေ၏။ မိမိကိုယ်ကို သေစေတတ်သည့် အကြောင်းကိုပင် အမှန်အတိုင်း မသိမြင်တတ်ပေ။ ထို့ကြောင့် အမျက်ဒေါသ ဟူသည် သေမင်း၏ ကျော့ကွင်းနှင့် တူပေ၏။

[–သတ္တကနိပါတ်၊ ကောဓနသုတ်]

## အလကား မလိုချင်နှင့်

ကြက်မသည် မိမိ၏ ဥများကို ထက်ဝန်းကျင်မှ ကောင်းစွာ ဝပ်ပေးရ၏။ အငွေ့ကိုလည်း ပေးရ၏။ သို့မှသာလျှင် ဥတွင်းရှိ ကြက်ငယ်ကလေးများသည် အချိန်တန်သော် ကောင်းစွာပေါက်ဖွားလာနိုင်၏၊

ထိုကြက်မသည် မိမိ၏ ဥများကို ကောင်းမွန်စွာ ဝပ် မပေးမူဘဲ၊ အနွေးအနံ့ကိုလည်း မပေးမူဘဲ 'ငါ၏ ကြက်ငယ်တို့သည် နှုတ်သီးဖြင့်လည်းကောင်း၊ ခြေသည်းတို့ဖြင့် လည်းကောင်း ဥခွံကို ဖောက်ခွဲပြီး ပေါက်ဖွားလာပါမူ ကောင်းလေစွ'ဟု လိုချင် တောင့်တသော်သည်း ထိုသို့ကား ဖြစ်မလာပေ။ ကြက်ငယ်ကလေးများသည် ဥခွံ၏ အပြင်သို့ ဖောက်ထွက် မလာနိုင်ပေ။

ထိုနည်း အတူပင် အကြွင်းသူသည် ပွားများအပ်သော ဘာဝနာ တရားကို အားထုတ် ကျင့်သုံးခြင်း မပြုမူဘဲ 'ငါသည် လောဘ၊ ဒေါသ၊ တဏှာ၊ ဒိဋ္ဌိ၊ ကိလေသာ အညစ်အကြေး တို့မှ ကင်းစင် ကုန်ခန်းရပါမူ ကောင်းလေစွ' ဟု တောင့်တ မျှော်လင့်ပါသော်လည်း အချည်းနှီး သာလျှင်တည်း။

[=ဘာဝနာသုတ်]

## ပုဆိန်ရိုး

ဗိသုကာ လက်သမားသည် ပဲခွပ်ဖြင့် သစ်သားတို့ကို ခုတ်လေ့ ရှိ၏၊ ပဲခွပ်ရိုး၌ လက်သမား၏ လက်ချောင်းရာ လက်မရာ တို့သည် ပွန်းထင်ကုန်၏။

ထို လက်သမားသည် ယနေ့ ငါ၏ ပဲခွပ်ရိုး ဤမျှလောက် ပွန်းသွားပြီ ဟူ၍ကား မသိပေ။ ယခင့် ယခင် နေ့များက ဤမျှ ထိုမျှလောက် ပွန်းသွားပြီ ဟူ၍ကား မသိပေ။ ယခင့်ယခင် နေ့များက ဤမျှ မျှထိုလောက် ပွန်းခဲ့သည် ဟူ၍လည်းမသိပေ။ ပဲခွပ်ရိုးသည် အစဉ်သဖြင့် ပွန်းခဲ့ ထင်ခဲ့ သောကြောင့် ကုန်ဆုံးသွားမှသာလျှင် ထိုလက် သမားသည် 'ငါ၏ ပဲခွပ်ရိုးကား ကုန်လေပြီ' ဟု သိလေ၏။

ဤအတူပင် ပွားများ အပ်သော ဘာဝနာ တရားကို အားထုတ် ကျင့်သုံးသော ပုဂ္ဂိုလ်သည် 'ငါအား ကိလေသာ အညစ်အကြေး သည် ယနေ့ မည်မျှလောက် ကင်းစင် သွားပြီ' ဟူ၍ လည်းကောင်း၊ 'ယမန် နေ့က မည်မျှလောက် ကင်းစင် ခဲ့သည်' ဟူ၍ လည်းကောင်း၊ 'ယခင့် ယခင် နေ့များက ဤမျှ ထိုမျှလောက် ကင်းစင်ခဲ့သည်' ဟူ၍ လည်းကောင်း မသိမြင်ပေ။

စင်စစ်အားဖြင့် ထိုပုဂ္ဂိုလ်သည် ကိလေသာ အညစ်အကြေးတို့ ကင်းစင်ရာ၌ 'ကင်းစင်ပြီ' ဟူ၍ သာလျှင် သိနိုင်လေ၏။

[=ဘာဝနာသုတ်]

# မီးပုံကြီးကို မြင်လေသော်

ဗုဒ္ဓမြတ်စွာသည် နောက်ပါ ရဟန်းများနှင့် အတူ ကောသလတိုင်း၌ ဒေသစာရီ လှည့်လည်တော်မူစဉ် အခါ ဖြစ်၏။

ကောသလတိုင်း တစ်နေရာသို့ ရောက်တော်မူလေသော် မီးတောက် မီးလျှံ ကြီးမား အားကောင်းလှသော မီးပုံကြီး တစ်ပုံကို တွေ့ရှိလေ၏။ ထိုအခါ ဗုဒ္ဓသည် မီးပုံကြီးကို ရှောင်ကွင်းကာ သစ်ပင်တစ်ပင်အောက်သို့ သွားရောက် နေထိုင်တော်မူလျက် ရဟန်းတို့အား ခေါ်တော်မူလေ၏။

"ရဟန်းတို့၊ ထိုင်ကြကုန်လော့၊ မီးပုံကြီးကို ကြည့်ကြကုန်လော့၊ အလွန် ပူပြင်းစွာ တောက်လောင်နေသော မီးပုံကြီးကို မြင်ကြကုန်သည် မဟုတ်ပါလော"

"အရှင်မြတ်ဘုရား၊ မြင်ကြပါကုန်၏" ဟု ရဟန်းများက လျှောက်ကြားကုန်၏။

"ရဟန်းတို့၊ အလွန်တောက်လောင်လျက်ရှိသော ဤမီးပုံကြီး အနီး၌ ကပ်၍ ထိုင်ရခြင်း၊ အိပ်ရခြင်းနှင့် လှပ သိမ်မွေ့သော မိန်းမပျို၏ အနီး၌ ကပ်၍ ထိုင်ရခြင်း၊ အိပ်ရခြင်းသည် မည်သည်က ပို၍ ဆင်းရဲသနည်း"

"အရှင်ဘုရား၊ မီးပုံကြီးအနီး၌ ကပ်၍ ထိုင်ရခြင်း၊ အိပ်ရခြင်းသည် ဆင်းရဲလှပါ၏။

## မီးပုံကြီးနှင့် မိန်းမပျို

"ရဟန်းတို့၊ သင်တို့အား သိမြင်စေရန် ဟောကြားပေအံ့၊ ကိလေသာ ကာမဂုဏ်ကို မစွန့်ပယ်ရသေးသော၊ အကျင့်သီလ၌ စင်ကြယ် သန့်ရှင်းခြင်း မရှိသေးသော အကြင် ရဟန်းအဖို့ မီးပုံကြီးအနီး၌ ကပ်၍ နေထိုင်ရခြင်း၊ အိပ်ရခြင်းသည် ဆင်းရဲသည် မမည်ပေ၊ ထို ဆင်းရဲခြင်းဖြင့် သေသော်လည်း သေပေမည်၊ သေလုနီးပါးသော်လည်း ဆင်းရဲ ပင်ပန်းရပေမည်။

"ရဟန်းတို့၊ ထို ရဟန်းအဖို့ လှပ သိမ်မွေ့သော မိန်းမပျိုတို့၏ အနီး၌ ထိုင်ရခြင်း၊ အိပ်ရခြင်းသည်သာလျှင် ဆင်းရဲခြင်း မည်ပေ၏။

"ရဟန်းတို့၊ ထို ရဟန်းသည် မိန်းမပျို၌ ကပ်ငြိ တွယ်တာမှု ကိလေသာ နှောင်ကြိုးကြောင့် မရေမတွက်နိုင်အောင် များပြားသော အကုသိုလ်

တရားတို့ တိုးပွားလာနိုင်၏၊ မကောင်းသော ဂတိသို့ အဝ များစွာ လားရောက်နိုင်ပေ၏၊ ထို့ကြောင့် မီးပုံကြီးအနီး၌ ကပ်၍ ထိုင်ရခြင်း၊ အိပ်ရခြင်းသည် ဆင်းရဲသည်ဟု မဆိုနိုင်သည်သာလျှင်တည်း။

## ရှိခိုးခံ လှံထိုးခံ

"ရဟန်းတို့၊ သင်တို့အား ဟောကြားဦးအံ့၊ ကောင်းစွာ နာကြားကြကုန်လော့။

"အကျင့်သီလသန့်ရှင်းစင်ကြယ်ခြင်း မရှိဘဲလျက် ရဟန်းအဖြစ် ခံယူထားသော အကြင်ပုဂ္ဂိုလ်သည် လူ ဒါယကာ ဒါယိကာမတို့က ရှိခိုးသည်ကို သာယာခြင်းအံ့၊ ထိုပုဂ္ဂိုလ်သည် ချွန်ထက်လှသော လှံတံဖြင့် ရင်ဝကို အထိုးခံလိုက်ရခြင်းထက် ပိုမို၍ အကျိုးဆုတ်ယုတ်၏၊ ပိုမို၍ဆုံးရှုံးပျက်စီးရလတ္တံ့။

## သင်္ကန်းနှင့် သံပူပြား

"အကျင့်သီလ သန့်ရှင်း၊ စင်ကြယ်ခြင်း မရှိဘဲလျက် ရဟန်းအဖြစ်ခံယူထားသော အကြင်ပုဂ္ဂိုလ်သည် ဒါယကာ၊ ဒါယိကာမတို့ လှူဒါန်းအပ်သော သင်္ကန်းကို ဝတ်ရုံခြင်းအံ့၊ ထိုပုဂ္ဂိုလ်သည် ရဲရဲတောက်ညီးလျက်ရှိသော သံပူပြားကို ရစ်ပတ်ထားခြင်းထက် ပိုမို၍ အကျိုးဆုတ်ယုတ်၏၊ ပိုမို၍ ဆုံးရှုံး ပျက်စီးရလတ္တံ့။

## ဆွမ်းနှင့် သံတွေခဲ

"အကျင့်သီလ မစင်ကြယ်သော အကြင် ရဟန်းသည် ဒါယကာ၊ ဒါယိကာမတို့ ပေးလှူသော ဆွမ်း၊ ခဲဖွယ်ကို စားသုံးခြင်းအံ့၊ ထိုရဟန်းသည် ရဲရဲညီးညီး မီးဖုတ်ထားသော သံတုံး သံခဲကို စားမျိုရခြင်းထက် ပိုမို၍ အကျိုးဆုတ်ယုတ်၏၊ ပိုမို၍ ဆုံးရှုံး ပျက်စီးရလတ္တံ့။

## ကျောင်းနှင့် သံဒယ်အိုး

"အကျင့်သီလ မစင်ကြယ်သော အကြင်ရဟန်းသည် ဒါယကာ၊ ဒါယိကာမတို့ ဆောက်လုပ်လှူဒါန်းသော ကျောင်းသင်္ခမ်း၊ အိပ်ရာ၊ ခုတင်ကို သုံးဆောင်မှီဝဲခြင်းအံ့၊ ထိုရဟန်းသည် ပွက်ပွက်ဆူလျက်ရှိသော သံဒယ်

အိုးဆဲ၌ မြုပ်လိုက် ပေါ်လိုက်ဖြစ်နေခြင်းထက် ပိုမို၍ အကျိုးဆုတ်ယုတ်၏၊ ပိုမို၍ ဆုံးရှုံး ပျက်စီးရလတ္တံ့။

## ရဟန်းတရား စင်ကြယ်ပါ

"ရဟန်းတို့၊ သင်တို့သည် လူဒါနီးပြုစုသူ ဒါယကာ ဒါယိကာမတို့အား ကောင်းမှု၏ အကျိုးကျေးဇူးသည် များစေရာသည်တည်း၊ ပွားစေရာသည်တည်းဟု ကျင့်သုံးရမည်၊ မိမိတို့အားလည်း ကောင်းမှု၏ အကျိုးကျေးဇူးသည် များစေရာသည်တည်း၊ ပွားစေရာသည်တည်းဟု ကျင့်သုံးရမည်၊ အကျင့်သီလ၌ စင်ကြယ် သန့်ရှင်းစေရမည်"

ယင်းသို့ ဗုဒ္ဓသည် ဥပမာအားဖြင့် ဟောကြားတော် မူသောအခါ အချို့သော ရဟန်းသည် ကျင့်သုံးရန် ခက်ခဲလှ၏၊ မတတ်နိုင်သည်သာ တည်း'ဟု ပြောကြားလျက် လူထွက် လဲကြလေ၏။

အချို့သော ရဟန်းတို့ကား အကျင့်၌ မဆောင်ရွက်နိုင်ခဲ့သဖြင့် အလွန်ထိတ်လန့်သော စိတ် ထိခိုက် ကြကုန်လျက် ရောဂါ ကပ်ရောက်သွားကြလေ၏။

အချို့သော ရဟန်းတို့ကား ဗုဒ္ဓ ဟောကြားချက်အတိုင်း ကျင့်သုံး ဆောက်တည်မည်ဟု သဒ္ဓါတရား ဖြစ်ပေါ်အား ရဟန်းတရားကို ဆက်လက်၍ ပွားများ အားထုတ်ကြလေ၏။

[မဟာဝဂ်၊ အဂ္ဂိက္ခန္ဓောပမသုတ်]

## ခန္ဓာကိုယ် အိုင်းအမာ

အနာဖေးယောင်း၊ အနာဆွေးကြီးတစ်ခု ရှိသည်ဆိုပါတော့၊ ထိုကြီးမားသော အနာကြီးသည် နှစ်ကာလကြာညောင်းပြီးဖြစ်၍ ဆွေးပုပ် ပြည်ပုပ်တို့ဖြင့် ပြည့်လျှံနေလျက် ရှိရာ၏။ 'အိုင်းအမာ'ဟုသည်၊ အမည်တွင်လေသည်။

ထိုအိုင်းအမာကြီး၌ တစ်စုံတစ်ယောက်ကမျှ ဖောက်လုပ်ခြင်း မပြုဘဲ

ထိုအခေါက် ကိုးပေါက်တို့မှ တင်စုံဘစ်ရာ ယိုကျသည်ဟု ဆိုလျှင် ဘယ်ကဲ့သို့သော အရာဝတ္ထုမျိုးဖြစ်မည်နည်း။

ရွံရှာ စက်ဆုပ်ဖွယ်ရာသော၊ မစင်ကြယ် မသန့်ရှင်းသော၊ ညှီပုပ် နံစော်သော အရာဝတ္ထုသာလျှင် ဖြစ်နိုင်ပေ၏။

ဤ၌ 'အိုင်းအမာ' ဟူသည်မှာ ခန္ဓာကိုယ်၏ အမည်တည်း။ အိုင်း အမာ၌ အလိုအလျောက် ဖြစ်ပေါ်လျက်ရှိကြသော အပေါက်ကိုးပေါက် ဟူသည်မှာ ခန္ဓာကိုယ်၌ အလိုအလျောက် ဖြစ်ပေါ်နေသော 'ဒွါရ ကိုး ပေါက်' ၏ အမည်တည်း။

ခေတ်လေးပါး အစုအဝေးဖြစ်သော ခန္ဓာကိုယ်၏ မျက်စိ၊ နှာခေါင်း၊ နား၊ ပါးစပ်၊ ဝစ္စမဂ်၊ ပဿာဝမဂ်ဟူသော ဒွါရကိုးပေါက်တို့မှ ယိုကျ စီးထွက်သော အရာဝတ္ထုတို့သည် ရှိလေ၏။

ထိုအရာဝတ္ထုတို့သည် မည်သို့သော သဘော ရှိလေသနည်း။ စက်ဆုပ် ရွံရှာဖွယ်ရာသော၊ မစင်ကြယ် မသန့်ရှင်းသော၊ ပုပ်ညှီ နံစော်သော အရာ ဝတ္ထုများ သာတည်း။ မျက်ချေး၊ နဖာချေး၊ နှပ်၊ ချွဲ၊ သလိပ်၊ တံတွေး၊ ကျင်ကြီး ကျင်ငယ်တို့သာလျှင်တည်း။

[နဝကနိပါတ်၊ ဂဏ္ဍသုတ်]

## ရောဂါနှင့်ဆေး

ဆေးသမားသည် သွေး၊ သည်းခြေ၊ လေ၊ သလိပ်တို့ကြောင့် ဖြစ်ပွားသော အနာရောဂါများ၊ ပျောက်ကင်းစေခြင်းငှာ ဝမ်းနုတ်ဆေးကို ပေး၏။

ထို ဝမ်းနုတ်ဆေးသည် အနာရောဂါ ပျောက်ကင်းခြင်းငှာ ကိစ္စ ပြီးသည်လည်းရှိ၏။ ကိစ္စမပြီးသည်လည်း ရှိပေ၏။

အပြစ်တည်းဟူသော အနာရောဂါကို ပယ်ထုတ် သန့်စင်တတ်သည့် တရားတည်းဟူသော ဝမ်းနုတ်ဆေးသည်လည်း ရှိသည်သာတည်း။

ထို တရားတည်းဟူသော ဝမ်းနုတ်ဆေး သည်ကား ကိစ္စပြီးသည်

ထို တရားတည်းဟူသော ဝမ်းနုတ်ဆေးကြောင့် ပဋိသန္ဓေနေခြင်း သဘောရှိသူသည် ပဋိသန္ဓေနေရခြင်းမှ လွတ်မြောက်နိုင်၏။

အိုခြင်း၊ နာခြင်း၊ သေခြင်း သဘောရှိသူသည် အို-နာ သေခြင်းတို့မှ လွတ်မြောက်နိုင်၏။ စိုးရိမ်ခြင်း၊ ငိုကြွေးခြင်း၊ နှလုံးမသာယာခြင်း၊ ပင်ပန်းဆင်းရဲခြင်းတို့မှ လွတ်မြောက်နိုင်သည် သာလျှင်ဖြစ်၏။

ထို တရားတည်းဟူသော ဝမ်းနုတ်ဆေးသည်ကား အဘယ်နည်း။

မှန်ကန်သော အမြင်၊ မှန်ကန်သော အကြံအစည်၊ မှန်ကန်သော စကား၊ မှန်ကန်သော ပြုလုပ်မှု၊ မှန်ကန်သော အသက်မွေးမှု၊ မှန်ကန်သော ကြိုးစားမှု၊ မှန်ကန်သော သတိ၊ မှန်ကန်သော တည်ကြည်မှု၊ မှန်ကန်သော ဉာဏ်အသိ၊ မှန်ကန်သော လွတ်မြောက်မှုတို့ပေတည်း။

ဤမှန်ကန်သော လမ်းစဉ် တရားရှိသူသည် မှားယွင်းသော လမ်းစဉ်ကို ပယ်နုတ်ပြီး ဖြစ်၏။ ယုတ်ညံ့သော အကုသိုလ်တရားတို့ကိုလည်း ပယ်နုတ်ပြီး ဖြစ်လေ၏။ ဤမှန်ကန်သော လမ်းစဉ်တရားတို့ကြောင့် စင်ကြယ်သော ကုသိုလ်တရားကို ပွားများ ပြည့်စုံခြင်းသို့ရောက်လေ၏။

..[ဒသကနိပါတ်၊ တိကိစ္ဆကသုတ်]

## မိုးနေ့ခန်းမှ သုသာန်သို့

လူ့ဘို၏အသက်သည် နည်းပါးလှ၏။ တိုတောင်းလှ၏။ သစ်ပင်ဖျား၌ ကျရောက်သော ဆီးနှင်းပေါက်သည် နေထွက်သာလျှင် ပျောက်ကွယ် သကဲ့သို့တည်း။

ရေကန်ထဲသို့ မိုးပေါက်ကျသော် ရေပွက်သည် ဖြစ်ပေါ်လျက် ခဏ ချက်ချင်း ပျောက်ကွယ် သကဲ့သို့တည်း။

ရေထဲ၌ တုတ်ဖြင့်ရိုက်ခတ်သည်ရှိသော် ပေါ်လာသော အရေး အကြောင်းသည် လျင်မြန်စွာ ကွယ်ပျောက်သကဲ့သို့တည်း။

တောင်ထိပ်မှ အဟုန်ပြင်းစွာ စီးသင်းကျလာသော ရေ အလျဉ် ကဲ့သို့တည်း။

တံခွန်တွေးကို လျှော့ဖျော်၍ စုရုံးကာ တွေးထုတ်လိုက် သကဲ့သို့တည်း။

ရဲရဲတောက်နေသော မီးဖိုပေါ်၌ ကြာမြင့်စွာတင်ထားသည့် သံအိုးဆောင်း ထဲသို့ အသားတုံးကို ပစ်ချလိုက်သကဲ့သို့တည်း။

လူတို့သည် မွေးဖွားလာပြီးနောက် မုချ သေဆုံးကြရ၏။ မသေ ဆုံးခြင်းဟူ၍ မရှိပေ။

ထို့ကြောင့် လူ့ဘဝသည် ဆီးနှင်းပေါက်နှင့်တူ၏၊ ရေပွက်နှင့် တူ၏၊ ရေရုပ်နှင့် တူ၏၊ တောင်ကျချောင်းရေနှင့် တူ၏၊ တံခွန်ပေါက် နှင့် တူ၏။ အသားတစ်နှင့် တူ၏၊

ဘာသက်ခံရမည့် နွားသည် သားသတ်ရုံသို့ ဆွဲငင်ယူဆောင်ခြင်း ခံရ ရာ၌ ခြေလှမ်းတိုင်းသည် သားသတ်ရုံနှင့် နီး၍နီး၍ လာသကဲ့သို့ လူတို့ သည်လည်း မိခင်နေ့ခင်းမှသည် သုသာန်ကုန်းသို့ နီး၍နီး၍ လာသည်သာ ဖြစ်၏။

[သတ္တကနိပါတ်၊ အရကသုတ်]

## စပါးလှေ့ခြင်း အကြောင်းရင်း

အနှံ မထွက်သေးသော စပါးခင်းကို ကြည့်ပါ။ စပါးပင် တို့သည် ခြား နားခြင်း မရှိ တူကြသည်ဟု မှတ်ထင်ရလိမ့်မည်။ ပင်စည်၊ ရိုးတံ၊ အရွက် တို့သည် မကွဲပြားကြဟု မှတ်ထင်ရလိမ့်မည်။

စင်စစ်အားဖြင့်ကား ထိုစပါးခင်း၌ ပေါင်း အဖျင်းပင်များ၊ စပါး အမှိုက် ပင်များလည်း ပါရှိနေသည်သာ ဖြစ်၏။ စပါးပင်များ အနှံ ထွက်သော အခါတွင်မှ သိသာ ထင်ရှားလေသည်။

စပါးခင်းရှင်သည် ထိုစပါးအဖျင်းပင်၊ အမှိုက်ပင်များကို အမြစ်ပါ နုတ်၍ ဖုက်ဆီး ပစ်ရ၏။ အဘယ့်ကြောင့် ဆိုသော် ထိုအဖျင်း၊ အမှိုက် ပင်တို့သည် ကောင်းမွန် အောင်မြင်သော စပါးပင်များကို ရောယှက် ဖျက်ဆီးတတ်သောကြောင့်တည်း။

အိမ်၌ ဖြစ်စေ၊ ကျောင်း၌ ဖြစ်စေ၊ မြို့ထဲ ရွာထဲ၌ ဖြစ်စေ၊ အဖွဲ့ အစည်း၊ အသင်းအပင်း၊ ပရိသတ်တို့ရှိကုန်၏။ ထိုထို ပရိသတ်တို့တွင်

စိတ် သဘောထား၊ အပြု အမူ၊ အပြောအဆို ယဉ်ကျေး မြင့်မြတ်၍ ဖြောင့်မှန် စင်ကြယ်သူလည်း ပါရှိလေသည်။ ရိုင်းပြ ယုတ်မာလျက် ကောက်ကျစ် မည်းညစ်သူလည်း ပါရှိလေသည်။

ထိုသို့ ကောင်းသူ နှင့် ဆိုးသူတို့ ရောယှက် ပါရှိနေခြင်းကို ရုတ်တရက် သာမန်အားဖြင့် မသိမြင်တဲ့ ရှိတတ်၏။ ပရိသတ်က 'ပရိသတ်' အဖြစ်နှင့်သာ သိမြင်နေတတ်၏။ ထိုအခွင့် အားလျော်စွာ၊ အခါ အား လျော်စွာ ကိစ္စ ကြီးငယ်ကို ပြုလုပ် ဆောင်ရွက် ကြရသည့်တွင် မှသာ ကောင်းသူ နှင့် ဆိုးသူတို့၏ မတူ ကွဲပြားခြင်းသည် ပေါ်လွင်ထင်ရှား လာလေ၏။

ထိုအခါ၌ ဆိုးသောသူ တို့အား အဖွဲ့အစည်း အသင်းအပင်းထဲမှ ဖယ်ထုတ်ပစ်ရလေသည်။ အဘယ့်ကြောင့် ဆိုသော် ထိုသူ တို့ကြောင့် အခြားသူ တို့လည်း ပျက်စီး ဆိုးယုတ် နိုင်သောကြောင့် ပေတည်း။

စပါးလှေ့သည်ကို ကြည့်ပါလေလော့။ အနှစ် အသား ပါဝင်သော အောင်အောင် မြင့်မြင့် စပါးစေ့ တို့သည် လေကြောင့် လွင့်စဉ်၍ မသွားကြပေ။ အဖျင်း၊ အမှော် အမှိုက်သရိုက်တို့သည်ကား လေနှင့်အတူ လွင့်ပါသွားကြလေ၏။ ယင်းသို့ လွင့်ပါသွားအောင်ပင်လျှင် စပါးရှင်က စပါးလှေ့ခြင်းဖြစ်လေသည်။

စပါး အဖျင်း၊ အမှော် အမှိုက်သရိုက် တို့ကြောင့် စပါးကောင်းများ မပျက်စီး မဆုံးရှုံးပါစေနှင့် ဟူသော ရည်ရွယ်ချက်ဖြင့် ဤသို့ ပြုလုပ် ရခြင်းပေတည်း။

[အဋ္ဌကနိပါတ်၊ ကရဏ္ဍဝသုတ်]

## လယ်မြေကို လေ့လာခြင်း

စပါးစိုက်ပျိုးမည် ဆိုလျှင် လယ်ကွက်ကို ကြည့်ပါ။ ထိုလယ်ကွက်၌-

မြေသား မညီမညာ နိမ့်တုံ မြင့်တုံ ရှိခြင်း၊ ကျောက်စရစ် ကျောက်ခဲ များ ရှိခြင်း၊ ဆပ်ပြာပေါက်ခြင်း၊ ထွန်ကြောင်းရာ မနက်ခြင်း၊ ရေဝင် ပေါက် မရှိခြင်း၊ ရေ ထွက်ပေါက်မရှိခြင်း၊ ရေသွင်း မြောင်း မရှိခြင်း၊ ကန်သင်းရိုး ဖွဲ့စည်းမှု မရှိခြင်း၊ ဟူသော လက္ခဏာ ရှစ်မျိုးကို တွေ့ရသော်

မစိုက်ပျိုးလေနှင့်။ အချည်းနှီးသော လယ်ကွက်ဖြစ်၏။ မကောင်းသော လယ်ယာမြေဖြစ်၏။ မျိုးစေ့ကုန်၍ လူ ပင်ပန်းရုံမျှသာ ရှိမည်။

လူတို့တွင် လည်း လက္ခဏာ ရှစ်မျိုးနှင့် ယှဉ်သည်-ယှဉ်သည် ကို ဆင်ခြင်စိစစ်ရာ၏။ ထိုလက္ခဏာ ရှစ်မျိုးကား-

မမှန်သော အသိအမြင် အယူအဆ၊ မမှန်သော ကြံစည် တွေးတောမှု၊ မမှန်သော စကား ပြောဆိုမှု၊ မမှန်သော လုပ်ကိုင်ဆောင်ရွက်မှု၊ မမှန်သော အသက်မွေး ဝမ်းကျောင်းမှု၊ မမှန်သော အားထုတ်မှု၊ မမှန်သော ဆင်ခြင်အောက်မေ့မှု၊ မမှန်သော တည်ကြည် စွဲမြဲမှု။

ဤလက္ခဏာ ရှစ်မျိုးနှင့် ပြည့်စုံသော ပုဂ္ဂိုလ်သည် အချည်းနှီးသော ပုဂ္ဂိုလ် ဖြစ်၏။ မကောင်းသော ပုဂ္ဂိုလ်ဖြစ်၏။

ထိုပုဂ္ဂိုလ်အား ဆည်းကပ်ခြင်း၊ ပေးကမ်း ကူညီခြင်း၊ ပေါင်းသင်း ဆက်ဆံခြင်းပြုသော်သည်၊ အကျိုးမရှိနိုင်ပေ။ အကျိုးမဲ့ခြင်း သာလျှင် ရှိလိမ့်မည်။

[ဒါနဝဂ္ဂသုတ်]

## အပြုမိုး အဖျက်မိုး

အခါအားလျော်စွာ ရွာသွန်းသော မိုးကြီးသည် လောကကို ကောင်းကျိုး ပြုသည်သာတည်း။

ကောက်ပဲသီးနှံတို့ ရှင်သန် ဖွံ့ဖြိုးရန်လည်း ဖြစ်သော၊ အများသူငါတို့ သောက်ရန် သုံးရန်လည်း ဖြစ်သော ထိုမိုးကြီးကို လူအပေါင်းတို့သည် လိုသား နှစ်သက်ကြကုန်၏။

ဤလောကတွင် ပညာရှိသူတော်ကောင်းပုဂ္ဂိုလ် တစ်ဦး၊ တစ်ယောက် ပေါ်ပေါက်ခြင်းသည် အခါအားလျော်စွာ ရွာသွန်းသော မိုးကြီးနှင့် တူပေ၏။

အခါမဟုတ်တဲ့ ရွာချသော မိုးသည်ကား၊ ကောက်ပဲသီးနှံ စိုက်ပင် မျိုးပင် တို့ကိုလည်း ပျက်စီးစေ၏။ လူအများ ကိုလည်း အနာ ရောဂါ

ပွားစေ၏။ ထို့ကြောင့် အခါမဟုတ်ဘဲ ရွာချသောထိုမိုးကို လူအပေါင်းတို့သည် မလိုလားကြကုန်၊ မနှစ်သက်ကြကုန်။

ဤလောက၌ လူဆိုးလူမိုက် တစ်ဦးတစ်ယောက်ပေါ်ပေါက်ခြင်းသည် အခါမဟုတ် ရွာချသော မိုးနှင့်တူပေ၏။

[သဗ္ဗုရိသသုတ်]

## ဆင်ရေချိုး ယုန်ရေချိုး

တောရှန် တောင်ကြား၊ တစ်နေရာ၌ ရေအိုင်ကြီးတစ်ခု တည်ရှိလေရာ၏။ ဆင်ပြောင်ကြီး တစ်ကောင်သည် တောကြီးထဲမှ ထိုရေအိုင်ကြီးဆီသို့ ရှေးရှု လာလေရာ၏။ ထို့နောက် ဆင်ပြောင်ကြီးသည် ရေအိုင်ထဲသို့ ဆင်းကာ ရေချိုးသည်။ နားရွက်ကို ရေထဲနှစ်၍လည်းကောင်း၊ ကျောကုန်းကို ရေထဲနှစ်၍လည်းကောင်း ဆော့ကြောလေသည်။ နှာမောင်းဖြင့် ရေကိုစုပ်ယူပြီး၊ တစ်ဖန် အပေါ်သို့ မှုတ်ထုတ် လေသည်။ ယင်းသို့လျှင် ဆင်ပြောင်ကြီးသည် မြူးထူးစွာ ရေချိုး ရေအာစားပြီးနောက် ရေအိုင်ကြီးမှ လာခဲ့ရင်း တောကြီးဆီသို့ ကျေနပ် နှစ်သက်ခြင်းဖြင့် ထွက်ခွာသွားလေ၏။

ယုန်ငယ် တစ်ကောင်သည် ထို ဆင်ပြောင်ကြီး ရေဆင်းချိုးခြင်းကိုလည်းကောင်း၊ အားရ ကျေနပ်စွာ ထွက်ခွာသွားခြင်းကို လည်းကောင်း ကြည့်လျက် နေရာ၏။ ထို ယုန်ငယ်သည် 'ငါသည်လည်း သူ့လိုပင်ရေချိုးကစားရမှ ကောင်းလေစွ၊ ပျော်ရွှင်မြူးထူးပေအံ့' ဟု အကြံ ဖြစ်ပေါ်ရာ၏။

ထိုယုန်ငယ်သည် ဆင်ပြောင်ကြီးနည်းတူ ရေအိုင်သို့ဆင်း၍ ရေချိုးလေသော် နစ်မြုပ်မှုသည်း နစ်မြုပ်ပေမည်။ မနစ်မြုပ်ဘဲ ပေါ်၍မှုလည်း နေခဲပမည်။

ဤလောက၌ အချို့သော ပုဂ္ဂိုလ်သည် ဉာဏ်ပညာအားဖြင့် လည်းကောင်း၊ အကျင့်သီလ အားဖြင့်လည်းကောင်း၊ အစဉ်သဖြင့် ဆည်းပူးလာခဲ့၍ ထူးသော ဉာဏ်အမြင်ကို ရရှိရာ၏။ ထို့ကြောင့် သူသည် ပရိသတ် ကင်းရာ ဆိတ်ငြိမ်ရာ အရပ်ကို မှီဝဲလျက် သီလ၊ ဘာဝနာဖြင့် မွေ့လျော်နေ၏။

ဉာဏ်ပညာ၊ အကျင့်သီလအားဖြင့် မရင့်ကျက်သေးသူသည် ထိုပုဂ္ဂိုလ်ကို အားကျရုံမျှဖြင့် ထိုပုဂ္ဂိုလ်နည်းတူ လူသူ့ပရိသတ်မှ ဖဲခွာ၍ ဆိတ်ငြိမ်ရာ တောအရပ်သို့ ချဉ်းကပ် နေထိုင်လေသော် ယုန်ငယ်ကဲ့သို့ပင် နစ်မြုပ်မှုသည်း နစ်မြုပ်ပေအံ့။ မနစ်မြုပ်ဘဲ ပေါ်မှုသည်း ပေါ်ပေအံ့။

ဤအရာ၌ အသိပညာ ဉာဏ်စဉ် တရားထူး၏ ရင့်ကျက်မှု သဘောကို ဥပမာဖြင့် သိရာ၏။

ပက်လက်အိပ် အရွယ် ကလေးငယ်သည် ကျင်ကြီး ကျင် ငယ် ဖြင့် ကစား၏။ ထို့နောက် အရုပ်ကလေးများ၊ ပန်းပွင့်ကလေးများဖြင့် ကစား၏။ ထို့နောက်ဂှင်ကား ဇယ်တုက်၊ ဇယ် ခတ် ခြင်း များ ဖြင့် ကစား၏။ ထိုမှ နောက်တွင် ကျည်းသားရိုက်ခြင်း၊ ကျွမ်း ထိုး ခြင်း စသည်ဖြင့် ကစားလေ၏။

ထို သူငယ်သည် ကစားရွယ် လွန်မြောက်ခဲ့၍ အာရုံ ခြောက်ပါးကို သိတတ်၊ ခံစားတတ်သည့် အခါတွင်မူ အိမ်ရာ တည်ထောင်လျက် ကာမဂုဏ်စည်းစိမ်ဖြင့် မွေ့လျော်လေရာ၏။

ယင်းသို့ နှုရာမှ ရင့်၍ အဆင့်ဆင့် တည်ဆောက်ခြင်းသည် လမ်းမှန်ကို လျှောက်သည့် မည်၏။

[ဒသကနိပါတ်၊ ဥပါလိသုတ်]

## ဆင်နှာမောင်းကို မြှောက်ချီခြင်း

တောတွင်း၌ မွေ့လျော် ကျက်စားသော ဆင်ပြောင်ကြီးသည် အစာ အတွက် စားကျက်သို့ သွားလေ၏။ ထိုအခါ ဆင် မ များ၊ သည် လည်းကောင်း၊ ဆင်ပေါက်၊ ဆင်ရွယ်၊ ဆင်ငယ်များသည် လည်းကောင်း၊ ဆင်ပြောင်ကြီးနှင့် အတူ လိုက်ပါကြကုန်၏။ ၎င်းတို့သည် ဆင်ပြောင်ကြီး၏ရှေ့သို့ ကျော်၍ ကျော်၍ တက်သွားကြလျက် မြက်သန့် သစ်ခက်တို့ကို ချိုး၍ ချိုး၍ ဖျက်ဆီးကြကုန်၏။

ဆင်ပြောင်ကြီးသည် သစ်ခက်၊ သစ်ညွန့်တို့ကိုနှိမ်၍ ချိုး၍ ထားသည် ရှိသော် ဆင်မ၊ ဆင်ပေါက်၊ ဆင်ရွယ်၊ ဆင်ငယ်၊ ခြွေရံသင်းပင်းတို့က စား၍ စား၍ ပစ်ကြကုန်၏။

ဆင်ပြောင်ကြီးသည် ရေသောက်ရန် ရေရှိရာအရပ်သို့ သွားလျှင် ခြွေရံသင်းပင်းတို့သည် လိုက်ပါကြလျက် ရှေ့သို့ ကျော်၍တက်၍သွားကြ ကုန်၏။ ဆင်ပြောင်ကြီးကို တိုးဝှေ့ကြကုန်၏။ ရေကိုလည်း အနယ် အမှုန့်ထ၍ နောက်ကျုအောင် ဆော့ကြ မွှေနှောက်ကြကုန်၏။

ထိုအခါ ဆင်ပြောင်ကြီးသည် ငြီးငွေ့ရလေ၏။ စိတ်နှလုံး မသာယာခြင်း ဖြစ်လာ၏။

ထို့ကြောင့် ဆင်ပြောင်ကြီးသည် ခြွေရံသင်းပင်းတို့နှင့် ဝေးရာသို့ ထွက်ခွာသွား၍ တစ်ကိုယ်တည်း မွေ့လျော်ကျက်စားလေ၏။

ဆိတ်ငြိမ်ရာ၌ တစ်ကိုယ်တည်း နေသော ဆင်ပြောင်ကြီးသည် ခြွေရံသင်းပင်း ဆင် အပေါင်းတို့၏ အနှောင့်အယှက်မှ ကင်းရှင်းသဖြင့် ကျေနပ် နှစ်သက်လျက်ရှိ၏။ အစာကို ကောင်းစွာစားရ၍ လည်းကောင်း၊ ရေကို ကောင်းစွာ သောက်ရ ချိုးရ၍ လည်းကောင်း ပျော်မွေ့လျက် ရှိသော ဆင်ပြောင်ကြီးသည် နှာမောင်းကို လေထဲ၌ မြှောက်ချီကာ ပီတိ ဖြစ်နေလေ၏။

သီလ၊ ဘာဝနာကို အားထုတ် ကျင့်သုံးလိုသော ရဟန်းသည် ပရိသတ်တို့နှင့် ရောနှောဆက်ဆံလျက် နေရ၏။

ပရိသတ်ကို အကြောင်းပြု၍ ကိစ္စကြီးငယ်၊ ပြဿနာ ကြီးငယ်တို့နှင့် ရှုပ်ထွေးစွာ တွေ့ကြုံလျက် နေရ၏။

ထိုအခါ ရဟန်းသည် ငြီးငွေ့သာ၏၊ စိတ်နှလုံး မသာယာခြင်း ဖြစ်လာ၏။

ထို့ကြောင့် ရဟန်းသည် ပရိသတ်နှင့် ကင်းဝေးရာသို့ ထွက်ခွာလျက် တစ်ကိုယ်တည်း ချမ်းမြေ့စွာ နေထိုင်လေ၏။ သီလ၊ ဘာဝနာကိုပွားများ အားထုတ်ရသဖြင့် ကိလေသာ အညစ်အကြေးတို့မှ ကင်းဝေး သန့်ရှင်း လျက်ရှိ၏။ နှစ်သက် ချမ်းသာခြင်း ပီတိ သုခဖြင့် မွေ့လျော်သော ထိုရဟန်းသည် ဈာန်စိတ်ကို မြှောက်ချီ စံစားလျက် ရှိသတည်း။

[နဝကနိပါတ်၊ နာဂသုတ်]

## မှန်ကြည့်၍ အလှဆင်ပါ

မိမိကိုယ်ကို လှပအောင် တန်ဆာဆင်ယင် ပြုပြင်လေ့ရှိသော မိန်းမပျိုသည် ကြေးမုံပြင်မှန်ကို ကြည့်သ၏။ မျက်နှာပြင်၌ မှဲ့၊ ဝက်ခြံ၊ အမှိုက်သရိုက် စသော အညစ်အကြေးများ ရှိ မရှိ အကြိမ်ကြိမ် စစ်ဆေး ကြည့်ရှု၏။

မျက်နှာ၌ အညစ်အကြေးများကို တွေ့မြင်ရလျှင် သန့်ရှင်း ပြေပြစ်စေရန် ပြုပြင်ခြယ်မှုန်း၏။ မလျော်သော လိုလာ၀ိရိယဖြင့် ပြုပြင်ခြယ်သ၏။

အကယ်၍ ထိုမိန်းမပျိုသည် ကြေးမုံမှန်ကို ကြည့်ရာ၌ မျက်နှာတွင် အညစ်အကြေးများ မပြေပြစ်ခြင်းများကို မတွေ့ရသော် 'ငါသည် သန့်ရှင်း စင်ကြယ်ပေ၏၊ မပြုပြင် ချောမောပေ၏' ဟူ၍ ရွှင်ပျ မြူးထူး ရလေသည်။ နှစ်သက် ကြည်နူးရလေသည်။

ဤနည်းတူ လူတို့သည် မိမိ၏ စိတ်ကို စစ်ဆေး သုံးသပ်ရာ၏။ 'ငါ၏ စိတ်သည် လိုချင်တပ်မက် အားကြီးနေသလား၊ ဖျက်ဆီး နှိပ်စက်ချင်နေ သလား၊ မလိုမုန်းထား အတိဗျာ များနေသလား၊ တွေဝေ မိုက်မဲ၍ နေသလား စသည်ဖြင့် ကိလေသာ အညစ်အကြေးတို့ လွှမ်းခြုံ မွေးယှက် ခြင်း ရှိ မရှိ စိစစ် သုံးသပ်ရာ၏။

အကယ်၍ ကိလေသာ အညစ်အကြေးတို့ လွှမ်းခြုံ မွေးယှက်လျက် ရှိသော် ပယ်ဖျက် ရှင်းလင်းပစ်ရာ၏။ ကောင်းသော အသိအမြင်၊ ကောင်းသော အကြံအစည်၊ ကောင်းသော အပြုအမူ စသည့် မဂ္ဂင် ရှစ်ပါး လမ်းစဉ်တရားဖြင့် ပယ်ဖျက် သုတ်သင်ပစ်ရာ၏။

မိမိ၏ စိတ်အစဉ်သည် ကိလေသာ အညစ်အကြေးတို့မှ ကင်းစင် သန့်ရှင်းလျက် ရှိမူကား ထိုသူသည် 'ငါအား အရတော်လေစွ၊ စင်ကြယ် သော စိတ်မြတ် စိတ်ကောင်းတို့သည်သာလျှင် ငါ၌ ကိန်းအောင်းရ ပေစွ' ဟူ၍ နှစ်သက် ဝမ်းမြောက် ရလေ၏။

[ဒသကနိပါတ်၊ သစိတ္တဝဂ်]

## နွားကျောင်းသား၏ အရည်အချင်း

ဤလောက၌ နွားကျောင်းသားတို့၏ ဂုဏ်အင်္ဂါ အရည်အချင်း ၁၁ မျိုး ရှိ၏။

နွား၏ ရုပ်ပုံသဏ္ဌာန်ကို သိခြင်း၊ နွား၏လက္ခဏာ ဆိုးကောင်းကို ကျွမ်းကျင် သိမြင်ခြင်း၊ နွား၌ ကျရောက်သော ယင်ချေးဥ၊ မှက်ကောင် စသည်ကို ခွာချတတ်ခြင်း၊ နွား၌ ဖြစ်ပေါ်သော အနာကို ကုသ ကာကွယ်တတ်ခြင်း၊ ခြင်ကောင် ပိုးမွှားတို့မှ ကာကွယ်ရန် မီးဖို မီးခိုး ဖန်တီးတတ်ခြင်း၊ ရေတိုက်ရန် ဆိပ်ကမ်းကို သိခြင်း၊ နွားများ ရေသောက်ပြီးသည် မပြီးသည်ကို သိတတ်ခြင်း၊ လမ်းခရီးကို သိခြင်း၊ စားကျက်၌ ကျွမ်းကျင်ခြင်း၊ နို့ညှစ်ရာ၌ သင့်တင့်အောင် ညှစ်တတ်ခြင်း၊ ရှေ့ဆောင် ရှေ့ရှုက် ဖြစ်သော နွားကြီးများကို ပိုမို၍ ပူဇော်စောင့်ရှောက်တတ်ခြင်း၊ ဤအရည်အချင်းနှင့် ပြည့်စုံသူသည် နွားကျောင်းသားကောင်း မည်၏။ နွားတို့၏ ကောင်းကျိုးကို ဆောင်ရွက် နိုင်သူ မည်ပေ၏။

ဤ ဂုဏ် အင်္ဂါ အရည်အချင်း ၁၁ မျိုးနှင့် မပြည့်စုံလျှင် နွားကျောင်းသားကောင်း မမည်ပေ။ နွားတို့၏ ကောင်းကျိုးကို ဆောင်ရွက် နိုင်သူ မဟုတ်ပေ။

## ခေါင်းဆောင်ကောင်း

ထိုနည်းတူပင် လောကသားတို့၏ အကျိုးကို ဆောင်ရွက်သူ ခေါင်းဆောင်ကောင်းတို့သည်လည်း ဂုဏ် အင်္ဂါ အရည်အချင်း ၁၁ မျိုးနှင့် ပြည့်စုံကြရပေသည်။

အဘယ် ၁၁ မျိုးနည်း၊ ဟူမူ ရုပ်ကို သိခြင်း၊ လက္ခဏာကို သိခြင်း၊ ယင်ချေးဥကို ခွာတတ်ခြင်း၊ အနာကို ကုသ ကာကွယ်တတ်ခြင်း၊ အခိုး ထုတ်တတ်ခြင်း၊ ဆိပ်ကမ်းကို သိခြင်း၊ ရေသောက် ပြီးသည် ကို သိခြင်း၊ လမ်းခရီးကို သိခြင်း၊ စားကျက်၌ လိမ္မာ ကျွမ်းကျင်ခြင်း၊ သင့်တင့် မျှတအောင် နို့ညှစ်တတ်ခြင်း၊ ကြီးသူ မြတ်သူ တို့ကို ပိုမို၍ ပူဇော်စောင့်ရှောက်တတ်ခြင်းတို့ပင် ဖြစ်၏။

ဤအရာ၌ ရုပ်ကို သိခြင်း ဟူသည်ကား မြင်လေသမျှ၊ ကြားလေ သမျှ၊ တွေ့ထိလေသမျှသော ရုပ်သဘာဝကို ဟုတ်တိုင်းမှန်စွာ ရှုမြင် သိရှိခြင်းပေတည်း။

ပညာရှိခြင်း - ပညာမဲ့ခြင်း၊ ယဉ်ကျေး၊ လိမ္မာခြင်း - ပိုက်ရိုင်းခြင်း၊ အပြစ်မရှိခြင်း - အပြစ်ရှိခြင်း၊ ကောင်းမြတ်ခြင်း - ဆိုးယုတ်ခြင်းတို့ကို ဟုတ်တိုင်းမှန်စွာ သိမြင်ခြင်းအား၊ လက္ခဏာကို သိခြင်းပေတည်း။

ကိလေသာ ကာမဂုဏ်ကိစ္စ၌ တွေးတော ကြံစည်မှုကို လည်းကောင်း၊ ဖျက်ဆီးနှိပ်စက်လိုမှု၌ တွေးတောကြံစည်မှုကို လည်းကောင်း၊ အပြစ်ရှိ၍ မကောင်းသော တွေးတောကြံစည်မှုကို လည်းကောင်း ပယ်ဖျောက်၏။ လက်ခံခြင်း မပြု။ နောက်တစ်ဖန် ဖြစ်ပွားခြင်း မရှိစေရန် တားဆီး၏။ နှင်ထုတ်၏။ ဤသည်ကား ယင်ချေးဥကို ခွာခြင်းမည်၏။

၊ အဆင်း၊ အသံ၊ အနံ့၊ အရသာ၊ အတွေ့အထိ၊ စိတ်ကူးဟူသော အာရုံတို့၌ စွဲလမ်းတပ်မက်ခြင်း၊ မရှိအောင် စောင့်ထိန်း၏။ ထိုအာရုံတို့၏ ဆွဲဆောင်ရာနောက်သို့ မလိုက်ပါဘဲ မှန်ကန်သည့် လမ်းစဉ်၌ ရပ်တည်ရန် ဆောက်တည် ကျင့်သုံး၏။ ဤသည်ပင်လျှင် အနာကို ကုသ အားကွယ်တတ်ခြင်းပေတည်း။

မိမိသင်ကြားရသော အသိပညာကိုလည်းကောင်း၊ ကြားနာမှတ်သား ရသော နည်းကောင်း လမ်းမှန် ကျင့်ဝတ်ကောင်းကို လည်းကောင်း သူ တစ်ပါးအား၊ တစ်ဆင့်ပို့၍ ပြောကြား ပေးနိုင်ခြင်းသည် အခိုး ထုတ်တတ်ခြင်းပေတည်း။

မိမိ မသိ မမြင်သေးသော နည်းကောင်း လမ်းမှန် သဘောတရား၊ ကျင့်ဝတ်ကောင်းများ ရှိပါက တတ်သိလိမ္မာ ပညာဉာဏ် ကြီးသူတို့ထံ ချဉ်းကပ်၍ စုံစမ်း၏၊ သင်ယူ နာခံ၏။ ဤသည်ကိုပင် ဆိပ်ကမ်းကို သိခြင်းဟု ဆိုရလေ၏။

တတ်သိ လိမ္မာ အသိပညာ ရှိသူတို့က ညွှန်ပြ သင်ကြားသည်ကို ကောင်းစွာ သဘောပေါက်၏။ သိမြင် နားလည်၏။ ဤသည်ကား ရေသောက်ပြီးသည်ကို သိတတ်ခြင်းပေတည်း။

မှန်ကန်သော အသိ အမြင်—အယူအဆ ရှိခြင်း၊ မှန်ကန်သည်ကိုသာ ကောင်းစွာ ကြံစည်တတ်ခြင်း၊ မှန်ကန်သော စကားကိုသာ ကောင်းစွာ ပြောဆိုတတ်ခြင်း၊ မှန်သည်ကိုသာ ကောင်းစွာ ပြုလုပ်ဆောင်ရွက်တတ် ခြင်း စသည်ကို လမ်းသိသူဟူ၍ ဆိုရ၏။

ခန္ဓာကိုယ်အပေါ်၌လည်းကောင်း၊ စိတ်ဓာတ်ရုံးအပေါ်၌လည်းကောင်း၊ ထိတွေ့ခံစားမှုအပေါ်၌ လည်းကောင်း၊ ဖြစ်ပျက်၊ ပြောင်းလဲ၊ ပြုပြင်မှု သင်္ခါရတရားအပေါ်၌ လည်းကောင်း ဟုတ်တိုင်းမှန်ရာ ရှုမြင်တတ်၏။ ဤသည်ပင်လျှင် စားကြွင်း၌ ကျွမ်းကျင်လိမ္မာခြင်း မည်၏။

မိမိအား သူတစ်ပါးက ပေးကမ်းခြင်း၊ စောင့်ရှောက်ခြင်းတို့၌ လိုအပ်သမျှကိုသာလျှင် ခံယူ၏။ အတိုင်းအရှည် မထားဘဲ သုံးသမျှ ယူခြင်းကို ရှောင်ကြဉ်၏။ အကြောင်းနှင့်လျှောက်ပတ်ရုံ ခံယူ ကျင့်သုံး၏။ ဤသည်ကား သင့်တင့်မျှတစွာ အစဉ် နှီးညှိသိတတ်ခြင်းပေတည်း။

မိမိထက် ပို၍ အသက် သိက္ခာ ကြီးသူ၊ အသိပညာ ကြီးသူတို့အား ရိုသေလေးစား၏။ ပျော့ပျော့ ထား၏။ ပျော့ပျောင်းအရင်းခံ၍ ပြုမူ၏။ ပြောဆို၏၊ ကြံစည်၏။ ဤသည်ပင်လျှင် ပိုမို၍ ပြုစု စောင့်ရှောက်ခြင်း မည်၏။

ယင်းသည်ကား ဂုဏ်အင်္ဂါ အရည်အချင်း ၁၁-မျိုးနှင့် မကိုက်ညီမပြည့်စုံသူသည် ခေါင်းဆောင်ကောင်း မမည်ပေ။ လောက၏ ကောင်းကျိုးကို ဆောင်ရွက်နိုင်သူ မဟုတ်ပေ။

[ကောသလကနိပါတ်၊ ဝေပုလ္လသုတ်]

## ရေကန်ကြီးနှင့် ချိန်ခွင်

ဤလောက၌ အသက်မွေးမှု မျှတခြင်း ရှိသူသည် ချမ်းသာ၏။ ဆင်းရဲ ငြိုငြင်ခြင်းမှ ကင်း၏။ အသက်မွေးမှု မမျှတသူကား ဆင်းရဲ ငြိုငြင်စွာ နေရ၏။

'ငါ့၌ ဤ ပွားဥစ္စာတိုးပွားမှု(ဝင်ငွေ)သည် ဤမျှရှိ၏။ ဤမျှသော သုံးစွဲလျှင် မည်မျှကျန်ရှိမည်၊ ဤမျှလောက် သုံးစွဲလျှင်ကား မကျန်ရှိနိုင်၊ ထိုထက်ပို၍ သုံးစွဲလျှင်မူ ကြွေးတင်လိမ့်မည်' ဤသို့ ဆင်ခြင်၍ သိတတ်သူသည် အသက်မွေးမှု မျှတသူမည်၏။

ရာဇူကိုင် ချိန်ခွင်သမားသည် ချိန်ခွင်နှစ်ခွက်၌ ကုန်ပစ္စည်း ထည့်၍ ချိန်ဆရာတွင် ချိန်ခွင်လျှာ မည်သည့်ဘက်သို့ ထွက်လာမည်ကို သိမြင် သကဲ့သို့တည်း။

ရေအောင်းကြီးတစ်ကန်ကို ကြည့်ပါ။ ရေဝင်ပေါက်လည်း ရှိ၏။ ရေထွက်ပေါက်လည်း ရှိ၏။ ရေဝင်ပေါက်ကို ဖွင့်ထားလျက် ရေထွက်ပေါက်ကို ပိတ်ဆို့ထားသော် မိုးလည်း ရွာသွန်းသော် ထိုရေကန်၌ ရေအည်တို့ပွား ပြည့်ဖြိုးလာနည်သာ ဖြစ်၏။

အကယ်၍ ရေဝင်ပေါက်ကို ပိတ်ကာ ရေထွက်ပေါက်ကို ဖွင့်ထားပါမူ မိုးလည်းမရွာသွန်းပါမူ ထိုရေကန်၌ ရေသည် လျော့နည်းကုန်ခန်းမည်သာ ဖြစ်၏။

[အင်္ဂုတ္တရနိကာယ်ပါဠိ၊ ဗြဟ္မဇာလသုတ်]

## အဟောင်း စိတ် အသစ်ဖွေရှာ

နွားမတစ်ကောင်သည် မိမိကျက်စားနေကျ စားကျက် နယ်မြေမှ လွန်၍ အခြား စားကျက်နယ်မြေသို့ ကူးသွား၏။ 'ငါသည် မရောက်ဖူးသေးသော နေရာသို့ ရောက်ရမူ ကောင်းလေစွ၊ မစားဖူးသော မြက်များကို စားရမူ ကောင်းလေစွ၊ မသောက်ဖူးသော မရေအိုင် ရေထန့်တို့၌သောက်ရမူ ကောင်းလေစွ' ဟူ၍ နွားမ စိတ်ကူးကြံစည်မိ၏။

ထိုနွားမသည် နယ်မြေကို မကျွမ်းကျင်။ ခရီးလမ်းကိုလည်း မကျွမ်းကျင်ပေ။

ချိုင့်ဝှမ်း၊ ကုန်းမြင့် မညီညွတ်ရာ အရပ်၌ ရှေ့ခြေနှစ်ချောင်းကို မည်သို့ အခိုင်အမာစွဲမြဲ၍ နောက်ခြေနှစ်ချောင်းကို မည်သို့ လှမ်းကြွရမည်ဟူသော ဒေသအလိုက် သွားလာမှုကိုလည်း ထိုနွားမ မသိတတ်။

ထို့ကြောင့် ထိုနွားမသည် စားကျက်လစ်နယ်မြေသို့လည်း မရောက်နိုင်။ စားကျက်ဟောင်း နယ်မြေသို့လည်း ပြန်မရောက်နိုင်။ မျက်စိလည် လမ်းမှားကာ ဆင်းရဲပင်ပန်းရလေ၏။

ဤလောက၌ အချို့သော သူသည် မိမိရရှိထားပြီး ဖြစ်သော ကောင်းကျိုး ချမ်းသာထက် ပိုလွန်၍ တစ်ဆင့်တက်ကာ အလိုရှိ၏။

ထိုသူသည် ရရှိထားပြီးဖြစ်သော လက်ရှိအခြေအနေ ကောင်းကျိုးချမ်းသာကို မယိုယွင်းစေတဲ့ ခိုင်မြဲအောင် မဆောက်တည် ထိန်းသိမ်းနိုင်စွမ်း

မရှိခြင်းအုံ၊ လက်ရှိထက် တစ်ဆနှစ်ဆပိုလွန်သော ကောင်းကျိုး ချမ်းသာကို ရရှိနိုင်ကြောင်း နည်းလမ်းကောင်းကိုလည်း သိမြင် ကျွမ်းကျင်မှု မရှိခြင်းအုံ၊ ထိုသူ၏ အလိုဆန္ဒသည် ပျက်စီးရပေလိမ့်မည်။ ကောင်းကျိုး ချမ်းသာအသစ်ကိုလည်း ရမည်မဟုတ်၊ ကောင်းကျိုးချမ်းသာ အဟောင်း ယိုယွင်းဆုတ်ယုတ်မည်သာ ဖြစ်၏။

[နဝကနိပါတ်၊ ဂါဝိဥပမာသုတ်]

## မျှော်လင့်ခြင်း

မြင်းတစ်ကောင်သည် ဤသို့ စိတ်ကူးမိ၏၊ 'လူတို့သည် အာဇာနည် မြင်းကောင်းကို အစာကောင်းကောင်းကျွေးကြသည်၊ သန့်ပြန့်ကောင်း မွန်သော နေရာ၌လည်း ထားကြသည်၊ ပွတ်သပ် နှိပ်နယ်ခြင်း စသည် ဖြင့်လည်း ကောင်းစွာ ပြုစုပေးကြသည်၊ ယုယကြင်နာစွာလည်းဆက်ဆံ ကြသည်၊ ငါ့ကိုလဲ ဤသို့ပင်လျှင် ကျွေးမွေး ပြုစု၍ ဆက်ဆံကြပါမူ ကောင်းလေစွ'

ယင်းသို့စိတ်ကူး၍ လိုချင် တောင့်တသော မြင်းအား အချည်းနှီး သာလျှင်ဖြစ်၏။ လိုအင်ဆန္ဒမပြည့်ပေ။ အကြောင်းသော်ကား၊ လူတို့သည် ထိုမြင်းကို ကောင်းစွာသိသောကြောင့်တည်း။ ထိုမြင်းသည် အာဇာနည် မြင်းကောင်း ကဲ့သို့ ယဉ်ကျေးလိမ္မာသည် မဟုတ်၊ အပြစ်ကင်းသော ရုပ်ဆင်းလက္ခဏာ ရှိသည်လည်း မဟုတ်၊ စွမ်းဆောင်နိုင်သော အရည် အချင်း စွမ်းအင်ရှိသည်လည်း မဟုတ်ကြောင်းကို ကောင်းစွာ သိသော ကြောင့်တည်း။

ထိုနည်းတူပင် ဤလောက၌ အချို့သောသူသည် အတူနေ ပတ်ဝန်း ကျင် ပရိသတ်၏ ရိုသေလေးစားမှုကို ခံယူလို၏။ ကူညီ စောင့်ရှောက် မှုကို ခံယူလို၏။

ထိုသူ၏ လိုချင်တောင့်တမှုကား အချည်းနှီးသာ ဖြစ်၏။ အကြောင်း မူကား ထိုသူကို ပရိသတ်သည် ကောင်းစွာ သိနေသောကြောင့်တည်း။ အကျင့် သီလနှင့် ပြည့်စုံသူလည်း မဟုတ်၊ အများ သူငါအတွက် အကျိုး ပြုနိုင်စွမ်းသူလည်း မဟုတ်သည်ကို သိနေသောကြောင့် ပေတည်း။

[ဒသကနိပါတ်၊ နဂ္ဂဝိယသုတ်]

## အရူးစကား

ခင်မင် ရင်းနှီးသော မိတ်ဆွေနှစ်ဦး ရှိလေ၏။ မိတ်ဆွေတစ်ဦးက ကျန် တစ်ဦးကို ဤသို့ ပြောလေသည်။

"ငါ့မှာ ရွှေငွေ ပစ္စည်း ပေါများ၏၊ သင့်မှာ ကိစ္စ ကြီးငယ် ရှိ၍ လိုအပ်လျှင်ပြောပါ၊ ကူညီပေးပါမည်" ဟု ပြော၏။

ထို့ကြောင့် ကျန်မိတ်ဆွေတစ်ဦးက အကြောင်းပေါ်ပေါက်၍ ရွှေ ဖြစ်စေ၊ ငွေ ဖြစ်စေ ထုတ်ပေးရန် အကူအညီတောင်း၏။

ထိုအခါ ဖိတ်ကြွားထားသော မိတ်ဆွေက "သူငယ်ချင်း လာပါ၊ ဟောသည်နေရာမှာ တူးဖော်ပါ၊ ငါ့ ရွှေငွေတွေ ရှိပါသည်" ဟု ဆိုလျက် မြေကြီးတစ်နေရာ၌ ညွှန်ပြ၏။

ငွေလိုသော မိတ်ဆွေက တူးဆွလေသည်။ သို့သော် ဘာမျှ မတွေ့ရ။ "မိတ်ဆွေ၊ သင် မဟုတ်တာ ပြောတာပဲ၊ ဘာမှလဲ မတွေ့ပါကလား" ဟု ဆို၏။

"မဟုတ်တာမပြောပါဘူး ဟောသည်နေရာမှာ တူးပါဦး၊" ဟု ဆိုကာ အခြားတစ်နေရာကို ညွှန်ပြ၏။

ငွေလိုသောမိတ်ဆွေသည် ညွှန်ပြသည့်နေရာကို တူးပြန်၏။ သို့သော် ဘာမျှ မတွေ့ရ။

"မိတ်ဆွေ၊ သင် မမှန်တာတွေ ပြောပြန်ပြီ၊ ဘယ်မှာလဲ ရွှေငွေ" ဟူ၍ ပြစ်တင်ပြောဆိုပြန်၏။

ယင်းသို့ဖြင့် တစ်နေရာမှ တစ်နေရာသို့ ပြောင်းရွှေ့ ညွှန်ပြသော တူးဖော် စေသော်လည်း အချည်းနှီးသာ ဖြစ်၏။ ဘာပစ္စည်းမှ မရရှိပေ။

ထို့ကြောင့် "မိတ်ဆွေ၊ သင်သည် ငါ့ကို လိမ်လည် ပြောကြားခြင်း ပေတည်း၊ မမှန်သော စကားကို ဆိုခြင်းပေတည်း" ဟူ၍ ပြစ်တင်ရှုတ်ချ လေ၏။

"အဆွေ၊ ငါသည် သင့်ကို လိမ်လည် ပြောကြားခြင်း မဟုတ်ပါ၊ မမှန်သောစကားကို ဆိုခြင်းသည်လည်း မဟုတ်ပါ၊ စင်စစ်သော် ငါသည် ရူးသွပ်သူပါတည်း၊" ဟု ဆိုလေ၏။

ထိုနည်းတူပင် ဤလောက၌ အချို့သောသူတို့သည် မိမိ၌ မရှိသည်ကို ဝင့်ဝါခေါက်ကြွားကာ ရှိသည်ဟု ဆိုတတ်၏။

"ငါကား မည်သို့သော အတတ်ပညာကို တတ်ကျွမ်း သူတည်း၊ ငါကား တရားထူးကို ရရှိ၍ ဈာန်ဝင်စားနိုင်သူတည်း" စသည်ဖြင့် ကြွားဝါလိမ်လည်တတ်၏။

ထိုသူကား တကယ်တတ်ကျွမ်းသော အတတ်ပညာရှင်က စူးစမ်းလျှင် ဖြေသော်လည်းကောင်း၊ တရားထူး ရရှိသူ ဈာန်ဝင်စားနိုင်သူက စစ်ဆေး မေးမြန်းလျှင် ဖြေသော်လည်းကောင်း သူရူးပမာ ပရမ်းပတာ ပြောဆို သည်သာတည်း။

[-ကင်္ခိသုတ်]

## မြင်းနှစ်ကောင်၏ စဉ်းစားခြင်း

အမျိုးအစားအားဖြင့် ညံ့ဖျင်းသော မြင်းသည် စားကျင်း၊ စားခွက်၌ ချည်ထားစဉ် မည်သည့်အရာကို စဉ်းစားသနည်း။ ထိုမြင်းညံ့သည် စားစရာ မြက်ကို သာလျှင် စဉ်းစားလေ၏။ ထိုမြင်းညံ့၏ အတွေး အာရုံ၌ 'မြက် မြက်' ဟူသော စားလိုခြင်း တဏှာသည် သာလျှင် စွဲဝင်နေ၏။ 'ယနေ့ ငါသည် ငါ့သခင်အတွက် ဘယ်လိုအမှုကိစ္စမျိုး ဆောင်ရွက်၍ ကျေးဇူးတုံ့ပြန်ရပါမည်နည်း' ဟူ၍ မစဉ်းစားပေ။

အမျိုးအစားအားဖြင့် မြတ်သော အာဇာနည် မြင်းကောင်းသည်ကား စားကျင်း စားခွက်၌ ချည်ထားစဉ် 'မြက် မြက်' ဟူသော စားသောက် ရလိုမှုကို မစဉ်းစားပေ။ 'ယနေ့ ငါသည် ငါ့သခင်အတွက် ဘယ်သို့သော ဆောင်ရွက်ပေးမှုဖြင့် ကျေးဇူးတုံ့ ပြန်ရပါအံ့နည်း' ဟူ၍ သာလျှင် ကျေးဇူးဆပ်လိုမှုကို စဉ်းစား၏။

ထိုနည်းတူစွာပင် ဤလောက၌ သဘောတရား အမြင်မှား၍ စိတ်ထား ယုတ်နိမ့်သူသည် လိုချင်တတ်မက်မှု၊ ဖျက်ဆီးလိုမှု၊ စဉ်းလဲ ဝန်တိုမှု၊ တွေဝေမှု စသော ကိလေသာစိတ်၊ အညစ်အကြေး စိတ်များဖြင့်သာလျှင် ရပ်တည်၏၊ စဉ်းစား၏။ ထို ကိလေသာစိတ်၊ အညစ်အကြေး ကိစ္စတို့နှင့်

ကင်းလွတ်ခြင်း၊ ဖောင်းမြတ်စင်ကြယ်သော စိတ်ဖြင့် မချပ်တည်။ စဉ်းစားခြင်း မပြု။

သာဘာ၀တရား အမြင်မှန်၍ စိတ်ထား မြင့်မြတ်သူ သည်အား ကိလေသာစိတ်၊ အညစ်အကြေးစိတ်တို့ဖြင့် မရပ်တည်။ ကိလေသာ အညစ်အကြေး အာရုံတို့ကို မစဉ်းစား။ ထို ကိလေသာ အညစ်အကြေး စိတ်အာရုံတို့မှ ကင်းလွတ်၍ ဖောင်းမြတ် စင်ကြယ်သော စိတ် အာရုံတို့သို့ ဆိုက်ရောက်အောင်သာလျှင် စဉ်းစား၏။ ဆောက်တည် ကျင့်သုံး၏။

[ ဧကာဒသကနိပါတ်၊ သဒ္ဓသုတ် ]

## ခိုးသူကြီး

အကြင် ရဟန်းသည် မိမိ၌ ဈာန် မဂ် ဖိုလ် တရား တကယ် မရှိပါဘဲလျက် ရှိသည်ဟု ဝါကြွားပြောဆို ကြွားအံ့၊ ထိုရဟန်းသည် အဆိုးသွမ်းဆုံးသော ခိုးသူကြီး မည်ပေ၏။ ပြည်သူတို့၏ ဆွမ်းကို လိမ်လည်၍ ခိုးစားသောကြောင့် ပေတည်း။ ကောက်ကျစ် စဉ်းလဲသော ကစားသမားကဲ့သို့တည်း။ ငှက်မုဆိုးတို့ကဲ့သို့တည်း။



# ခုဒ္ဒက နိကာယ်

## အမှောင် နှင့် အလင်း

မျက်စိ မကန်းသေးသူသည် မညီညွတ်သော လမ်းဆိုးကို ရှောင်ဖယ်၍ လျှောက်၏။

ပညာစရှိသော သူသည် မကောင်းမှု ဒုစရိုက်တို့ကို မပြုလုပ်ပေ။

[ဥဒါန်းပါဠိတော်၊ ၅သောဏဝဂ်၊ သုပ္ပဗုဒ္ဓကုဋ္ဌိသုတ်]

## သမုဒ္ဒရာနှင့် ဗုဒ္ဓသာသနာ

၁။ မဟာသမုဒ္ဒရာသည် အစဉ် ကမ်းပါးစောက် မရှိပေ။ အစဉ် အတိုင်း နိမ့်ဆင်းကာ နက်ရှိုင်းတည်နေ၏။

၂။ တည်တံ့သော သဘောရှိ၏။ ကမ်းကို လွန်ခြင်း လျှံတက်ခြင်း မရှိ။

၃။ မဟာသမုဒ္ဒရာထဲ၌ အသေကောင်ပုပ် မရှိပေ။ အသေကောင်ပုပ်ကို လက်မခံ။ လှိုင်းဖြင့် ပုတ်ခတ်၍ ကမ်းပေါ်သို့ တင်ပို့၏။

၄။ ဂင်္ဂါ၊ ယမုနာ စသော မြစ်ကြီးမြစ်ငယ် အသွယ်သွယ်တို့သည် မဟာ သမုဒ္ဒရာသို့ ရောက်လာသော် ရှေးက အမည်ဟောင်း ပျောက်ကွယ်၏။ 'မဟာသမုဒ္ဒရာ' ဟူသော အမည်သို့သာ ရောက်ကုန်၏။

၅။ မိုးရွာ၍ ဖြစ်စေ၊ မြစ်တို့မှ ရေ စီးဝင်လာ၍ ဖြစ်စေ၊ မဟာ သမုဒ္ဒရာ၌ ရေတိုးခြင်း၊ လျော့နည်းခြင်းဟူ၍ မသိသာ။

၆။ မဟာ သမုဒ္ဒရာရေသည် ငန်သော အရသာ တစ်မျိုးတည်းသာ ရှိ၏။

၇။ ရွှေ၊ ငွေ၊ ပုလဲ၊ မြ၊ သန္တာ၊ ပတ္တမြား စသော ရတနာ မျိုးစုံတို့သည် မဟာသမုဒ္ဒရာ၌ တည်ရှိကုန်၏။

၈။ မဟာသမုဒ္ဒရာ၌ ကြီးမားသော ငါးမျိုးတို့သည် တည်ရှိကုန်၏။ လွန်စွာ ရှည်လျားကြီးမားလှသော ငါးမျိုးတို့ နေထိုင်ကုန်၏။ မဟာသမုဒ္ဒရာ၏ အင်္ဂါရှစ်ပါးတို့ပေတည်း။

၁။ ဗုဒ္ဓ သာသနာတော်၌ အကျင့်လမ်းစဉ်သည် ရှိ၏။ သိက္ခာစဉ်သည် ရှိ၏။ အဆင့်ဆင့် အားဖြင့် အရဟတ္တဖိုလ်သို့ ရောက်ကြောင်း လုပ်ငန်းစဉ်သည် ရှိ၏။

၂။ သာသနာတော်တွင်းသို့ အစစ် အမှန် ရောက်ရှိလာသူတို့သည် ဗုဒ္ဓ ပညတ်ထားသော ကျင့်ဝတ် သိက္ခာကို မလွန်ဆန်ကုန်။ အသက် သေးကြောင့် သော်မျှလည်း မကျူးလွန်ကြကုန်။

၃။ အကျင့်သီလ စင်ကြယ်ကုန်သော ပုဂ္ဂိုလ်တို့သည် အကျင့်သီလ မစင်ကြယ်သူတို့နှင့် ဆက်ဆံ ရောနှောခြင်း မရှိပေ။

၄။ မင်း၊ ပုဏ္ဏား၊ သူဌေး၊ သူကြွယ်၊ ကုန်သွယ်လယ်လုပ် စသည်ဖြင့် မည်သည့် အမျိုးအနွယ် အဆင့်အတန်းမှ လာသူပင် ဖြစ်စေ၊ သာသနာ့ ဝန်ထမ်းအဖြစ် ဝင်ရောက်လာသော် အမည်ဟောင်း များကို စွန့်လွှတ်၍ 'ရဟန်း' ဟူသော အမည် တစ်ခုတည်းဖြင့် သာလျှင် တည်ရှိ၏။

၅။ သာသနာတော်၌ တရားကို ဆောက်တည်ကျင့်သုံးလျက် နိဗ္ဗာန်သို့ ဝင်ရောက်သူတို့သည် များပြားစွာ ရှိကုန်သော်လည်း နိဗ္ဗာန်ဟူသည် ယုတ်လျော့ခြင်း၊ ပိုလျှံခြင်း ဟူ၍ မရှိပေ။

၆။ ဤ သာသနာတော်၌ ကိလေသာမှ လွတ်မြောက်မှု ဟူသော အရသာ တစ်မျိုးတည်းသာလျှင် ရှိ၏။

၇။ ဤသာသနာတော်၌ သတိပဋ္ဌာန် လေးပါး၊ သမ္မပ္ပဓာန်လေးပါး၊ ဣဒ္ဓိပါဒ် လေးပါး၊ ဗိုလ်ငါးပါး၊ ဗောဇ္ဈင် ခုနစ်ပါး၊ မဂ္ဂင်ရှစ်ပါး ဟူသော များစွာသော ကျင့်ဝတ် လမ်းစဉ်ကောင်းများ ရှိ၏။

၈။ ဤသာသနာတော်၌ သောတာပန်ပုဂ္ဂိုလ်၊ သကဒါဂါမ် ပုဂ္ဂိုလ်၊ အနာဂါမ်ပုဂ္ဂိုလ်၊ ရဟန္တာပုဂ္ဂိုလ်တို့ များစွာရှိကြ၏။

ဗုဒ္ဓ သာသနာတော်၏ အင်္ဂါရှစ်ပါးတို့ ပေတည်း။

[–ဥဒါနပါဠိအဋ္ဌကထာ]

## ဆင်ဆိုသည်မှာ

ဗုဒ္ဓမြတ်စွာသည် သာဝတ္ထိပြည်၊ ဇေတဝန် ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ်အခါ ဖြစ်လေ၏။

ထိုအခါ ဗုဒ္ဓသည် ရဟန်းတို့အား သူကန်းဥပမာရှိသော တရားကို ဟောကြားလေသည်။

ရှေး၌ ဖြစ်ခဲ့ဖူးသည်မှာ ဤ သာဝတ္ထိပြည်၌ တစ်ဦးသော မင်းသည် ဆင်ကို မမြင်ဖူးကုန်သော ပုဏ္ဏားတို့အား ခေါ်ယူစေ၏။

မင်းရင်ပြင်သို့ ထိုပုဏ္ဏားများ ရောက်ရှိလာသောအခါ မင်းစီးဆင်ကိုလည်း ယူဆောင်လာစေပြန်၏။

ထိုမင်းသည် မျက်မမြင် ပုဏ္ဏား အသီးသီးတို့အား ဆင်ကို ကိုင်စမ်း စေလသည်။

ထို့နောက် ထိုမင်းသည် ပုဏ္ဏားတို့အား "သင်တို့သည် ဆင်ကိုမြင်ဖူးကြပြီလား၊ ဆင်ကို သိကြပြီလား"ဟု မေး၏။

"အရှင်မင်းကြီး၊ ကျွန်ုပ်တို့သည် ဆင်ကို မြင်ဖူးကြပါပြီ၊ သိလည်း သိကြပါပြီ"ဟု ပြန်ပြောလေသည်။

"ကောင်းပြီ၊ သင်တို့သည် ဆင်ကိုမြင်ဖူး သိဖူးလျှင် ပြောကြားကြလော့၊ ဆင်သည် ဘယ်သို့သော သဏ္ဌာန်ရှိသနည်း"

ဆင်ဦးခေါင်းကို ကိုင်စမ်းမိခသော ပုဏ္ဏားသည် "ဆင် ဆိုသည်မှာ ရေအိုးနှင့် တူပါသည်"ဟု ပြောလေသည်။

ဆင်နားရွက်ကို ကိုင်စမ်းမိသူက "ဆင်သည် ဗန်းစကောနှင့် တူပါသည်"ဟု ပြော၏။

ဆင်စွယ်ကို ကိုင်စမ်းမိသူက "ဆင်သည် ထွန်သွားနှင့် တူပါသည်"ဟု ပြော၏။

ဆင်နှာမောင်းကို ကိုင်စမ်းမိသူက "ဆင်သည် ထွန်တံနှင့်တူပါသည်"ဟု ပြော၏။

ဆင်၏ကိုယ်ကို ကိုင်စမ်းမိသူက "ဆင်သည် အိမ်နံရံနှင့်တူပါသည်" ဟု ပြော၏။

ဆင်ခြေထောက်ကို ကိုင်စမ်းမိသူက "ဆင်သည် အိမ်တိုင်နှင့် တူပါသည်"ဟု ပြော၏။

ဆင်၏ ခပါင်ကို ကိုင်စမ်းမိသူက "ဆင်သည် လက်ထောင်းဆုံနှင့် တူပါသည်"ဟု ပြော၏။

ဆင်၏ မြီးတံကို ကိုင်စမ်းမိသူက "ဆင်သည် ကျည်ပွေ့နှင့် တူပါသည်"ဟု ပြော၏။

ဆင်၏ မြီးဆံကို ကိုင်စမ်းမိသူက "ဆင်သည် တံမြက်စည်းနှင့် တူပါသည်" ဟု ပြော၏။

ထို့နောက် မျက်မမြင်ပုဏ္ဏားတို့သည် ဆင်၏သဏ္ဌာန်ကို အကြောင်းပြု၍ ငြင်းခုံကြလေကုန်၏။

"ဆင်သည် ရေအိုးနှင့်တူ၏၊ အခြားအရာနှင့် မတူ" ဟူ၍လည်းကောင်း၊

"ဆင်သည် ဗန်းဆန်ကောနှင့်သာ တူ၏၊ အခြား အရာနှင့် မတူ" ဟူ၍လည်းကောင်း၊

"ဆင်သည် ထွန်သွားနှင့် တူခြင်းသာ မှန်သည်၊ အခြား အရာနှင့် တူခြင်းကား မှား၏" ဟူ၍ လည်းကောင်း၊

ယင်းသို့ စသည်ဖြင့် ပုဏ္ဏားတို့သည် ငြင်းခုံကြကုန်၏။ ဆဲရေးကြိမ်းမောင်းကြကုန်၏။ ထိုးကြိတ် ပုတ်ခတ်ခြင်းလည်း ပြုကြကုန်၏။

## မမြင်မှု မသိမှုကြောင့်

ပညာရှိတို့၏ ဆုံးမ ညွှန်ပြမှုကို နာယူကျင့်သုံးခြင်း၊ မရှိသူတို့သည် အသိဉာဏ် ခေါင်းပါးကုန်၏။ ပညာမျက်စိကန်းကုန်၏။ ထိုသူတို့သည် အမှန်တရား၊ အမှန်လမ်းကို မသိမြင်ကြကုန်ဘဲလျက် အယူဝါဒ အမျိုးမျိုးဖြင့် ပြောဆို ငြင်းခုံလျက်သာ ရှိနေကြ၏။ လောကသည် မြဲ၏ ဟူ၍လည်းကောင်း၊ မမြဲဟူ၍ လည်းကောင်း၊ လောကသည် အစ အဆုံး ရှိသည် ဟူ၍လည်းကောင်း၊ မရှိ ဟူ၍လည်းကောင်း၊ အကြောင်းတရားကား ဤသို့၊ အကျိုးတရားကား ထိုသို့ စသည်ဖြင့် လည်းကောင်း ပြောဆို ငြင်းခုံဖောဒ ခိုက်ရန်ဒေါသလည်း ဖြစ်ပွားကြလေ၏။

[ဇစ္စန္ဓဝဂ်၊ နာနာတိတ္ထိယသုတ်]

## ပေါက်ပင် ဆိုသည်မှာ

တစ်ခါတစ်ရံဝယ် ရဟန်းတစ်ပါးသည် အခြား ရဟန်းတစ်ပါးထံ ချဉ်းကပ်၍ "ငါ့ရှင်၊ အဘယ်မျှလောက်ဖြင့် ရဟန်းအဖို့ အမြင်သန့်ရှင်းမှု ဖြစ်ပါသနည်း" ဟု မေးလေ၏။

"ငါ့ရှင်၊ ရဟန်းသည် တွေ့ထိမှု၏ တည်ရာ ဖဿာယတန ခြောက်ပါးတို့၏ ဖြစ်ခြင်း၊ ချုပ်ခြင်းကို ဟုတ်တိုင်းမှန်စွာ သိမြင်လျှင် အမြင်သန့်ရှင်းမှု ဖြစ်ပါ၏" ဟု ဖြေကြား၏။

ထိုရဟန်းသည် ဖြေသနာ၏ အဖြေကို ဤမျှဖြင့် မကျေနပ်သေးပေ။ ထို့ကြောင့် အခြား ရဟန်းတစ်ပါးထံ သွားရောက် ချဉ်းကပ်၍ မေးမြန်း၏။

"ငါ့ရှင်၊ အဘယ်မျှလောက်ဖြင့် ရဟန်းအဖို့ အမြင် သန့်ရှင်းမှု ဖြစ်ပါသနည်း"

"ငါ့ရှင်၊ ရဟန်းဟူသည် ဥပါဒါနက္ခန္ဓာ ငါးမျိုးတို့၏ ဖြစ်ခြင်း၊ ချုပ်ခြင်းကို ဟုတ်တိုင်းမှန်စွာ သိမြင်လျှင် အမြင်သန့်ရှင်းမှု ဖြစ်ပါ၏"ဟု အမေးခံရသော ရဟန်းက ဖြေကြားလေ၏။

ထိုရဟန်းသည် ဤမျှလောက်သော အဖြေဖြင့်လည်း မကျေနပ်နိုင်သေးပေ။ အခြား ရဟန်းတစ်ပါးထံ သွားရောက် ချဉ်းကပ်၍ မေးမြန်း၏။

အမေးခံရသော ရဟန်းက "ငါ့ရှင်၊ ရဟန်းသည် မဟာဘုတ်လေးပါးတို့၏ ဖြစ်ခြင်း ချုပ်ခြင်းကို ဟုတ်တိုင်းမှန်စွာ သိမြင်လျှင် အမြင်သန့်ရှင်းမှု ဖြစ်ပါ၏"ဟု ဖြေဆိုလိုက်လေ၏။

ထိုရဟန်းသည် ဤအဖြေကိုလည်း မကျေနပ်နိုင်သေးသဖြင့် အခြား ရဟန်းတစ်ပါးထံ ချဉ်းကပ် မေးမြန်းပြန်၏။

အမေးခံရသော ရဟန်းက "ငါ့ရှင်၊ ရဟန်းသည် 'ဖြစ်ခြင်းသဘော ရှိသော တရားအားလုံးသည် ချုပ်ခြင်း သဘော ရှိ၏'ဟု ဟုတ်တိုင်းမှန်စွာ သိမြင်လျှင် အမြင်သန့်ရှင်းမှု ဖြစ်နိုင်၏"ဟု ဖြေဆိုလိုက်လေ၏။

ထိုရဟန်းသည် ဤသည့် ဖြေကြားချက်ကိုလည်း မကျေနပ်သေးသဖြင့် မြတ်စွာဘုရားထံ သွားရောက် ချဉ်းကပ်ကာ မေးလျှောက်လေ၏။

"အရှင်ဘုရား၊ တပည့်တော်သည် ရဟန်းတစ်ပါးထံ ချဉ်းကပ်၍ 'ငါ့ရှင်၊ အဘယ်မျှလောက်ဖြင့် ရဟန်းအဖို့ အမြင်သန့်ရှင်းမှု ဖြစ်ပါသနည်း'ဟု မေးပါသည်၊ ထိုရဟန်းက 'ဖဿာယတန ခြောက်ပါးတို့၏ ဖြစ်ခြင်း၊ ချုပ်ခြင်းကို ဟုတ်တိုင်း မှန်စွာ သိလျှင် အမြင် သန့်ရှင်းမှု ဖြစ်နိုင်၏'ဟု ဖြေဆိုပါသည်။

"အရှင်ဘုရား၊ ထိုအဖြေကို မကျေနပ်သေးသဖြင့် တပည့်တော်သည် အခြား ရဟန်းထံ ချဉ်းကပ် မေးမြန်းရာ 'ဥပါဒါနက္ခန္ဓာ ငါးပါးတို့၏ ဖြစ်ခြင်း၊ ချုပ်ခြင်းကို ဟုတ်တိုင်း မှန်စွာ သိမြင်လျှင် အမြင်သန့်ရှင်းမှု ဖြစ်နိုင်၏'ဟု ဖြေဆိုပါသည်။

"အရှင်ဘုရား၊ ထိုအဖြေကို တပည့်တော် မကျေနပ် သေးသဖြင့် အခြား ရဟန်းတစ်ပါးထံ ချဉ်းကပ် မေးမြန်းပြန်ရာ 'မဟာဘုတ်လေးပါး တို့၏ ဖြစ်ခြင်း၊ ချုပ်ခြင်းကို ဟုတ်တိုင်းမှန်စွာ သိမြင်လျှင် အမြင် သန့်ရှင်းမှု ဖြစ်နိုင်၏'ဟု ဖြေဆိုပါသည်။

"အရှင်ဘုရား၊ တပည့်တော်သည် ထိုအဖြေကိုလည်း မကျေနပ်နိုင် သေးသဖြင့် အခြား ရဟန်းတစ်ပါးထံ ချဉ်းကပ် မေးမြန်း ပြန်ပါသည်။ 'ဖြစ်ခြင်း သဘောရှိသော တရား အားလုံးသည် ချုပ်ခြင်းသဘော ရှိကုန်၏ဟု၊ ဟုတ်တိုင်းမှန်စွာ သိမြင်လျှင် အမြင်သန့်ရှင်းမှု ဖြစ်နိုင်၏'ဟု ဖြေဆိုလိုက်ပါသည်။

"အရှင်မြတ်ဘုရား၊ တပည့်တော်သည် ထိုထို ဖြေကြားချက်များကို မကျေနပ် မရောင့်ရဲသဖြင့် မြတ်စွာဘုရားထံ ချဉ်းကပ်ရောက်လာခြင်း ဖြစ်ပါသည်၊ မြတ်စွာဘုရားအား လျှောက်ထားပါသည်၊ 'အဘယ်မျှ လောက်ဖြင့် ရဟန်းအား အမြင်သန့်ရှင်းမှု ဖြစ်ပါသနည်း'ဘုရား"

ထိုအခါ မြတ်စွာဘုရားသည် မေးမြန်းသော ပြဿနာကို ဥပမာဖြင့် ဖြေဆိုတော်မူလေသည်။

"ရဟန်း၊ ဥပမာသော်ကား ပေါက်ပင်ကို မမြင်ဖူးသော ယောကျ်ား သည် ပေါက်ပင်မြင်ဖူးသော အခြားသူ တစ်ဦးထံ ချဉ်းကပ်၍ 'အမောင်၊ ပေါက်ပင်ဟူသည် အဘယ်သို့ပါနည်း'ဟု မေးမြန်း၏၊ အမေးခံရသူက 'ပေါက်ပင် ဟူသည်မှာ မီးလောင်ငုတ်ကဲ့သို့ မည်းနက်လျက် ရှိ၏' ဟု ဖြေကြားလိုက်၏။

"ရဟန်း၊ ထို အချိန်၌ ပေါက်ပင်သည် ထိုသူ မြင်သည့်အတိုင်းပင် မည်းနက်လျက် ရှိနေ၏။

"ရဟန်း၊ ထိုယောကျ်ားသည် အဖြေကို မကျေနပ်နိုင်သေးသဖြင့် အခြားသူ တစ်ဦးထံ ချဉ်းကပ် မေးမြန်းပြန်၏၊ ထိုသူက 'ပေါက်ပင် ဟူသည်မှာ သားတစ်ကဲ့သို့ ခြင်းခြင်းနီလျက် ရှိ၏' ဟု ဖြေကြားလိုက်၏။

"ရဟန်း၊ ထိုအချိန်၌ ပေါက်ပင်သည် ထိုသူ မြင်သည့် အတိုင်းပင် ခြင်းခြင်းနီလျက် ရှိနေ၏။

"ရဟန်း၊ ထိုယောကျ်ားသည် ကြားရသောအဖြေကို မကျေနပ်နိုင် သေးသဖြင့် အခြားသူ တစ်ဦးထံ ချဉ်းကပ် မေးမြန်းပြန်၏။ ထိုသူက

'ပေါက်ပင် ဟူသည်မှာ ကုက္ကိုပင်ကဲ့သို့ သန်လျက်အိမ်သဖွယ် တွဲရရွဲ ကျသော အသီး ရှိပေသည်'ဟု ဖြေကြားလိုက်၏။

''ရဟန်း၊ ထိုအချိန်၌ ပေါက်ပင်သည် ထိုသူ မြင်သည့်အတိုင်းပင် အသီးများ တွဲရရွဲကျလျက် ရှိနေ၏။

''ရဟန်း၊ ယောကျ်ားသည် ကြားရသော အဖြေကို မကျေနပ်သေးသဖြင့် အခြား ပေါက်ပင်ကိုမြင်ဖူးသူ တစ်ဦးထံသို့ ချဉ်းကပ်၍ 'အမောင်၊ ပေါက်ပင်ဆိုသည်အဘယ်သို့ပါနည်း'ဟု မေးမြန်း၏၊ ထိုသူက 'ပေါက်ပင် ဟူသည်မှာ ပညောင်ပင်ကဲ့သို့ ထူထပ်သော ရွက်နု ရွက်ရင့်ရှိ၏။ ထိုးပ်နေသော အရိပ်လည်းရှိ၏'ဟု ဖြေကြားလိုက်၏။

''ရဟန်း၊ ထိုအချိန်၌ ပေါက်ပင်သည် ထိုသူ မြင်သည့် အတိုင်းပင် ရွက်နု ရွက်ရင့်များ ထူထပ်လျက် အရိပ်လည်း ထိစပ်လျက် ရှိနေ၏။

''အို-ရဟန်း၊ ငါ၏ အတူ ပင် တည်း၊ အမြင်သန့်ရှင်းမှု သဘောကို သိလိုသော သင်ရဟန်းအား ငါဘုရားသည် ဤဥပမာကို ဟောကြားပေ၏။

''အို-ရဟန်း။ အကြင် အကြင်သို့သော အခြင်းအရာဖြင့် နှလုံးသွင်းကုန်သော ထိုသူတော်ကောင်းတို့အား အမြင်သန့်ရှင်း၏၊ ထိုထိုသို့သော အခြင်းအရာအားဖြင့်သာလျှင် ထို သူတော်ကောင်းတို့ ဖြေဆိုလိုက်ခြင်း ပေတည်း''

[သဠာယတနသံယုတ်၊ ကိံသုကောပမသုတ်]

မှတ်ချက်။ ။ဆင်နှင့် ပေါက်ပင် ဥပမာ နှိုင်းပုံ ရှေ့နောက်စဉ်၍ ပြလိုသဖြင့် သံယုတ္တနိကာယ်ကိုင်း မှ ယူ၍ ခုဒ္ဒကနိကာယ်ပိုင်းတွင် ဖော်ပြခြင်း ဖြစ်၏။

## မီးသတ်ပွဲ

ပိုးဖလံတို့သည် ပူလောင်တတ်သော မီးတောက် မီးလျှံထဲသို့သာလျှင် တိုးဝင်လာကြလေ၏။ မီးတောက် မီးလျှံကိုမြင်လျှင် မြူးထူးပျော်ရွှင်

လာကြစဉ်မှဲသည်၊ ဖြစ်ပေ၏။ ပုပ္ပါး လောင်ကျွမ်းတတ် မည်ကို မသိသဖြင့် နှစ်သက်စွဲမက်ကာ မီးလျှံထဲသို့ တိုးဝင်သေဆုံးကြရလေ၏။

အချို့ ကုန်သော သူတို့သည် ရာဂ စသော ကိလေသာ မီးလျှံသို့ တိုးဝင်ကာ ဘဝအညီးဟူသော မီးကြီးစုသို့ ကျရောက် လောင်ကျွမ်းလျက် ရှိကုန်၏။

ထိုသူတို့သည် သီလ၊ သမာဓိ၊ ပညာ စသော အမြင်မှန် လမ်းမှန်ကို ဖယ်ရှားလျက် တဏှာ ဒိဋ္ဌိ ဟူသော အမြင်မှား လမ်းမှားတို့သာ ထွက်အဘင်း ဝင်တိုးနေကြသူများပေတည်း။

[-ဥဒါန် ပဌဝဂ္ဂ သုတ်]

## ကူးမြောက်ခြင်း နှစ်မျိုး

လူ အပေါင်းတို့သည် မြစ်ကို ကူးရန်အတွက် ဖောင်ကို ဖွဲ့နေကြရသေး၏။ ထံဘားကိုခသော်လည်း ဆောက်လုပ်နေကြရသေး၏။

ကိလေသာ ညွန်ဗွက် တဏှာမြစ်ပြင်ကို အရိယာမဂ် တည်းဟူသော တံတားဖြင့် ကူးမြောက်ခဲ့ပြီး ဖြစ်သော အရိယာပုဂ္ဂိုလ်တို့ကား အဘယ် ပြုဖွယ်ရာ ရှိသေးအံ့နည်း။

[-ပါဋလိဂါမိယဝဂ်]

## မခရာနေ့ခြင်း

ကြိုးကြာ ငှက်တို့ မည်သည် ရေရောသားသော နို့ရည်ကို သောက်ရာ၌ ရေကိုစွန့်ပယ်၍ နို့ရည်ကိုသာ သောက်သုံးလေ၏။

အမှန်အရား၊ အမှန်လမ်းကို သိမြင်ပြီးသော ပညာရှိတို့သည် လူမိုက် လူဆိုးတို့နှင့် အတူအကွ နေထိုင်၊ သွားလာ၊ ရောနှော ရသော်လည်း မကောင်းမှုကိုကား မပြုလုပ်ပေ။

[-မှိဓာပထသုတ်]

## နိဗ္ဗာန်သို့

ရာဇဂြိုဟ်ပြည် ဝေဠုဝန် ကျောင်းတော်၌ သီတင်းသုံး နေတော်မူသော ဗုဒ္ဓမြတ်စွာ ထံသို့ မလ္လမင်း၏ သား အရှင်ဒဗ္ဗသည် ချဉ်းကပ် ရောက်ရှိလာ၏။

"အရှင်မြတ် ဘုရား၊ ယခုအခါသည် တပည့်တော်၏ ပရိနိဗ္ဗာန်ပြုရန် အခါပါတည်း" ဟု လျှောက်ထားလေသည်။

ထိုအခါ ဗုဒ္ဓက "ဒဗ္ဗ၊ ယခုအခါ အသင်၏ ပရိနိဗ္ဗာန်ပြုရန် အခါကို သင်သည်ပင်လျှင် သိ၏" ဟု ပြန်ကြားလေသည်။

အရှင်ဒဗ္ဗသည် ဗုဒ္ဓမြတ်စွာကို ရှိခိုးအရိုအသေပြုပြီးလျှင် ကောင်းကင်သို့ ပျံတက်သွားလေ၏။ ထို့နောက် အရှင်ဒဗ္ဗသည် ကောင်းကင်၌ ထက်ဝယ် ဖွဲ့ခွေနေလျက် တေဇောဓာတ်ကိုဝင်စား၍ ထိုသမာပတ်မှ ထကာ ပရိနိဗ္ဗာန် ပြုလေ၏။

"ရဟန်းတို့၊ ယခုအခါ တေဇောဓာတ်ကို ဝင်စားလျက် ထိုသမာပတ်မှ ထကာ ပရိနိဗ္ဗာန်ပြုသော ဒဗ္ဗ၏ ခန္ဓာကိုယ်ကို ကြည့်ကြလော့၊ အလုံးစုံ ကွယ်ပျောက် ချုပ်ငြိမ်းလေပြီ၊ ပြာသည်လည်းကောင်း၊ မီးသွေးသည်လည်းကောင်း မကျန်ရှိလေပြီ၊ ဆီ-ထောပတ်တို့ကို မီးရှို့သော် မီးသွေးဟူ၍-ပြာဟူ၍ မကျန်ရှိနိုင်သကဲ့သို့တည်း" ဟု ကျူးရင့်တော်မူ၏။

"ရဲရဲ လောင်ညီးနေသော မီးဖုတ်သံပြားကို မီးဖိုမှ ဆယ်ယူချထားလေသော် ထိုသံပြားမှ မီးအလျှံသည် အစဉ်အတိုင်း ငြိမ်းသွားလေ၏၊ ထိုသို့ငြိမ်းသွားသောမီး၏ သွားရာလမ်းကို မသိနိုင်သကဲ့သို့ ကာမဘုံ သာမ အားလုံးကို လွန်မြောက်ပြီး၍ နိဗ္ဗာန် ချမ်းသာကို ရကြကုန်သော ရဟန္တာ ပုဂ္ဂိုလ်တို့၏ လားရာ ဂတိသည် မရှိတော့သည်သာတည်း" ဟူ၍လည်း ကျူးရင့်တော်မူ၏။

[—ဥဒါန်းပါဠိ]

## ဤမိုးနှင့် ဤလူ

ဤလောက၌ အချို့သော မိုးသည် မိုး ဟု ဆိုရသော်လည်း မည်သည့် အရပ်ဒေသတွင်မျှ မရွာသွန်းဘဲ ရှိ၏။

အချို့မိုးသည် မြင့်ရာအရပ်၌သာ ရွာ၍ နိမ့်ရာ အရပ်၌ မရွာသွန်းဘဲ ရှိ၏။ နိမ့်ရာအရပ်၌သာ ရွာ၍ မြင့်ရာ အရပ်၌ မရွာသွန်းဘဲလည်း ရှိ၏။

အချို့မိုးသည်ကား နိမ့်ရာ အရပ်၌ လည်းကောင်း၊ မြင့်ရာ အရပ်၌ လည်းကောင်း ရွာသွန်းသေ၏။

အချို့သောသူသည် မည်သည့် အလှူခံပုဂ္ဂိုလ်ကိုမျှ ပေးလှူစွန့်ကြဲခြင်း မရှိပေ။ ပထမမိုးနှင့် တူသူတည်း။

အချို့သောသူသည် အလှူခံပုဂ္ဂိုလ်များအနက် အချို့ကိုသာပေးလှူ စွန့်ကြဲ၏၊ အချို့ကို ပေးလှူစွန့်ကြဲခြင်းမရှိ။ ဒုတိယမိုးနှင့် တူသူတည်း။

အချို့သော သူသည် အလှူခံပုဂ္ဂိုလ်အားလုံးကို ပေးလှူ စွန့်ကြဲ၏။ တတိယမိုးနှင့် တူသူတည်း။

[ခုဒ္ဒကပါဌ်တော်၊ ဣတိဝုတ်ပါဠိတော်၊ အဝုဋ္ဌိကသုတ်]

## ကူးစက်ခြင်း ပွဲထင်ခြင်း

လေးသမားသည် သူ၏ မြားကျည်တောက်ထဲ၌ မြားတံအချို့ကို ထည့်သွင်းထားလေ၏။

အဆိပ်လူးပြီးသည့် မြားတံလည်းပါရှိသည်၊ အဆိပ်မလူးရသေးသည့် မြားတံသည်း ပါရှိသည်။

လေးသမားသည် မြားကျည်တောက်ထဲမှ မြားတံအားလုံးကို ထုတ်ယူ၍ ကြည့်လိုက်သောအခါ အဆိပ်ဖြင့် ပေကျံလျက်ရှိသော မြားတံအားလုံးကို တွေ့မြင်ရပေလိမ့်မည်။

သူတော်ကောင်းတို့သည် သူယုတ်မာတို့နှင့် အတူတကွ ပေါင်းသင်းဆက်ဆံမှုမပြုကြပေ။ သူယုတ်မာတို့၏ မကောင်း ယုတ်မာမှုသည် ကူးစက်

လိမ်းကျံ တတ်သောကြောင့် ဖြစ်၏။ 'ထိုသူသည် ထို ယုတ်မာသူတို့နှင့် ဆက်ဆံပေါင်းသင်း၏၊ ထို သူယုတ်မာကဲ့သို့ပင် မကောင်းမှုပြုကျင့်ပေလိမ့်မည်' ဟူ၍ ပတ်ဝန်းကျင်၏ အထင်ခံရခြင်းဖြင့် အနည်းဆုံးသောကူးစက် လိမ်းကျံခြင်း သဘော ရှိ၏။

ထို့ကြောင့် သူတော်ကောင်းသည် သူတော်ကောင်းကို သာလျှင် ဆက်ဆံပေါင်းသင်းလေ့ရှိ၏။ သူယုတ်မာကို ရှောင်ခွာလေ့ရှိ၏။

ငါးပုပ်ကိုထုပ်သောဖက်ရွက်၌ ပုပ်ညှီသော ငါးပုပ်နံ့ စွဲထင်လေ၏။

တောင်စလေပ်ပန်းကို ထုပ်သော ဖက်ရွက်၌ မွှေးကြိုင် သင်းပျံ့သော တောင်စလေပ် ပန်းရနံ့ စွဲထင်လေသည်။

[-သုံးပေတ္တနသုတ်]

## ရေစုန်မျောခြင်း၊ မမျောခြင်း

တစ်ရံခါဝယ် ဗုဒ္ဓမြတ်စွာသည် ရဟန်းတို့အား ခေါ်တော်မူ၍ ဥပမာနှင့် ယှဉ်သော တရားကို ဟောကြားတော်မူ၏။

"ရဟန်းတို့၊ ယောကျ်ား တစ်ယောက်သည် မြစ်၏ အထက်ဘက်မှ အောက်ဘက်သို့ မြစ်ရေအလျဉ်အတိုင်း ရေစုန်မျောကာ လိုက်ပါသွားရာ၏။ ထိုယောကျ်ားသည် ရွှေငွေစသော ပစ္စည်းဥစ္စာကို ရယူလိုမှုဖြင့် လိုက်ပါသွားခြင်းတည်း။

ထို အကြောင်းကို သိလည်း သိ၍ မြင်လည်း မြင်သော အခြား ယောကျ်ား တစ်ဦးသည် ထို ရေစုန်မျော လိုက်ပါသူကို 'အမောင် ယောကျ်ား၊ သင်သည် ရွှေငွေဘဏ္ဍာ ဥစ္စာကို ရယူလိုမှုဖြင့် ရေစုန်မျော၍ လိုက်စေကာမူ ဤမြစ်၏ အောက်အရပ်၌ ရေအိုင်ကြီးတစ်အိုင် ရှိ၏၊ ထို ရေအိုင်၌ လှိုင်းတံပိုးလည်း ရှိပေသည်၊ ဝဲသည်လည်း ရှိပေသည်၊ မိကျောင်း ငါးမန်းများလည်း ရှိပေသည်' ဟု သတိပေး ပြောကြားရာ၏။

"ထိုယောကျ်ားသည် သတိပေးစကားကြောင့် အောက်သို့ ရေစုန် မျောမလိုက်တော့ဘဲ အထက်အညာဘက်သို့သာလျှင် လက် -ခြေတို့ဖြင့် ကူးယက် အားထုတ်ရာ၏။

"ရဟန်းတို့၊ ဤကား ဥပမာ ဖြစ်ပေသည်။

"မြစ်ရေအလျဉ်" ဟူသော အမည်သည် တဏှာ၏ အမည်ပေတည်း။

"ရွှေ ငွေ စသော ပစ္စည်း ဥစ္စာဟူသည် အဇ္ဈတ္တိကာယတန ခြောက်ပါးတို့၏ အမည်တည်း။

"ရေအိုင်ကြီး ဟူသည်မှာ အောက်ပိုင်း သံယောဇဉ် ငါးပါးတို့၏ အမည်တည်း။

"လှိုင်းတံပိုး ဟူသည်မှာ အမျက်ထွက်မှု ဒေါသ၊ ပင်ပန်းမှု ဥပါယာသ တို့၏ အမည်တည်း။

"ဝဲ ဟူသည်မှာ ကာမဂုဏ် ငါးပါးတို့၏ အမည်တည်း။

"မိကျောင်း၊ ငါးမန်း ဟူသည်မှာ မာတုဂါမ၏ အမည်တည်း။

"အထက် အညာဘက် ဟူသည်မှာ ကာမဂုဏ်မှ လွတ်မြောက်မှု၏ အမည်တည်း။

"လက် ခြေတို့ဖြင့် ကူးယက် အားထုတ်ခြင်း ဟူသည်မှာ လုံ့လ ဝီရိယ၏ အမည်တည်း။

"သတိပေးသော အမြော် ယောကျ်ားတစ်ဦး ဟူသည်မှာ လမ်းမှန်ကို ဟောကြား ဆုံးမတော်မူတတ်သော မြတ်စွာဘုရား၏ အမည်ပေတည်း။

[စတုက္ကနိပါတ်၊ နဒီသောတသုတ်]

## လယ်ထွန်ခြင်း နှစ်မျိုး

ဗုဒ္ဓမြတ်စွာသည် မဂဓတိုင်း ဧကနာဠ ပုဏ္ဏားရွာ၌ သီတင်းသုံး နေတော်မူစဉ် ဖြစ်၏။

ကသိဘာရဒွါဇ အမည်ရှိသော ပုဏ္ဏားသည် သူ၏လယ်ကွင်း၌ လယ်ထွန်သော နေ့လည်း ဖြစ်လေသည်။

ထိုပုဏ္ဏားသည် ထွန်ဖြုတ်၍ သူ၏ လယ်လုပ်သားများအား ထမင်း ကျွေးချိန်၌ ဗုဒ္ဓသည် အနီးသို့ ကြွရောက်လာလေ၏။ သပိတ်နှင့် တကွ

ရပ်လျက်ရှိသော ဗုဒ္ဓအား ပုဏ္ဏားသည် "အိုရဟန်း၊ ငါသည် ထွန်ယက် စိုက်ပျိုးပြီး စားသူတည်း၊ သင်သည်လည်း ထွန်ယက် စိုက်ပျိုးပြီး စားပါလော့" ဟု ပြောကြားလေသည်။

ထိုအခါ ဗုဒ္ဓက "ပုဏ္ဏား၊ ငါဘုရားသည်လည်း ထွန်ယက်စိုက်ပျိုးပြီး စားသည်သာတည်း" ဟု မြွက်ကြားလိုက်လေ၏။

"အရှင်ဂေါတမ၊ သင်၏ လယ်ထွန်ခြင်းကို ငါတို့ မမြင်ပါကလား၊ ထွန်တုံး၊ ထွန်သွားနှင့် ခိုင်းနွားကိုလည်း မမြင်ရပါလား" ဟု ဆိုပြန်လေ၏၊

ဤတွင် ဗုဒ္ဓမြတ်စွာသည် ကသိက ဘာရဒွါဇ ပုဏ္ဏားအား ထွန်ယက်ခြင်း ဥပမာနှင့် စပ်ဆိုင်သော တရားစကားကို ဟောကြားလေသည်။

"ပုဏ္ဏား၊ ငါဘုရား၏ သဒ္ဓါတရားသည် မျိုးစေ့မည်၏၊ ကုသိုလ်ကို စောင့်စည်းမှုသည် မိုးရွာခြင်း မည်၏၊ ငါ၏ ပညာသည် ထမ်းပိုးနှင့် ထွန်တုံးမည်၏၊ မကောင်းမှု၌ ရှက်ကြောက်မှုသည် ထွန်တံမည်၏။ ငါ၏ စိတ်သည် ကြိုးလွန် မည်၏၊ အောက်မေ့မှု သတိသည် ထွန်သွားနှင့် နှင်တံ မည်၏။

"ပုဏ္ဏား၊ သင်သည် လယ်ကို စောင့်ရှောက်သကဲ့သို့ ငါသည်လည်း ကိုယ်ကို စောင့်ရှောက်၏၊ နှုတ်ကို စောင့်ရှောက်၏၊ ဝမ်း၌ အတိုင်း အရှည်ကို သိရန် စောင့်ရှောက်၏၊ အာဟာရ၌ အသက်မွေးမှု စင်ကြယ်စေရန် စောင့်ရှောက်၏၊ ဖောက်ပြန် ချွတ်ယွင်းခြင်း စကား တည်းဟူသော ပေါင်းမြက်ဘိုကို မှန်သောစကား တည်းဟူသော တူးရွင်းဖြင့် ပြုတ်သင်ရှင်းလင်း၏၊ နိဗ္ဗာန်၌ မွေ့လျော်မှု ဟူသော ငါ၏ အရဟတ္တဖိုလ်သည် ပြုလုပ်ဖွယ် အားလုံးတို့မှ လွတ်မြောက်လေတော့၏။

"ငါ၏ ဝီရိယသည် ဝန်ကို ဆောင်သော နွားမည်၏၊ အကြင် နိဗ္ဗာန်သို့ ရောက်သည် ရှိသော် မစိုးရိမ်ရတော့ပေ၊ ထို နိဗ္ဗာန်သို့ ရှေးရှု ဆောင်လျက် မဆုတ်မနစ် သွား၏။

"ပုဏ္ဏား၊ ဤသို့သော အခြင်းအရာ အားဖြင့် ငါသည် လယ်ထွန်ခြင်း ပေတည်း၊ ထို လယ်ထွန်ခြင်းသည် နိဗ္ဗာန်ဟူသော အသီးအနှံ ရှိသည်

တည်း။ ထိုသို့သော အခြင်းအရာအားဖြင့် လယ်သွန်အပ်ပြီးဖြစ်၍ ငါသည် ဆင်းရဲမှုအားလုံးမှ လွတ်မြောက်ခဲ့ပြီတည်း"

[-သုတ္တနိပါတ် ပါဠိတော်၊ ဥရဂဝဂ်]

## ပယ်ဖျက်ခြင်း စွန့်လွှတ်ခြင်း

မြွေကိုက်ခံရသူသည် တစ်ကိုယ်လုံး ပျံ့နှံ့လျက်ရှိသော အဆိပ်ကို မြွေဆိပ်ပြေဆေးဖြင့် ကုသ ဖျောက်ဖျက် ပစ်သကဲ့သို့ အကြင် ရဟန်းသည် ဖြစ်ပေါ်လာသော အမျက်ဒေါသကို ပယ်ဖျက်ပစ်ရာ၏။

အားကြီးသော ရေအလျဉ်သည် သေးငယ်သော ကျူးရိုးတံတားကို တိုက်ဖျက်သွားသကဲ့သို့ အကြင်ရဟန်းသည် ဖြစ်ပေါ်လာသော မာနကို ပယ်ဖျက်ရာ၏။

ရေသဖန်းပင် တို့၌ အပွင့်ကို ရှာဖွေကြည့်သော် မတွေ့နိုင်သကဲ့သို့ အကြင် ရဟန်းသည် ဘဝ တို့၌ ပညာဖြင့် စူးစမ်းရှာဖွေသော် အနှစ်သာရကို မရနိုင်။ မြွေသည် ဆွေးမြည့်သော အရေ အဟောင်းကို စွန့်လွှတ်သကဲ့သို့ ထို ရဟန်းသည် သံသရာ တည်းဟူသော သမုဒ္ဒရာ၏ ဤမှာဘက်ကမ်းကို စွန့်၏။

[-ဥရဂသုတ်]

## ဓနိယ မောင်နှံ

ကိုယ်ပိုင် နွားအုပ်ကို ထိန်းကျောင်းသူ နွားကျောင်းသား၊ ဓနိယသည် ဤသို့ ကြွေးကြော်လေ၏။

"ငါသည် ထမင်း ချက်ပြီးလေပြီ၊ နွားနို့လည်း ညှစ်ယူပြီးပြီ၊ မဟီမြစ်ကမ်းနားဌ် အခြံအရံနှင့် တကွ နေထိုင်သူ ငါ့အား မီးလည်း ညှိထွန်းပြီးလေပြီ၊ ငါ၏ အိမ်ကိုလည်း လုံခြုံအောင် မိုးပြီးခဲ့ပြီ၊ အို မိုးမင်း၊ ဒေဝါ၊ ရွာလိုက ရွာချလိုက်ပါလော့"

ထိုအခါ ဗုဒ္ဓမြတ်စွာသည် ဤသို့ ကျူးရင့်တော်မူ၏။

"ငါသည် အမျက် မထွက်သူဖြစ်၏၊ စိတ်၌ ငူးဝင်တတ်သော ဆူး ငြောင့် ကင်းပြီးသူ ဖြစ်၏၊ မဟီ မြစ်ကမ်း၌ တစ်ညဉ့်တာ မျှသာ

နေထိုင်သူ ဖြစ်၏၊ ငါ၏ ခန္ဓာအိမ်ကို ကိလေသာအမိုး ဖွင့်လှစ်ထားပြီ၊ မီး ၁၁ ပါး ငြိမ်းအေးခဲ့လေပြီ၊ အို–ကိလေသာ တည်းဟူသော မိုးပဇ္ဇုန်၊ သင် ရွာသွန်းလိုမူ ရွာသွန်းလေလော့''

ဓနိယ။ ။''ဤ အရပ်၌ မှက် ခြင်တို့ မရှိကုန်၊ မြက်ပင်တို့ ပေါက်ရောက်ရာ မြစ်ဝှမ်း၌ နွားတို့ ကျက်စားကုန်၏၊ ထိုနွားတို့သည် မိုးကြီး ရွာချလျှင် ခံနိုင်ရည် ရှိနေကြသည်၊ အို–မိုးမင်းဒေဝါ၊ ရွာလိုက ရွာပါလေလော့''

ဗုဒ္ဓ။ ။''ငါဘုရားသည် အရိယာမဂ် တည်းဟူသော ဖောင်ကို ကောင်းစွာ ဖွဲ့စီရင်ထားပြီး ဖြစ်၏။ သြဃ လေးပါး တည်းဟူသော ရေအလျဉ်ကို တွန်းလှန် ပယ်ဖျောက် ကူးမြောက်၍ နိဗ္ဗာန် ဟူသော တစ်ဖက်ကမ်း သို့ရောက်ခဲ့ပြီဖြစ်၏၊ ထို့ကြောင့် ငါ့အား ဖောင်ဖြင့်အကျိုး မရှိတော့ပေ၊ ကိလေသာတည်းဟူသော မိုးပဇ္ဇုန် သင် ရွာလိုက ရွာလေလော့''

ဓနိယ။ ။''ငါ၏ အိမ်ရှင်မ ဂေါပီသည် လင့်အလို လိုက်တတ်ပေ၏၊ လော်လည်မှု ကင်း၏၊ ကာလ ရှည်စွာ ပေါင်းသင်းခဲ့သော မယားဖြစ်၏၊ ငါ့ကိုလည်း မြတ်နိုးတတ်၏၊ ထို မယား၏ အပြစ်ကို တစ်စုံ တစ်ရာကိုမျှ ငါမကြားဖူးပေ၊ မိုးမင်းဒေဝါ ရွာချင်သလောက် ရွာပါလေလော့''

ဗုဒ္ဓ။ ။''ငါ၏ စိတ်သည် ငါ့အလိုသို့ လိုက်၏၊ ကိလေသာ အနှောင် အဖွဲ့မှ လွတ်၏၊ ကာလရှည်စွာ ထက်ဝန်းကျင် ပွားများစေအပ်ပြီး ဖြစ်၍ ကောင်းစွာ ယဉ်ကျေးပြီးလည်း ဖြစ်၏၊ ထို့ကြောင့် ငါ့အား မကောင်းမှု ဟူ၍ မရှိတော့ပေ၊ ကိလေသာတည်းဟူသော မိုးပဇ္ဇုန် ရွာလိုက ရွာချ လိုက်ပါလေလော့''

ဓနိယ။ ။''ငါသည် ကိုယ်ပိုင်အလုပ်ဖြင့်သာ အသက်မွေးမြူ၏၊ သားသမီးတို့သည်လည်း ငါနှင့်အတူတကွ နေထိုင်ကြ၏။ အနာရောဂါ မရှိကြကုန်၊ ထို သားသမီးများသည် အပြစ်ကင်းစင်ကြကုန်၏၊ မိုးမင်း ဒေဝါ ရွာလိုက ရွာချလိုက်ပါလေလော့''

ဗုဒ္ဓ။ ။ငါသည် တစ်စုံ တစ်ယောက်သော သူ၏ အစေအပါး မဟုတ်၊ သဗ္ဗညုတဉာဏ် လောကုတ္တရာ သမာဓိ ချမ်းသာဖြင့် လောက အားလုံး၌ လှည့်လည်နိုင်သူ ဖြစ်၏၊ ထို့ကြောင့် ငါ့အား အဖိုးအခဖြင့် အကျိုးမရှိ

တော့ပေ၊ ကိလေသာ တည်းဟူသော မိုးပဇ္ဇုန်-ရွာ သွန်းလိုက ရွာသွန်း လေဘလော့"

ဓနိယ။ ။"ကျွန်ုပ်အရပ်၌ ငါ့အား မသင်းကွပ်ရသေးသော နွားပေါက်များလည်း ရှိ၏၊ နို့စို့ နွားငယ်များ၊ ကိုယ်ဝန်ဆောင် နွားမများလည်း ရှိ၏၊ အရွယ် ရောက်ပြီးသော နွားမများနှင့် ခေါင်းဆောင် နွားလား ဥသဘလည်း ရှိ၏၊ မိုးမင်းဒေဝါ-ရွာလိုက ရွာပါလော့"

ဗုဒ္ဓ။ ။"ကျွန်ုပ်သာသနာတော်၌ ငါ ဘုရားအား မသင်းကွပ်ရသေးသည့် နွားပေါက် တည်းဟူသော ပရိယုဋ္ဌာန ကိလေသာ တို့သည် မရှိကုန်၊ နို့စို့ နွားငယ်တည်းဟူသော အနုသယ ကိလေသာတို့သည်လည်း မရှိကုန်၊ ကိုယ်ဝန်ဆောင် နွားမတည်းဟူသော ပုညာဘိသင်္ခါရ စေတနာတို့ သည်လည်းကောင်း၊ အရွယ်ရောက် နွားမတည်းဟူသော တဏှာတို့သည် လည်းကောင်း မရှိကုန်၊ နွားတို့၏ အကြီးဖြစ်သည့် နွားလားဥသဘ တည်းဟူသော အဘိသင်္ခါရ ဝိညာဉ်လည်း မရှိ၊ ကိလေသာ တည်းဟူသော မိုးပဇ္ဇုန်-ရွာလိုက ရွာပါလေလော့"

ဓနိယ။ ။"ငါ၏ နွားချည်တိုင်တို့သည် မြဲမြံ ခိုင်ခံ့ကုန်၏၊ မြုံဆံမြက် ကြိုးများကိုလည်း အသစ်ပြုပြင်၍ ကောင်းစွာ ကျစ်ထားပြီးပြီ၊ နွားငယ်တို့သည် ကြိုးကို ဖြတ်မထွက်နိုင်ကြလတ္တံ့၊ မိုးမင်းဒေဝါ-ရွာလိုအ ရွာလိုက်ပါလော့"

ဗုဒ္ဓ။ ။"နွားလားဥသဘသည် ကြိုးကို ဖြတ်၍ တည်နေသကဲ့သို့ ငါဘုရားသည် အထက်ပိုင်း သံယောဇဉ်ကို ဖြတ်ခဲ့လေပြီ၊ ဆင်ပြောင် ကြီးသည် ဆင်တုံးမနွယ်ကြိုးကို ဖြတ်၍ တည်နေသကဲ့သို့ ငါဘုရားသည် အောက်ပိုင်း သံယောဇဉ် အနှောင်အဖွဲ့ကို ဖြတ်ခဲ့လေပြီ၊ ထို့ကြောင့် ငါ့အား အမိဝမ်းတိုက်၌ ကိန်းနေခြင်းသို့ ရောက်တော့မည် မဟုတ်ပေ၊ ကိလေသာ တည်းဟူသော မိုးပဇ္ဇုန်-သင်ရွာလိုအ ရွာချလိုက်ပါလော့"

ထို ခဏ၌ မိုးသည်းထန်စွာ ရွာသွန်းချလေ၏။

ဓနိယ နွားကျောင်းသားသည် ဗုဒ္ဓမြတ်စွာကို ရှိခိုးလျက် "ကျေးဇူး အပေါင်းနှင့် ပြည့်စုံတော်မူသော အရှင်မြတ် ဘုရား၊ တပည့်တော်သည် အရှင်မြတ်ဘုရားအား ကိုးကွယ်ရာဟူ၍ မှတ်ပါ၏၊ တပည့်တော်၏ ဆရာ ဖြစ်တော်မူပါ အရှင်မြတ်ဘုရား"ဟု လျှောက်ထားလေသည်။ တစ်ဖန် ဓနိယသည်—

"အရှင်မြတ်ဘုရား၊ တပည့်တော်သည် လည်းကောင်း၊ ဇနီးဖြစ်သူ ဂေါပီသည် လည်းကောင်း အရှင်မြတ်ဘုရားထံ၌ အကျင့်မြတ်ကို ကျင့်လိုပါသည်၊ ဝဋ်ဆင်းရဲကုန်ရာ နိဗ္ဗာန်ကို မျက်မှောက် ပြုလိုပါသည်ဘုရား" ဟု လျှောက်ထားလေ၏။

[–ဓနိယသုတ်]

## ကျူးတို့ရှင်

ယောကျ်ားတစ်ယောက်သည် မြစ်ထဲသို့ ခုန်ဆင်းလေ၏။ မြစ်ရေသည် အဟုန်အရှိန်ဖြင့် စီးနေခြင်း ဖြစ်၏။ ထိုယောကျ်ားသည် မြစ်ရေအလျဉ်နှင့်အတူ မျောပါသွားလေသည်။

ထိုယောကျ်ားသည် ရေနစ်လျက်ရှိသော အခြားသူများကို ကယ်တင်ဆယ်ယူနိုင်ပါမည်လား။

အခြားယောကျ်ားတစ်ဦးသည်အား ခိုင်ခံ့သော လှေနှင့်လှော်တက်ရှိသူ ဖြစ်၏။ လှေ လှော်တက်ခြင်း အတတ်ကို ကောင်းစွာ ကျွမ်းကျင်ထားသူလည်း ဖြစ်၏။

မာတိကာသို့ ▶▶▶

ထိုယောကျ်ားသည် ရေနစ်သူများအား ကောင်းစွာ ကယ်တင်ဆယ်ယူနိုင်သူသာတည်း။

ပထမ ယောကျ်ားမျိုးသည် ဘယ်သို့သော အရာ ဖြစ်သနည်း။

ဒုတိယ ယောကျ်ားမျိုးသည် ဘယ်သို့သော အရာ ဖြစ်လေသနည်း။

ဤလောက၌ အမှန်လမ်း အမှန်တရားကို နားယူမှတ်သား၍ ကိုယ်တိုင်သိမြင်သော ပညာရှိတို့ သည်သာလျှင် ဆင်းရဲအောင်းကြောင်း ချမ်းသာကြောင်းကို ဆုံးမညွှန်ကြားနိုင်ပေ၏။

[–ရုဋ္ဌဝဂ်၊ နာဝါသုတ်]

## မပြည့်သောအိုး ပြည့်သောအိုး

ရေပြည့်သောအိုးကို ကြည့်ပါ။ ဗောင်ဗင်လည်း မခတ်၊ အသံလည်း မမြည်ပေ။ ရေ မပြည့်သော အိုးကား၊ ဗောင်ဗင်ခတ်၍ အသံမြည်လေ၏။

ပညာရှိသည် ရေကြည်သောအိုင် နှင့်တူ၏၊ သူမိုက်ကား ရေမကြည်သော အိုင်နှင့်တူ၏။

မြောင်းငယ် ချောင်းငယ်တို့သည် တဝေါဝေါ အသံမြည်ကာ လျှံခတ်စီးဆင်းကြကုန်၏၊ မြစ်ကြီးတို့သည် တည်ငြိမ် တိတ်ဆိတ်စွာ စီးဆင်းကြကုန်၏။

[မဟာဝဂ်၊ နာလကသုတ်]

## သိကုံးပန်းပွင့် လေမလွင့်သို့

မြတ်စွာဘုရားတို့သည် ဝိနည်း သိက္ခာပုဒ်များကို ပညတ် သတ်မှတ်ပေးခြင်း မပြုခဲ့သော်၊ လိုက်နာကျင့်သုံးရန် ကျင့်ဝတ်အရာ၌ အစီအစဉ်ဖြင့် ခိုင်မာလေးနက်စွာ ပိုင်းခြား သတ်မှတ်ပေးခြင်း မပြုခဲ့သော် သာသနာတော်သည် ကြာမြင့်စွာ မတည်တံ့နိုင်။ မြတ်စွာဘုရားသည် လည်းကောင်း၊ သာဝကအများပါ သိမြင်သော ပုဂ္ဂိုလ်များသည် လည်းကောင်း ပရိနိဗ္ဗာန်စံပြီးနောက် နှောင်းခေါ်သော ကာလ၌ သာသနာတော်သည် ဖရိုဖရဲ ပြိုကွဲ ပျက်စီးနိုင်ပေ၏။

ကြိုးဖြင့် မသိကုံးထားဘဲ ပျဉ်ပြားပေါ်၌ ကင်ထားသော ပန်းပွင့်များသည် လေတိုက်ခတ်သောအခါ ဖရိုဖရဲ လွင့်စဉ်ကုန်ရာ သကဲ့သို့တည်း။

[ပါရာဇိကကဏ်ပါဠိတော်၊ ဝေရဉ္ဇကဏ္ဍ]

## သူခိုး

အကြင်ရဟန်းသည် မိမိသန္တာန်၌ မြင့်မြတ်သော ဈာန်မဂ်ဖိုလ်တရား တကယ်မရှိပါဘဲလျက် ရှိသည်ဟု ဝင့်ကြွားပြောဆိုငြားအံ့၊ ထိုရဟန်းသည် အဆိုးသွမ်းဆုံးသော ခိုးသူကြီး မည်ပေ၏၊ ပြည်သူတို့၏ ဆွမ်းကို လိမ်လည်၍ ခိုးစားခြင်းကြောင့်တည်း။

အောက်ကျစ်ပြည့်သော ကလေးသမားတို့ ကဲ့သို့တည်း၊ ငှက်မုဆိုးတို့ ကဲ့သို့တည်း။

[စတုတ္ထ ပါရာဇိက ကဏ္ဍ]

## ရဟန်းမဟုတ်ကြောင်း လေးမျိုး

တင်ရှိခဲ့ဖူးအခါ ရဟန်းတို့သည် ခရီးသွားကြကုန်၏၊ ထိုခရီးသွားရဟန်းတို့ အထဲ၌ ပဉ္စင်းဖြစ်စ ရဟန်းတစ်ပါးလည်း ပါဝင်၏။

ထို ပဉ္စင်းသစ်သည် အဖော်ရဟန်းတို့၏ နောက်၌ တစ်ပါးတည်း ကျဲ့ ကျန်ရစ် ခဲ့သေး၏။ လမ်းခရီး အကြား၌ ထိုရဟန်းသစ်၏ မယားဟောင်းနှင့် တွေ့ဆုံလေသည်။

ထိုအခါ မယားဟောင်းသည် "ဩော်-သင်သည် ယခု ရဟန်းပြုလိုက်သလား" ဟု မေးသဖြင့်—

"အင်း—ဟုတ်ပေ၏။ ယခု ငါ ရဟန်းပြုလိုက်ပေပြီ" ဟု ပြန်ပြောလေသည်။

"ဩော်....ဤသို့ဖြစ်လျှင် ပြောရဦးမည်၊ ရဟန်း ဆိုသည်မှာ မေထုန် အကျင့်ကို ရနိုင်ခဲလှ၏၊ ယခု သင်သည် မေထုန်မှီဝဲပါ၊ လာပါ" ဟု မေထုန်မှီဝဲရန် ဖိတ်ခေါ်လေ၏။

ဤသို့ဖြစ်၍ ထို ရဟန်းသစ်သည် မယားဟောင်းဖြင့် မေထုန် ပြုကျင့်ပြီးမှ ခရီးဆက်လေ၏။

အဖော် ရဟန်းများသည် အချိန်ကြာမြင့်မှ ရောက်ရှိလာသော ထို ရဟန်းသစ်အား "အဘယ့်ကြောင့် ယခုလောက် ကြာမြင့်မှ ရောက်လာသနည်း" ဟု မေးမြန်းလေသည်။

ရဟန်းသစ်သည် မယားဟောင်းနှင့် တွေ့ဆုံခြင်း၊ မေထုန်ဖြင့် ဖိတ်ကြားခြင်း၊ မေထုန်မှီဝဲခြင်း အကြောင်းစုံကို ပြန်လည် ပြောကြားလေ၏။

ထိုအခါ ရဟန်းတို့သည် ရဟန်းသစ်၏ မေထုန်မှီဝဲခြင်း အကြောင်းစုံကို ဗုဒ္ဓမြတ်စွာအား လျှောက်ထားကြလေသည်။

ဤတွင် ဗုဒ္ဓသည် သာသနာ့ဝန်ထမ်း ရဟန်းများ အတွက် အထူး စောင့်ထိန်း၊ ဆောက်တည်ရမည့် ဝိနည်းကျင့်ဝတ် လေးမျိုးကို ဟောကြားတော်မူ၏။

## မထေုန် မပြုရ

"ရဟန်းတို့၊ ပဉ္စင်းအဖြစ်သို့ ရောက်ပြီးသော ရဟန်းသည် မေထုန်အမှုကို မပြုရ၊ လူမိန်းမကို မဆိုထားဘိ၊ တိရစ္ဆာန်မကို ပင်လည်း မေထုန်မပြုရ၊ အကယ်၍ ပြုငြားအံ့၊ ထိုသူသည် ရဟန်းမဟုတ်တော့ပေ၊ ရဟန်းကောင်းတို့နှင့် ဆက်ဆံ ရောနှောခွင့် မရှိတော့ပေ။ (ပါရာဇိက ကျမ်းလေပြီ)

"ဥပမာ အားဖြင့် ဦးခေါင်းပြတ်ပြီးသော ယောကျ်ားသည် ထိုဦးခေါင်းနှင့် ကိုယ်ကို ပြန်၍ ထိစပ်သော်လည်း တစ်ဖန် အသက်ရှင်ခြင်း မရှိနိုင် သကဲ့သို့တည်း။

## မခိုးရ

ရဟန်းတို့၊ ပဉ္စင်းအဖြစ်သို့ရောက်ပြီးသော ရဟန်းသည် ပိုင်ရှင်မပေးသော သူတစ်ပါး၏ ဥစ္စာကို ခိုးယူလိုသော စိတ်ဖြင့် မခိုးယူရ၊ ဝါးခြမ်းစိတ်ကဲ့သို့သော အသေးအဖွဲ့ ပစ္စည်းကိုပင်လျှင် မခိုးယူရ။

"အကြင် ရဟန်းသည် အသပြာ တစ်မတ်၊ တစ်မတ်ထက် အလွန်ကိုလည်းကောင်း၊ တစ်မတ် ထိုက်တန်သော ပစ္စည်းနှင့် တစ်မတ်ထက် အလွန် ထိုက်တန်သောပစ္စည်းကို လည်းကောင်း ခိုးယူငြားအံ့၊ ထိုသူသည် ရဟန်း မဟုတ်တော့ပေ၊ ရဟန်းကောင်းတို့နှင့် ဆက်ဆံ ရောနှောခွင့် မရှိတော့ပေ၊ (ပါရာဇိက ကျမ်းလေပြီ)

"ဥပမာအားဖြင့် အညှာမှ ကြွေကျပြီးသော သစ်သီးသည် ထိုသစ်သီးနှင့် အညှာရင်းကို ထိစပ်သော်လည်း တစ်ဖန် စိမ်းလန်း၊ စိမ်းရှင်ခြင်း မရှိ သကဲ့သို့တည်း။

## မသတ်ဖြတ်ရ

"ရဟန်းတို့၊ ပဉ္စင်းအဖြစ်သို့ ရောက်ပြီးသော ရဟန်းသည် သေစေလိုသော စေတနာဖြင့် သတ္တဝါတို့ကို မသတ်ဖြတ်ရ၊ ပိုးရွ ခြပုန်းမျှကိုပင်လျှင် မသတ်ဖြတ်ရ။

"အကြင်ရဟန်းသည် လူသတ္တဝါတို့ကို သတ်ဖြတ်ငြားအံ့၊ ထိုသူသည် ရဟန်း မဟုတ်တော့ပေ၊ ရဟန်းကောင်းတို့နှင့် ဆက်ဆံ ရောနှောခွင့် မရှိတော့ပေ။ (ပါရာဇိက ကျမ်းလေပြီ)

"ဥပမာအားဖြင့် နှစ်ဖြာ ကွဲလေပြီးသော ကျောက်ဖျာကြီးသည် တစ်ဖန် ပြန်၍ ဆက်စပ်ရန် မဖြစ်နိုင်သကဲ့သို့တည်း။

## တရားဖြင့် မကြွားဝါရ

"ရဟန်းတို့၊ ပဥ္စင်းအဖြစ်သို့ ရောက်ပြီးသော ရဟန်းသည် လူတို့၏ ကုသိုလ် ကမ္မပထ တရားထက် လွန်မြတ်သော လျှံ့ မင်္ဂဖိုလ်တရားကို မိမိ၌ ရှိသည်ဟု မပြောဆိုရ၊ မိမိသည် ဆိတ်ငြိမ်ရာ အရပ်၌သာ မွေ့လျော်သည်၊ အသယ်တရားကို အားထုတ်နေသည် ဟူ၍ပင် မပြောဆိုရ၊ အကြည်ညို ခံလိုခြင်း၊ လာဘ်လာဘ ရလိုခြင်း၊ ကြွားဝါလိုခြင်းဖြင့် မပြောဆိုရပေ။

"အကြင် ရဟန်းသည် မဟုတ်မှန်သော အလိုဆိုးဖြင့် မိမိ၌ ထင်ရှား မရှိသော လျှံ့ မဂ်ဖိုလ်တရားကို ဝင့်ကြွား ပြောဆိုခြင်းအံ့၊ ထိုသူသည် ရဟန်း မဟုတ်တော့ပေ၊ ရဟန်းကောင်းတို့နှင့် ဆက်ဆံ ရောနှောခွင့် မရှိတော့ပေ။ (ပါရာဇိက ကျလေပြီ)

"ဥပမာအားဖြင့် လည်ဆစ်ပြတ်ပြီးသော ထန်းပင်သည် တစ်ဖန် ပြန်၍ စည်ပင် ကြီးပွားခြင်း မဖြစ်နိုင်သကဲ့သို့တည်း

[ဝိနည်းမဟာဝါ ပါဠိတော်၊ ပဌမသနွကာ]

## မလျော်မကောင်း စောင်းကြိုးညှင်း

သေဌေးသား သောဏမှသည် ရဟန္တာ အရှင် သောဏသို့

ဗုဒ္ဓမြတ်စွာသည် ရာဇဂြိုဟ်ပြည် ဂိဇ္ဈကုဋ်တောင်၌ သီတင်းသုံး နေတော် မူစဉ်အခါ ဖြစ်၏။

ထိုစဉ်အခါဝယ် မဂဓတိုင်းသား များစွာတို့သည် ဗုဒ္ဓကို ဖူးမြော်ခွင့် ရကုန်၏။ တရားတော်ကို ကြားနာခွင့်လည်း ရကုန်၏။ ထိုတရားနာ ရှိသတ် များစွာတို့တွင် [illegible]မြို့သား သောဏ အမည် ရှိသော လုလင် တစ်ယောက်လည်း ပါဝင်လေသည်။

သောဏသည် သေဌေးသား ဖြစ်၏။ လွန်စွာ နူးညံ့ သိမ်မွေ့သူလည်း ဖြစ်၏။ သောဏ၏ ခြေဖဝါးပြင်၌ မွေးညင်းတို့ ပေါက်ရောက်လျက် ရှိ၏၊ ထိုသို့ နူးညံ့လှသဖြင့် ထမ်းစင်ဖြင့် သွားရသူ ဖြစ်လေသည်။

သောဏ သေဋ္ဌိသားသည် ဗုဒ္ဓ ဟောကြားသည့် တရားတော်၌ ယုံကြည် သက်ဝင်သော နှစ်သက် ရွှင်လန်းလှ သဖြင့် ရဟန်း အဖြစ်သို့ ကူးပြောင်း လိုက်လေသည်။

ထို့နောက် သောဏ ရဟန်းသည် ယင်းတိုက် တော၌ သီတင်းသုံး နေထိုင်ကာ ဗုဒ္ဓ၏ အဆုံးအမအတိုင်း တရားလမ်းစဉ်ကို ကျင့်သုံး လေသည်။ ဆောက်တည် ပွားများ လေသည်။ အခြားသော ရဟန်းများ နည်းတူပင် ဆိတ်ငြိမ်ရာ အရပ်သို့ ချဉ်းကပ်ကာ တရားအစဉ်သို့ အားထုတ် လေသည်။

အရှင် သောဏသည် တရား၌ လွန်စွာ အားထုတ်သော ဝီရိယ ရှိ၏။ စင်္ကြံသွားသော အရှင်သောဏ၏ ခြေဖဝါးတို့သည် ကွဲကုန်၏။ သွေး အလိမ်းလိမ်း ယိုစီး ကျကုန်၏။ စင်္ကြံသွားရာ လမ်းတစ်လျှောက်၌ သွေး ယိုစီးကြောင်းများ ထင်လျက် ရှိနေပေ၏။

ထိုအခါ အရှင် သောဏ ၏ စိတ်၌…'ငါသည် မြတ်စွာဘုရား၏ တရား အဆုံးအမဖြင့် ဆိတ်ငြိမ်ရာ၌ အားထုတ်သည့်သာ ဖြစ်၏၊ သို့ပါလျက် တရားအထူးကို မရရှိပေ၊ ငါ၏ စိတ်သည် တဏှာ ဒိဋ္ဌိ အားဖြင့် တစ်စုံတစ်ရာသော အာရုံကို မစွဲလမ်းဘဲ ရှိပါလျက် အာသဝေါ တရားတို့မှ မလွတ်ကင်းသေးပေ တကား။ ဤသို့ ဖြစ်လေသော် ငါသည် လူထွက်ရသော် ကောင်းလေစွ' ဟု အကြံ ဖြစ်ပေါ်လေ၏။

ယင်းသည့် အခိုက်ဝယ် ဗုဒ္ဓ မြတ်စွာသည်ပင် ကျောင်းတော် လှည့်လည် တော်မူသဖြင့် အရှင်သောဏ၏ စင်္ကြံသွားရာသို့ ဆိုက်ရောက်လေသည်။ အရှင်သောဏ၏ ခြေဖဝါးတို့မှ သွေးစိမ်း ထွက်ကျခြင်း နှင့် လွန်ပင်စွာ တရား အားထုတ်ခြင်းများကို ဗုဒ္ဓ သိရှိတော် မူလေ၏။ အရှင် သောဏ စိတ်အားလျော့၍ လူထွက်ရန် အကြံအစည်ကိုလည်း သိရှိတော်မူလေ၏။

ထိုအခါ ဗုဒ္ဓ မြတ်စွာသည် အရှင်သောဏအား တရား အားထုတ်ရာ၌ အယုတ်-အလွန် မရှိရန် လိုအပ်ကြောင်း ဥပမာဖြင့် ပြ၍ ဟောကြား တော်မူလေသည်။

"သောဏ၊ သင်သည် လူဖြစ်စဉ်အခါက စောင်းတီး အတတ် ကို ကောင်းစွာ တတ်ကျွမ်းသည် မဟုတ်လား"

"တတ်ကျွမ်းခဲ့ပါသည် အရှင်ဘုရား"

"ထိုအရာကို သင် ဘယ်သို့ အဘောပေါက်သနည်း ဒေသာကား၊ သင်၏ စောင်းကြိုးတို့သည် တင်းလွန်းကုန်သော် စောင်းသံသည် သာယာခြင်း ရှိသလား၊ တီးခတ်ရာ၌ လျောက်ပတ် ပြေပြစ်ခြင်းကော ရှိသလား"

"မရှိပါ အရှင်ဘုရား"

"တစ်ဖန် သင်၏ စောင်းကြိုး တို့သည် လျော့လွန်းကုန်သော် စောင်းတံသည် သာယာခြင်း ရှိသလား၊ တီးခတ်ရာ၌ လျောက်ပတ် ပြေပြစ်ခြင်းကော ရှိသလား သောဏ"

"မရှိပါ အရှင်ဘုရား

"ကောင်းပြီသောဏ၊ တစ်ဖန်မေးဦးအံ့၊ သင်၏ စောင်းကြိုးတို့သည် မလျော့လွန်း၊ မတင်းလွန်းကုန်သော် စောင်းသံသည် သာယာခြင်း ရှိသလား၊ တီးခတ်ရာ၌ လျောက်ပတ် ပြေပြစ်ခြင်းအော ရှိသသား"

"ရှိပါသည် အရှင်ဘုရား"

"သောဏ၊ ဤသို့သော သဘောရှိသည့်အတူပင်တည်း၊ လွန်စွာ အားထုတ်အပ်သော ဝီရိယသည် ပျံ့လွင့်စေတတ်၏၊ ယုတ်လျော့လွန်းသော ဝီရိယသည် ပျင်းရိစေတတ်၏၊ ထို့ကြောင့် သင်သည် ဝီရိယနှင့် သမာဓိ မျှတ၍ ကျင့်သုံး ဆောက်တည်စေလော့၊ သဒ္ဓါ၊ ဝီရိယ၊ သတိ၊ သမာဓိ ပညာဟူသော ဣန္ဒြေတို့၏ ညီမျှခြင်းကိုလည်း မြင်အောင် သိအောင် ရှုဆင်ခြင်လေလော့၊ ထိုအခါ သမထ စသော နိမိတ်ကို ဖြစ်ပေါ် စေလော့"

ထို့နောက် အရှင်သောဏသည် ဗုဒ္ဓ၏ ညွှန်ပြချက် တရား လမ်းစဉ် အတိုင်း ဆက်လက်၍ ကျင့်သုံး ဆောက်တည်သဖြင့် ရဟန္တာ အဖြစ်သို့ ရောက်လေသည်။

[ဝစ္ဆဂေါတ္တသုတ်

## အပူရှိလျှင် အအေးရှိမြဲ

ဘဝသစ်၌ တစ်ဖန်ဖြစ်ရမှု တည်းဟူသော မပဋိသန္ဓေ နေရခြင်းသည်လည်း ဆင်းရဲလှ၏၊ ဤခန္ဓာကိုယ်၊ အိုရခြင်း နာရခြင်းသည်လည်း ဆင်းရဲလှ၏။ အိုခြင်း၊ နာခြင်းတို့ လွှမ်းမိုး နှိပ်စက်အပ် [illegible] သေခြင်း သည်လည်း၊ ဆင်းရဲလှ၏။

ယင်းသည့် ဘဝသစ်၌ ထပ်ဖန် ဖြစ်ရခြင်း၊ အိုရခြင်း၊ နာရခြင်း၊ သေရခြင်း တည်းဟူသော ဆင်းရဲမှု ရှိလေသော် ထိုထို ဆင်းရဲမှုမှ လွတ်မြောက်ရာ ချမ်းသာမှုသည်လည်း ကောင်းပင် ရှိရမည်သာတည်း။

ဤလောကတွင် 'အပူ'ဟူ၍ ရှိသကဲ့သို့ အပူ၏ဆန့်ကျင်ဘက် 'အေးအေး' ဟူ၍လည်း ရှိသည်သာပင် မဟုတ်လော။

အပူ တည်းဟူသော ဆင်းရဲဒုက္ခသည် မကောင်းမှု ဒုစရိုက်တို့ကြောင့် ဖြစ်ပေါ်လာရ၏။ သို့ဖြစ်လျှင် အေးအေးတည်းဟူသော ချမ်းသာသုခကို ဖြစ်ပေါ်စေမည့် ကောင်းမှု သုစရိုက်တို့သည်လည်း ရှိရမည်သာတည်း။

အိုရ၊ နာရ၊ သေရ၊ ပူဆွေးရ၊ စိုးရိမ်ကြောင့်ကြရ၊ ဆင်းရဲပင်ပန်း ရခြင်း တည်းဟူသော ဝဋ်ဒုက္ခတို့မှ လွတ်မြောက်ကြောင်း လမ်းခရီးသည် ရှိသည်သာတည်း။

## မစင်လူး ခံနေရသူ

လူတစ်ယောက်သည် ခန္ဓာကိုယ်တွင် မစင် ကျင်ကြီးတို့ဖြင့် အလိမ်းလိမ်း ပေကျံ လျက်ရှိရာ၏။ ထိုသူ သွားရောက်နိုင်သည့် နေရာ၌ ရေကန်ကြီး လည်းလည်း ရှိပေ၏။

ထိုသူသည် မစင်ဖြင့် ပေကျံလျက်သာ နေသင့်သလော။ ရေကန် ကြီးသို့ သွားရောက်ပြီး ဆေးကြော သန့်ရှင်းပစ်သင့်သလော။

ရေကန်ကြီးဆီသို့ သွားရောက်ရန် နည်းလမ်းကို မကြံစည်ဘဲ ကြိုးစား အားထုတ်ခြင်း မပြုသည်ရှိသော် ရေကန်ကြီး အပြစ်ဟု ဆိုနိုင်ပါ မည်လော။

ကိလေသာ အညစ်အကြေးတို့ကို ဆေးကြော သန့်စင်ရာ အမြိုက် နိဗ္ဗာန် တည်းဟူသော ရေကန်ကြီးသည် ကောင်းပင် ရှိနေ၏။

## ရန်သူဝိုင်း ခံနေရသူ

လောကတွင် ရန်သူတို့ ဝိုင်းရံခြင်း ခံနေရသူသည် မည်သို့ ပြုလုပ်သင့် သနည်း။ ရန်သူတို့နှင့် ဝေးရာသို့ ရှောင်တိမ်း ထွက်ခွာသွားရန် လမ်းကို ရှာဖွေ၍ ထွက်မြောက် သွားသင့်သည်ပင် မဟုတ်လော။

ထိုထွက်မြောက်ကြောင်း လမ်းခရီးကို တွေ့မြင်နေရပါလျက် ထွက်ခွာမသွားတဲ့ ရှိသော် ထိုသူသည် မည်သို့ ကြံရမည်နည်း။

ကိလေသာ ရန်သူတို့ ဝိုင်းပတ်လျက်ရှိသော အကြောင်းသူသည် ကိလေသာတို့မှ လွတ်မြောက်ကြောင်းဖြစ်သော မဂ္ဂင်လမ်းကောင်းဖြင့် နိဗ္ဗာန်မြို့ကြီးသို့ အရောက်မသွားသော် မည်သူ၏အပြစ် ဖြစ်မည်နည်း။

## နာတာရှည်ခရီးသည်

ဤလောက၌ အနာရောဂါ နှိပ်စက်ခြင်း ခံနေရသူသည် ကောင်းစွာကုသနိုင်သူ ဆေးဆရာ ရှိနေပါလျက် ထိုဆေးဆရာဖြင့် မကုစေလျှင် အနာရောဂါသည် မပျောက်ကင်းနိုင်ပေ။ ပိုမို၍ တိုးပွား လာဖွယ်ရာသာ ရှိပေ၏။

ကိလေသာအနာရောဂါတို့ ဖိစီးနှိပ်စက်ခြင်း ခံနေရသူသည် ကိလေသာငြိမ်းအေးကြောင်း မဂ္ဂင်တရားဖြင့် ရှုဆင်ခြင်၍ ပြုပြင် ပြောင်းလဲမှု မရှိသော် ကိလေသာသည် ငြိမ်းပျောက် မသွားနိုင်ပေ။ ပို၍ပို၍ တိုးပွားသော သံသရာခရီး၌ နာတာရှည် ရောဂါသည် အဖြစ်သာ လျှင်ရှိရာ၏။

## မစင်တွင်းနှင့် လှေအိုကြီး

တံခွေး၊ နှပ်၊ ချွဲ၊ သလိပ်၊ သွေး၊ ပြည်၊ အစပသစ်၊ အစဉ်းဟောင်းစသော အပုပ်မျိုးစုံ၊ ပိုးမျိုးစုံတို့ဖြင့် ပြည့်နှက်၍ တည်ရှိနေသော ခန္ဓာကိုယ်ကြီး၌ သာယာစွဲလမ်းခြင်း မရှိရာ။ စက်ဆုပ် ရွံရှာဖွယ်ဟူ၍ နှလုံးသွင်းကာ ငြိုငွင်လွတ်မြောက်ခြင်း ပြုရာ၏။

လူအပေါင်းတို့သည် အိမ်သာတက်ရာ၌ ကျင်ကြီး စွန့်ပြီးလေသောအခါ တစ်ဖန်ပြန်၍ လှည့်စောင်း မကြည့်လို သကဲ့သို့တည်း။

အိုမင်းဆွေးမြည့်လျက်ရှိသော လှေကြီးသည် ရှိ၏။ ထိုလှေကြီးထဲသို့ ရေများ တသွင်သွင် ယိုစီးဝင်နေကြ၏။ မြစ်ကိုကူးမည့် ခရီးသည်တို့သည် ထို လှေပျက်ကြီးပေါ်သို့ တက်စီးရန် အလျှင်းပင် မလိုလားကြ။ လျှင်မြန်စွာ ရှောင်ထွက်ပြီး ငဲ့စောင်း၍မျှ ပြန်မကြည့်လိုကြသကဲ့သို့တည်း။

## ရပ်မနေရ နောက်မဆုတ်ရ

မြစ်ကိုကူးသော သူသည် တစ်ဖက်ကမ်းရှိ မိမိရောက်လိုသော ဆိပ်ကမ်းသို့ ရှေးရှုရည်ရွယ်၍ ကူးသွားလေ၏။ ယင်းသို့ ကူးသွားသော်လည်း ထိုသူ ရောက်လိုသည့် ဆိပ်ကမ်းတစ်နေရာသို့ မရောက်ပေ။ အခြားနေရာ အခြား ဆိပ်ကမ်းသို့ ဆိုက်ရောက်သွား၏၊ ရေစီးအဟုန်ဖြင့်မျောပါ သွားသော ကြောင့်တည်း။

ထိုသူသည် မည်သို့ ဆက်လက် ပြုလုပ်သင့်သနည်း။ မိမိ မျောပါ ရောက်ရှိနေသည့် ဆိပ်ကမ်းနေရာမှ ပထမ ရည်ရွယ်သော ဆိပ်ကမ်း နေရာသို့ ဆက်လက်ကူးသွားရမည်သာ ဖြစ်၏။

အမှန်သမ်း အမှန်တရားဖြင့် မဂ်ဖိုလ်နိဗ္ဗာန်သို့ ရည်ရွယ် အားထုတ်သော ပုဂ္ဂိုလ်သည် လောက၌ တားဆီးနှောင့်ယှက်မှု အမျိုးမျိုးကြောင့် မဂ်ဖိုလ်နိဗ္ဗာန်သို့ကား မဆိုက်ရောက်နိုင် သေးငြားအံ့။ ထို ပုဂ္ဂိုလ်သည် မိမိ ရရှိ ဆိုက်ရောက်ရာ အဆင့်မှ ဆက်လက် အားထုတ်ရမည်သာဖြစ်၏။

[-ဗျာဒိတ်ခန်း]

## ဒေါင်းကသည့်ပွဲ ရန်ဖြစ်ပွဲ

လူတို့သည် ဒေါသ မာန်ပွားလာ ပဋိပက္ခ ရန်ဖြစ်ကြသည် ရှိသော် စိတ်အလျောက်၊ မာန်အလျောက် လွန်လွန်ကဲကဲ ပြောဆိုလေ့ ရှိကြကုန်၏။ လျှို့ဝှက် ဖုံးကွယ်ခဲ့သည့် အချက် အလက် များကိုပင် ရန်ပွဲ၌ ထုတ်ဖော် ပြောဆိုလေ့ ရှိကြကုန်၏။

ထို့ကြောင့် လူတို့ ခိုက်ရန်ဖြစ်ပွားခြင်းကို ဥဒေါင်းများ ကသည်နှင့် တူ၏ဟု ပညာရှိတို့ ဆိုကုန်၏။

ဥဒေါင်းများ ကရာ၌ အမြီးကိုထောင်လျက် လည့်ပတ် ကကြသည် ဖြစ်ရာ ထိုဥဒေါင်းတို့၏ လျှို့ဝှက်ဖုံးကွယ်ထားသည့် အရာကို ပရိသတ် ဘက်သို့ ပြသကဲ့သို့ ရှိသည် မဟုတ်လော။

[-ဖန္ဒနဇာတ်]

## ယင်ကောင်ထမင်း ဆူးထမင်း

ဉာဏ်ပညာ ကင်းမဲ့သော ရေးမြို့ရှင် ဘုရင်မင်းတို့သည် ထိုက်တန်ရာရာ အပြစ်ဒဏ် ပေးသဖြင့်၊ မဒုမ်းသင့်ကို ရှုစမ်းဆင်ခြင်မှု မပြုကြဘဲ စိတ်အလျောက် မာန်အလျောက် အပြစ်ပေးလေ့ ရှိကြပေ၏။

ဉာဏ်ပညာ ကင်းမဲ့သော ထိုမင်းသည် မျက်စိကန်းသူ၏ အစာ စားခြင်းနှင့် တူကြလေ၏။

မျက်စိကန်းသူသည် ယင်ကောင်နှင့် ရောနှောသော အစာကိုလည်း စားမျိုမိလေသည် သာတည်း။

ဆူးငြောင့်နှင့် ရောသော အစာကိုလည်း စားမျိုမိသည် သာတည်း။

## ငါးမျှားချိတ်စည်းစိမ်

အကြွင်းသူ တစ်ဦးတစ်ယောက်သည် သတိ မထားမိသဖြင့် ငါးမျှားချိတ်ကို မျိုမိသည် ဖြစ်အံ့၊ ထိုငါးမျှားချိတ် အသည်းနှလုံး သို့ မရောက်မီ မသွားနှင့်တကွ အန်ထုတ်ပစ်ငြားအံ့၊ ထို သူသည် ကိုယ် စိတ် နှစ်ဖြာ ချမ်းသာမှုကို ရရှိနိုင်သည် သာတည်း။

အကျွန်ုပ် မဟာပဒုမ ခင်းသားသည် ခမည်းတော်ဘုရား လွှဲအပ် ပေးသနားသော ရွှေနန်းစည်းစိမ် အလုံးစုံကို စွန့်လွှတ်သည်သာတည်း။ လက်မခံတော့သည် သာတည်း။

နန်းတွင်း နန်းပြင်၌ ရှိနေသော ငါးပါးအာရုံ ကာမဂုဏ်တို့သည် အကျွန်ုပ်အဖို့ ငါးမျှားချိတ်ပမာ ကြောက်ရွံ့ဖွယ်ရာ ပါတည်း။

ဆင်၊ မြင်း၊ ရထား အစရှိသည့် ငွေရုံ စည်းစိမ်တို့သည် အကျွန်ုပ်၏ စိတ်သန္တာန်၌ အလိမ်းလိမ်း ပေကျံလျက် ရှိသော နိမိ ထွေးထွေး သွေးညှိတို့ ပါတည်း။

ခမည်းတော်ဘုရား ထပ်နှင်းသည့် အရပ်ရပ်သော စည်းစိမ်တို့ကို လက်မခံမှုဘဲ ထွေးအန် ဖယ်ထုတ် လိုက်ခြင်း သည်သာ၊ အကျွန်ုပ်၏ ဟုတ်တိုင်းမှန်ရာကို မြင်ပေသော ပညာ ကသိုဏ်း ဉာဏ်ဖြင့် ပိုင်းခြား လိုက်ခြင်းပါတည်း ။

[ ဒါဒသနိပါတ်၊ မဟာပဒုမဇာတ်

## ဓမ္မပဒပါဠိတော်လာ ဥပမာများ

### နွား၏နောက် လှည်းဘီး

လှည်းကို ရုန်းဆွဲနေသော နွား၏နောက်သို့ လှည်းဘီးသည် အစဉ် လိုက်ပါနေ၏၊ ထို နွား၏ ခွာရာ ခြေရာတို့ကို လှည်းဘီးသည် နင်း၍ ကြိတ်၍ အစဉ် လိုက်ပါနေ၏။

အကြင်သူ တစ်ဦးသည် မကောင်းမှုကို ကိုယ်ဖြင့် ပြုလုပ်လျှင်သော်လည်းကောင်း၊ နှုတ်ဖြင့် ပြောဆိုလျှင်သော်လည်းကောင်း၊ စိတ်ဖြင့် ကြံစည်လျှင်သော်လည်းကောင်း ထိုမကောင်းမှု၏ ဆိုးပြစ် ဆိုးဒဏ်သည် ထိုသူ၏ နောက်သို့ အစဉ် လိုက်ပါခဲ့သည်။

[စက္ခုပါလဝတ္ထု]

### လူနောက် အရိပ်လိုက်

အကြင်သူသည် ကောင်းမှုကို ကိုယ်ဖြင့် ပြုလုပ်လျှင်သော် လည်းကောင်း၊ နှုတ်ဖြင့် ပြောဆိုလျှင်သော် လည်းကောင်း၊ စိတ်ဖြင့် ကြံစည်လျှင်သော် လည်းကောင်း ထိုကောင်းမှု၏ ကောင်းကျိုးသည် ထိုသူ၏ နောက်သို့ အစဉ် လိုက်ပါ၏။

အရိပ်သည် လူကို မစွန့်ပေ။ လူ သွားလျှင် သွားသည့် အလျောက်၊ ထိုင်လျှင် ထိုင်သည့်အလျောက်၊ လှုပ်ရှားလျှင် လှုပ်ရှားသည့်အလျောက် ထိုလူ၏ အရိပ်သည် ထက်ကြပ်မကွာ လိုက်ပါမြဲတည်း။

[မဋ္ဌကုဏ္ဍလီဝတ္ထု]

## ကျောက်တောင်ကြီးနှင့် သစ်ပင်အို

မြေ၌ အမြစ်စွဲမှု အားနည်းသော သစ်ပင်ကို လေမုန်တိုင်းသည် အလွယ်တကူပင် လှဲဖြို ဖျက်ဆီး ပစ်လေ၏။

အကြင်သူသည် မျက်စိ၊ နား၊ လျှာ၊ နှာခေါင်း စသည်ကို ထိန်းချုပ်စောင့်စည်းမှု မရှိ။ အားထုတ် ကြိုးစားမှု မရှိ။ ပျင်းရိ၏။ ထိုသူအား ကိလေသာ အညစ်အကြေးတို့သည် လွှမ်းမိုးချုပ်ချယ်၍ ဖျက်ဆီးသည်သာတည်း။

လေမုန်တိုင်းသည် မားမတ် ခိုင်မာစွာ တည်ရှိနေသော ကျောက်တောင်ကြီးကို မဖြိုဖျက်နိုင်ပေ။

အကြင်သူသည် ကြိုးစား အားထုတ်မှု ရှိ၏။ ပျင်းရိမှု မရှိ၊ မျက်စိ၊ နား၊ လျှာ စသည်ကို ထိန်းချုပ်စောင့်စည်း၏။ ထိုသူအား ကိလေသာ အညစ်အကြေးတို့သည် လွှမ်းမိုး ချုပ်ချယ်၍ မရ။ ဖျက်ဆီး နှိပ်စက်၍ မရ။

[မဟာကာဠထေရဝတ္ထု]

## အပြောသမား နွားကျောင်းသား

အကြင်သူသည် နည်းကောင်း လမ်းမှန် တရားစကားတို့ကို များစွာ ပြောဆို၏။ လိုက်နာ ကျင့်သုံးခြင်းကား မရှိ။ ထိုသူသည် ကောင်းကျိုးချမ်းသာကို မရရှိနိုင်ပေ။

နွား အငှားကျောင်းသူသည် အချိန်တန်လျှင် နွားများကို နွားရှင်အား အပ်နှင်းလိုက်ရ၏။ နွားနို့ကို မရရှိ၊ မသုံးဆောင်ရပေ။

[ဒွေသဟာယကဘိက္ခု ဝတ္ထု]

## လျင်မြန်ခြင်း နိုးကြားခြင်း

ခွန်အားရှိ၍ လျင်မြန်သော မြင်းသည် ခွန်အားနည်း၍ နှေးကွေးသော မြင်းကို ချန်ထားခဲ့လျက် ကျော်သွား၏။

မမေ့မလျော့ နိုးကြား ထကြွမှုရှိသော သူသည် တွေဝေ၍ ပျင်းရိသော သူကို ကျော်လွန် လွှမ်းမိုး၏။

[အပ္ပမာဒဝဂ် ဒွေသဟာယက ဝတ္ထု]

## စိတ်နှင့် ငါး၊ ကာမရေပြင်

ငါးသည် ရေ၌ ပျော်မွေ့၏။ ရေကို မှီရာအဖြစ် တွယ်တာခြင်းရှိ၏။ ထိုငါးကို ရေမှယူ၍ ကုန်းပေါ်သို့ချထားလျှင် တဖျပ်ဖျပ် တုန်လှုပ်လေသည်။

စိတ်သည် ကာမနယ်ပယ်၌ မွေ့လျော်၏။ ကိလေသာတို့ကို တွယ်တာ တပ်ငြိ၏။ ထိုစိတ်ကို ကိလေသာ အညစ်အကြေးမှ စင်ကြယ်ရန် ကာမနယ်မှ ခွာထုတ် ယူဆောင်သော် တဖျပ်ဖျပ် တုန်လှုပ်လေသည်။

[မေဃိယတ္ထေရ ဝတ္ထု]

## ပျားပိတုန်းနှင့် ဘုန်းကြီးရဟန်း

ပျားပိတုန်း တို့သည် ပန်းဝတ်ရည်ကို စုပ်ယူ သုံးဆောင်ရာ၌ ပန်းပွင့်ကိုလည်းကောင်း၊ ပန်း၏ အရောင်အဆင်းကိုလည်းကောင်း၊ ပန်းပွင့်အနံ့ကိုလည်းကောင်း မပျက်စီးစေဘဲသာလျှင် မိမိ လိုရာအရပ်သို့ သယ်ဆောင် ပျံသွားကြကုန်လေ၏။

ရဟန်း သံဃာတို့သည်လည်း ရွာ၊ နိဂုံးတို့သို့ ဆွမ်းစသည် အလို့ငှာ ချဉ်းကပ်ရာ၌ ရွာသူတို့၏ သဒ္ဓါတရားကို လည်းကောင်း၊ ရွာသူတို့၏ စည်းစိမ်ဥစ္စာကို လည်းကောင်း၊ မပျက်စီးစေရာ။ ပျား၊ ပိတုန်း ကဲ့သို့ ကျင့်ရာ၏။

[မစ္ဆရိယသေဋ္ဌိ ဝတ္ထု]

## ရွှေအိုးကိုဖော်ပေးသူ

အကြင် ပုဂ္ဂိုလ်သည် မိမိအား ဆုံးမ ပြောကြား၏။ ချွတ်ယွင်းချက် အပြစ်ကို ညွှန်ပြ၍ နှိမ့်ချဆုံးမ၏။ 'ထိုပုဂ္ဂိုလ်အား မြှုပ်ထားသော

ရွှေအိုးကို ပြောပြသူပါ တကား' ဟု နှလုံးသားရာ၏။ ထိုပညာရှိကို ဆည်းကပ်ခြင်းဖြင့် အကျိုးယုတ်ခြင်း မရှိပေ။

[ရာဓတ္ထေရ ဝတ္ထု]

## စိတ်နှင့်သူခိုး

သူခိုးတစ်ယောက်သည် အခြား သူခိုးတစ်ယောက်ကို မြင်လျှင် ပျက်စီးအောင် လုပ်ကောင်း ပေရာ၏။ ရန်သူ တစ်ယောက်သည် အခြားရန်သူ တစ်ယောက်ကို မြင်လျှင် ပျက်စီးအောင် လုပ်ကောင်းပေရာ၏။

မကောင်း ယုတ်မာသော စိတ် သည်ကား ထို စိတ်ရှိသူကို ထိုထက် ပိုမို၍ ယုတ်ညံ့ ပျက်စီးအောင် ပြုလုပ်နိုင်လေသည်။

[နန္ဒဂေါပါလက ဝတ္ထု]

## ပေါက်ပွင့်နှင့် စံပယ် စံကား

အရောင်အသွေးသာ ရှိပြီး အနံ့မရှိသော ပေါက်ပွင့် စသည့် ပန်းကို ပန်ဆင်သူသည် ပန်း၏ မွှေးရနံ့ မရရှိနိုင်ပေ။

အရောင်အသွေးလည်း လှပ၍ မွှေးရနံ့လည်း ထုံသင်းသော စံပယ် စံကား စသည့်ပန်းကို ပန်ဆင်သူသည် ပန်း၏ မွှေးရနံ့ကို ရရှိ ခံစားနိုင် ပေသည်။

ထို နည်းတူစွာ ဗုဒ္ဓ၏ နည်းညွှန် လမ်းပြ တရားမွှေသည် လိုက်နာ ကျင့်သုံးခြင်း မရှိသူအတွက် အကျိုးမရှိပေ။ လိုက်နာ ကျင့်သုံးသူအား သာလျှင် ထို တရားမွှေသည် ကောင်းကျိုးပြုပေ၏။

[ဆတ္တပါဏိ ဥပါသက ဝတ္ထု]

## အမှိုက်ပုံထဲက ကြာပန်းခိုင်

အသိပညာ ကင်းမဲ့သော လူဖျင်း လူညံ့တို့၏ အလယ်၌ နေထိုင်သည့် ဉာဏ်ပညာနှင့် ပြည့်စုံသူသည် ထို လူဖျင်းလူညံ့ တို့အား ပညာဖြင့် ကျော်လွှမ်း၍ တင့်တယ်ပေ၏။

လမ်းဆုံ လမ်းခွ၌ ပုံ၍ထားသော အမှိုက်ပုံဝယ် ရနံ့လှိုင်သော ကြာ ပဒုံသည် အမှိုက်ပုံကို ကျော်လွှမ်းကာ ငွားငွားစွင့်စွင့် ပွင့်ဘိကဲ့သို့တည်း။

[ဂရဟဒိန္န ဝတ္ထု]

## အရှည် အဝေး

အိပ်မပျော်သူအဖို့ ညဉ့်တာသည် ရှည်လျားလှ၏။ ခရီးပန်းနေသူအဖို့ ယူဇနာ မျှသော ခရီးလမ်းသည် ဝေးလှပေ၏။ သူတော်ကောင်းတရားကို မသိသော လူမိုက်အဖို့ သံသရာသည် ရှည်လျားလှပေ၏။

[အညတရ ပုရိသ ဝတ္ထု]

## ယောက်မနှင့် လျှာ

ယောက်မသည် ဟင်းအိုးကို ကြာမြင့်စွာ မွှေနေရသော်လည်း ဟင်း၏ အရသာကို မသိ။ လျှာသည် ဟင်းကို တွေ့ထိရုံ တစ်ကြိမ်မျှဖြင့် ဟင်း၏ အရသာကို သိ၏။

လူဖျင်း၊ လူမိုက်သည် ပညာရှိကို တစ်သက်ပတ်လုံး ဆည်းကပ်ပေါင်းသင်းခွင့် ရခဲ့သော်လည်း အသိပညာကိုမရ။ အမှန်တရားကို မမြင်ပေ။ လူတော်လူကောင်း သည်ကား ပညာရှိကို တစ်ခဏတာမျှ ဆည်းကပ်ခွင့် ရသော်လည်း အသိပညာကို ရအောင်ယူပေ၏။ အမှန်တရားကိုမြင်အောင် ရှုပေ၏။

[ဥဒါယိတ္ထေရ ဝတ္ထု]

## နို့ရည်နှင့် မီးခဲ

နွားမ၏ နို့အိုးမှ ညှစ်ယူခါစ ဖြစ်သော နို့ရည်သည် ရုတ်တရက် အား ဖြင့်မူ ပကတိသဘောမှ မပြောင်းလဲသေး။ ပြောင်းလဲသည်၏ အဖြစ်ကို မသိသာသေး။

မကောင်းမှု ဒုစရိုက်သည်လည်း ကျူးလွန်ပြစ်မှားပြီးခါစ၌ ရုတ်တရက် အားဖြင့် အပြစ်ကျရောက်ကာ မကောင်းကျိုးမပေးသေး။ မကောင်းကျိုး ပေးသည်ကို မသိသာသေး။

အကျိုးပေးသော အခါမှာမူ ပြာဖုံးသော မီးခဲကဲ့သို့ မကောင်းမှု ပြုသူ၏နောက်ကို အစဉ်လိုက်၍ လောင်ကျွမ်းလေ၏။

[အဟိပေတ ဝတ္ထု]

## အဆင်သင့်ပြင်ဆင်ခြင်း

မြောင်းတူး ရေယူသမား တို့သည် အလိုရှိရာ အရပ်သို့ ရေကို ယူဆောင် ကြကုန်၏။ လေးသမား တို့သည် မြားတံကို ဖြောင့်တန်းအောင် ပြုပြင်

ကုန်၏၊ သစ်ခုံးသမား၊ တို့သည် လိုသလို ရရှိအောင် သစ်ကို ရွေ့ကြကုန်၏။

အကျင့် သီလ ရှိကုန်သော ပညာရှိတို့သည် မိမိတို့ ကိုယ်ကို မိမိတို့ ယဉ်ကျေးအောင် ဆုံးမ ပြုပြင် ကုန်၏။

[ပဏ္ဍိတ သာမဏေရ ဝတ္ထု]

## စွန့်ခွာခြင်း

သတိ ရှိသော ပုဂ္ဂိုလ် တို့သည် အသိပညာ ပွားများမှု၌ လုံ့လပြုကြကုန်၏၊ ထိုပုဂ္ဂိုလ် တို့သည် တည်ရာ ကာမဂုဏ်၌ မနှစ်မြို့ ကြကုန်။ မှီရာဘကျ ဟူသမျှကို စွန့်ပစ်ကြကုန်၏။

ဟင်္သာ ငှက်တို့သည် ကျက်စားရာ ရွံ့ညွန် အိုင်ကို စွန့်ခွာ ပျံသွားကြသကဲ့သို့တည်း။

[မဟာကဿပထေရ ဝတ္ထု]

## ကောင်းကင်က ငှက်ခြေရာ

ကိလေသာ အညစ်အကြေး ကုန်ခန်း၍ သန့်ရှင်း စင်ကြယ်ပြီး ဖြစ်သော ပုဂ္ဂိုလ်တို့သည် စားသောက်ဖွယ်ရာ စသည့် ဝတ္ထုပစ္စည်းများကို သိုမှီး သိမ်းဆည်းခြင်း မရှိပေ၊ ထိုသို့ ဝတ္ထုပစ္စည်း အာရုံဘို့၌လည်း တပ်မက် စွဲငြိခြင်း ဟူ၍ မရှိပေ။

ထို့ကြောင့် ထိုပုဂ္ဂိုလ်တို့၌ ရာဂ စသော အကြောင်း နိမိတ်မရှိ၊ သန့်ရှင်း ကြည်လင်၏၊ ကောင်းကင်၌ ငှက်ဘို့၏သွားရာ လမ်းကြောင်းကို မမြင်ရသကဲ့သို့တည်း။

[အနုရုဒ္ဓထေရ ဝတ္ထု]

## ပြည့်လာသော ရေအိုး

မကောင်းမှုကို မသိမှုဖြင့် မနေအောက်မေ့သင့်ပေ။ အနည်းငယ်မျှသော မကောင်းမှုအဖြစ်သည် ငါ့အား အကျိုးရောက်လိမ့်မည် မဟုတ်ဟု မသင်မှတ်သင့်ပေ။

မိုးပေါက်ငယ်တို့ ကျဖန်များလျှင် ရေအိုးသည် ပြည့်လာသကဲ့သို့ အနည်းငယ် အနည်းငယ် မျှသော မကောင်းမှုတို့ကို ပြုဖန် များလျှင် ထိုသူအား မကောင်းမှုဖြင့် ပြည့်ပေ၏။

[အသံယက ပရိက္ခာရ ဝတ္ထု]

## သေမင်းနှင့် နွားကျောင်းသား

နွားကျောင်းသားသည် နွားတို့ကို နှင်တံဖြင့်ခြောက်လှန့်လျက် စားကျက် ကွင်းပြင်ဆီသို့ မောင်းနှင်သကဲ့သို့ သေမင်းသည် သတ္တဝါတို့ကို အိုခြင်း၊ နာခြင်းဖြင့် သုသာန်သို့ မောင်းနှင်လေ၏။

[ဥပေါသထိကဇတ္တိနံ ဝတ္ထု]

## နွားလိုလူ

နွားတို့သည် အစာ စားလေတိုင်း အသား တိုးပွားလေ၏။ ကာလ ရှည်လေတိုင်း ကြီးထွားလေ၏။

အကြား အမြင် ဉာဏ်ပညာ နည်းပါးသူတို့ သည်လည်း နွားတို့ ကဲ့သို့ပင် အချည်းအနှီး တိုးပွားကြကုန်၏။ အသိတရားဟူ၍ကား မတိုး ပွားပေ။

[ကာဠုဒါယီထေရ ဝတ္ထု]

## ကြိုးကြာအိုနှင့် မြာတံဟောင်း

လူပျိုလူမိုက်တို့သည် အချိန်အရွယ်ရှိခိုက်တွင် ပညာကိုလည်း ကောင်းစွာ မသင်။ ကောင်းစွာလည်း ပြုလုပ်ဆောင်ရွက်ခြင်း မပြု။ ပစ္စည်း ဥစ္စာ ကိုလည်း စုဆောင်းရမိခြင်းလည်း မရှိ။

ထို လူဖျင်း လူမိုက် တို့သည် ငါးကုန်ခန်းသော ညွန်အိုင်၌ အကြွကုန်သော ကြိုးကြာ အိုများကဲ့သို့ လည်းကောင်း၊ လေးမှ လွတ်ပြီးနောက် အရှိန်ကုန်သော မြှားတံကဲ့သို့ လည်းကောင်း ကြုံမှိုင်၍သာ နေကြကုန်၏။ ရှေးဖြစ်ဟောင်းကို အောက်မေ့ညည်းတွား၍သာ နေကြကုန်၏။

[မဟာဓနသေဋ္ဌိ ဝတ္ထု]

## တိမ်စင် လနှယ်

အမှန်တရားဖြင့် ကောင်းမြတ်သော လမ်းစဉ်ကို ကျင့်သုံး လုပ်ဆောင်ရန် မေ့လျော့ခဲ့မိသော သူသည် တစ်ဖန် သတိတရား ရလျက် လမ်းစဉ်မှန် အတိုင်း လိုက်နာကျင့်သုံးသည် ဖြစ်အံ့၊ ထိုသူသည် တိမ်တိုက်မှ လွတ်ထွက်လာသော လမင်းကဲ့သို့တည်း။

[အင်္ဂုလိမာလထေရ ဝတ္ထု]

## ကြိုဆိုလျက်သာ

ကာလကြာမြင့်စွာ ခွဲခွာခဲ့ရာမှ တစ်ဖန် ပြန်လည်၍ တွေ့ဆုံသူကို ဆွေမျိုး မိတ်သင်္ဂဟတို့သည် ဝမ်းမြောက် ဝမ်းသာ ကြိုဆိုနှုတ်ဆက်ကြကုန်၏။

ထိုနည်းတူစွာပင် ဤလောက၌ ကောင်းသော ပြုလုပ်ဆောင်ရွက်ခြင်း ရှိထားသူကို ကောင်းမှုသည် ကြိုဆိုလျက်သာ ရှိ၏။ မည်မျှပင် ကာလ ကြာညောင်းသည်ဖြစ်စေ၊ ထိုကောင်းမှုသည် ထိုသူအား ထောက်ပံ့ကူညီ သည်သာတည်း။

[နန္ဒိယ ဝတ္ထု]

## ရထားထိန်းလား ရထားကြိုးကိုင်လား

လိမ္မာ ကျွမ်းကျင်သော ရထားထိန်းသည် လျင်မြန်စွာ ပြေးသွားသော ရထားကို လမ်းမလွဲအောင် ချုပ်ကိုင်နိုင်သကဲ့သို့ ဖြစ်ပေါ် လာသော အမျက်ဒေါသကို ထိန်းချုပ်ထားသူကို သာလျှင် လိမ္မာသော ရထားထိန်းဟူ၍ ဆိုရ၏။

ဤမှတစ်ပါး အခြားသော သာမန်ရထားထိန်းသည် ရထားကြိုးကိုင်သာလျှင်တည်း။

[အညတရ ဘိက္ခု ဝတ္ထု]

## မြွေ၏အညစ်အကြေး လူ၏အညစ်အကြေး

ခဲပုပ်၊ သံ၊ ခဲဖြူ စသော မြွေ၏ အညစ်အကြေးကို ပန်းထိမ်သည်သည် တဖြည်းဖြည်း ထုတ်ပယ်ပစ်သကဲ့သို့ ပညာရှိတို့သည် မိမိ၏ ကိလေသာ အညစ်အကြေးများကို အခွင့်ရတိုင်း တစ်စတစ်စ နှိမ်နင်းထုတ်ပယ်ပစ်ရာ၏။

[အညတရဗြာဟ္မဏ ဝတ္ထု]

## သံကိုသံဖျက် သံချေးတက်

သံချေးသည် သံကပင် ဖြစ်လာ၏။ တက်လာသော သံချေးသည် သံကိုပင် စား၍ ဖျက်ဆီးပစ်၏။

မသောင်းမှု ဟူသည်မှာ ကျူးလွန်ပြစ်မှားသူကြောင့် ဖြစ်ပေါ်ရ၏။ ထိုမကောင်းမှုသည် ပြုလုပ်သူကိုပင် နှိပ်စက်ဖျက်ဆီး၏။

[တိဿထေရ ဝတ္ထု]

## အညစ် အကြေး

စာပေကျမ်းဂန် အတတ်ပညာတို့၏ အညစ်အကြေးကား ရွတ်ဖတ်လေ့ကျက်မှု မရှိခြင်းတည်း။ အိမ်တို့၏ အညစ်အကြေးကား ပြုပြင်မွမ်းမံစောင့်ရှောက်မှု မရှိခြင်းတည်း။ ရုပ်ဆင်း လှပခြင်း၏ အညစ်အကြေးကား ပျင်းရိခြင်းပေတည်း။ စောင့်ရှောက် ကာကွယ်ခြင်း၏ အညစ်အကြေးကား မေ့လျော့ခြင်းတည်း။

[ကာဠုဒါယီထေရ ဝတ္ထု]

## အညစ်အကြေးသုံး

လင်ကိုကျူးလွန်၍ ပြုမူကျင့်ကြံခြင်းသည် မိန်းမ၏ အညစ်အကြေးမည်၏။ နှမြောတွန့်တိုခြင်းသည် ပေးကမ်းစွန့်ကြဲမှု၏ အညစ်အကြေးမည်၏။ ယုတ်မာညစ်ညမ်းသော အပြုအမူသည်ကား လူ့ဘဝ၏ အညစ်အကြေးမည်၏။

အဆိုးရွားဆုံးနှင့် အလွန်ကဲဆုံး အညစ်အကြေးကား အမှန်ကို မသိမှု (အဝိဇ္ဇာ) ဖြစ်သတည်း။

[အညတရ ကုလပုတ္တ ဝတ္ထု]

## သူတစ်ပါးကိုလက်ညှိုးထိုးသူ

ပညာမဲ့သော သူတို့သည် သူတစ်ပါး၏အပြစ်ကို မြင်လွယ်၏၊ မိမိ၏ အပြစ်ကိုမူ မမြင်နိုင်တတ်ကြ။

ထိုသူမျိုးသည် ဖွဲအမှိုက်ကို လွှင့်မြှောက်သကဲ့သို့ သူတစ်ပါး၏အပြစ်ကို ဖော်ထုတ်တတ်၏။

ငှက်မုဆိုးသည် ငှက်များက သူ၏ကိုယ်ကို မမြင်နိုင်ရန် သစ်ခက်ဖြင့် ဖုံးကွယ်ထားသကဲ့သို့ မိမိ၏အပြစ်ကို ဖုံးကွယ်ထားတတ်လေသည်။

[မေဏ္ဍကသေဋ္ဌိ ဝတ္ထု]

## တောကိုရှင်း၍ အလင်းသို့ထွက်ပါ

ရဟန်းတို့သည် အပင် သစ်ကိုင်းကို မခုတ်ဖြတ်သင့်ပေ။ တဏှာ တည်းဟူသော တောချုံကိုသာ ခုတ်ထွင် ရှင်းလင်းသင့်၏။ ထို တဏှာ တည်းဟူသော တောချုံကြောင့် ဇာတိ၊ ဇရာ အစရှိသော ဘေးအန္တရာယ် တို့ ဖြစ်ပေါ်ရသည်။ ထို့ကြောင့် တဏှာဟူသော တောကြီး တောငယ်ကို ခုတ်ထွင် ရှင်းလင်းရမည်။ တဏှာ ဟူသော တောအုပ် ချုံကြားမှ ထွက်မြောက်ကြရမည်။

## နွားငယ်လို လူ

နို့မပြတ်သေးသော နွားငယ်သည် မိခင်နွားမထံသို့ တအပ်တည်း ကပ်၍ နေသကဲ့သို့ မိန်းမတို့၌ တပ်နှစ်သက်ခြင်း ကိလေသာကို မဖြတ် တောက်ရသေးသော ယောကျ်ားသည် ဘဝကိုတွယ်တာသဖြင့် သံသရာသို့ ဆက်ရောက်ကျင်လည်ရလေ၏။

[သမ္ဗဟုလ မဟလ္လကဘိက္ခု ဝတ္ထု]

## ရာဂ ဗွက်အိုင်

ရွံ့ဗွက်၌ နစ်လျက်ရှိသော ဆင်သည် မိမိကိုယ်ကို ရွံ့ဗွက်မှ လွတ်မြောက် ရန် ရုန်းထွက်သကဲ့သို့—

ကိလေသာ ကာမ ရွံ့ဗွက်ထဲ၌ နစ်မွန်းလျက်ရှိသော လူသားတို့သည် စိတ်ကို ထိန်းသိမ်းခြင်း ဟူသော မမေ့မလျော့မှုဖြင့် ထို ကိလေသာ ကာမရွံ့ဗွက်မှ လွတ်မြောက်အောင် ရုန်းထွက်ရပေမည်။

[ပါဝေယျကဟတ္ထိ ဝတ္ထု]

## တဏှာ မျှောက်သိုး

မာလေဝနွယ်သည် ရှင်သန် ခက်ဖြာ တိုးပွား လာသကဲ့သို့ မေ့မေ့လျော့လျော့ နေထိုင် ကျင့်သုံးသူအား ကိလေသာ တဏှာသည် ပွား၍ ပွား၍ တိုးလာ၏။

သစ်သီးကို လိုချင် တပ်မက်သော မျောက်သည် သစ်ပင်တစ်ပင်မှ အခြား တစ်ပင်သို့ ခုန်လွှား ကူးသန်းသကဲ့သို့ ကိလေသာတဏှာ တိုးပွားသူသည် ဘဝခရီး၌ မဆုံးနိုင်အောင် ပြေးလွှား ကူးသန်းနေရ၏။

[ကပိလ မစ္ဆ ဝတ္ထု]

## အမြစ် တဏှာ

သစ်ပင်၏ ကိုင်းခက်၊ ပင်စည်ကို ခုတ်ဖြတ် ပစ်ကာမျှဖြင့် ထို သစ်ပင်သည် အပြီးတိုင် မပျက်စီးနိုင်ပေ။ အသစ် တစ်ဖန် ပေါက်ရောက် ပွားစည်လာပေဦးမည်။ အရင်း အမြစ်ပါ နုတ်ယူ ဖျက်ဆီး ပစ်မှသာ ထိုသစ်ပင်သည် အစတုံးနိုင်ပေသည်။

ဤအတူပင် တပ်နှစ်သက်ခြင်း တဏှာ ကိန်းအောင်းတည်ရှိ နေသမျှ ကာလပတ်လုံး ဆင်းရဲ ပင်ပန်းမှုသည် အဖန်ဖန် ထပ်ထပ် ဖြစ်နေသည်သာတည်း။

## တဏှာ ပိုက်ကွန်

ပိုက်ကွန် ညှတ်ကွင်း၌ မိ၍နေသော ယုန်ငယ်ကို ကြည့်ပါ။ ကြောက်ရွံ့ တုန်လှုပ်ကာ ပင်ပန်း ဆင်းရဲ၍ နေသည်ကို တွေ့ရလိမ့်မည်။

ကိလေသာ တဏှာဖြင့် ဝန်းဝိုင်း ခြံရံလျက် သံယောဇဉ်အနှောင် ကပ်ငြိလျက်ရှိသော သူသည်လည်း ညှတ်ကွင်း မိနေသော ယုန်ငယ်ကဲ့သို့တည်း။ စိုးရိမ် ပူပန်ရ၏။

တဏှာတည်းဟူသော ပိုက်ကွန်တွင်းမှ လွတ်မြောက်မှုသာလျှင် ဆင်းရဲခြင်းအပေါင်းမှ လွတ်မြောက်ပေမည်။

[သုကရ ပေါတိက ဝတ္ထု]

## တဏှာ ကြိုးနှောင်

သံခြေချင်း၊ ထိတ်တုံး၊ ကြိုးနှောင်၊ 'လက်ထိတ်'တို့သည် ဖွဲ့ချည် တုပ်နှောင်ရန် ကိရိယာတို့ ဖြစ်၏။ အနှောင်အဖွဲ့တို့ ဖြစ်ကုန်၏။

သား၊ သမီး၊ လင် မယား၊ ရွှေငွေ၊ ရတနာ စည်းစိမ်တို့ကို စွဲမက်တွယ်တာခြင်းသည် ဖွဲ့ချည် တုပ်နှောင်ရန် ကိရိယာတို့ ဖြစ်ကုန်၏။ ပို၍ခိုင်မြဲသော အနှောင်အဖွဲ့တို့ ဖြစ်ကုန်၏။ ယင်းသည့် တဏှာ အစွဲအလမ်းတည်းဟူသော အနှောင်အဖွဲ့မှ လွတ်မြောက်အောင် ရုန်းထွက်နိုင်သူသည် မုချ ချမ်းသာရမည်တည်း။

[ဗန္ဓနာဂါရ ဝတ္ထု]

## တဏှာ ပင့်ကူအိမ်

ပင့်ကူကောင်သည် မိမိ ပြုလုပ်သော ပင့်ကူအိမ်၌ မွေ့လျော် အိပ်စက်၏။ ကိလေသာ ထူပြောသော သတ္တဝါတို့သည် စွဲလမ်းနှစ်သက်ခြင်း တဏှာကွန်ယက်၌ ငြိတွယ်စွဲလမ်း၍ ပျော်မွေ့ကုန်၏။

အသိပညာ ရင့်ကျက်သော သူတော်ကောင်းတို့သည် ပင့်ကူအိမ်နှင့်တူသည့် တဏှာကွန်ယက်မှ လွတ်မြောက်စေအောင် ရုန်းထွက်ကြကုန်၏။

[[illegible]]

## ကိလေသာ မြက်တော

မြက်ပင် ပေါင်းပင်တို့သည် လယ်ယာကို ဖျက်ဆီးကြကုန်၏။ ကောက်ပင် ပဲပင်တို့သည် မြက်ပင် ပေါင်းပင် တို့ကြောင့်ပျက်စီးကြရကုန်၏။

တဏှာ၊ ရာဂ၊ လောဘ၊ ဒေါသ၊ မောဟ တည်းဟူသော ကိလေသာ တို့သည် လူ့သတ္တဝါတို့ကို ဖျက်ဆီးကုန်၏။ လူ့သတ္တဝါတို့သည်လည်း ထိုကိလေသာ မြက်ပေါင်းပင် တို့ကြောင့် ပျက်စီးကြကုန်၏။

[အင်္ဂု၊ ၈ ဋ္ဌ၊]

ရာဂ ဗွက်၊ တဏှာ မျောက်သိုး၊ အမြစ် တဏှာ၊ တဏှာ ပိုက်ကွန်၊
တဏှာ ကြိုးခွေ၊ တဏှာ ပင့်ကူအိမ်၊ ကိလေသာ မြက်တော။

## လှော်ရင် နစ်ခြင်း

တစ်ဖက်ကမ်းသို့ ကူးသွားသော လှေထဲ၌ ရေဝင်၍ နေသည်ရှိသော် ထိုလှေသည် ပေါ့ပါးလျင်မြန်စွာ မကူးရောက်နိုင်။ ရေတို့သည် လှေထဲ၌ များပြားစွာ ရောက်ရှိနေပါမူ ထိုလှေသည် တစ်ဖက်ကမ်းသို့ မရောက်ဘဲ ရေအောက်၌ နစ်မြုပ် ပျက်စီးပေအံ့။ လှေထဲ၌ရှိနေသော ရေကို ကုန်စင်အောင် ခပ်ထုတ်ပစ်လိုက်သော် ထိုလှေသည် ပေါ့ပါး လျင်မြန်စွာဖြင့် တစ်ဖက်ကမ်းသို့ ကူးမြောက်ပေအံ့။

လူ၏ ခန္ဓာကိုယ်သည် လှေနှင့်တူ၏၊ ခန္ဓာကိုယ်၌ ပိုစွဲလျက်ရှိသော ရာဂ၊ ဒေါသ စသော ကိလေသာ အညစ်အကြေး တို့သည် ရေနှင့်တူ၏။

ဘဝသံသရာ တည်းဟူသော ရေပြင်ကျယ်မှ လွတ်မြောက်ရန် ကိလေသာ အညစ်အကြေးတို့ကို ပယ်ဖြတ် သန့်ရှင်းပစ်ရပေမည်။

[သမ္ဗဟုလာဘိက္ခု၊ ဝဏ္ဏ၊]

## ကိုယ့်အား ကိုယ်ကိုး

မြင်းကုန်သည်တို့သည် ရောင်းရမည့် မြင်းများကို ဂရုတစိုက် ရှုကြသည်။ အထူးသဖြင့် မျိုးကောင်းသော မြင်းကို ပို၍ ဂရုတစိုက် ပြုစု မွေးမြူကြ၏။ အကြွင်းမဲ့ အား မျိုးကောင်းသော မြင်းသည် တန်ဖိုးကြီး ရောင်းဈေးကြီးတတ်သည်။

လူတို့သည် မိမိကိုယ်ကိုသာ လျှင် အားကိုးရာ၏၊ သူတစ်ပါးကို အားမကိုးရာ။ မြင်းကုန်သည်က အမျိုးကောင်းသော မြင်းကို အရေးတယူ အလေးအမြတ် ပြုသကဲ့သို့ မိမိကိုယ်ကို အလေး အမြတ် ပြုရာ၏။ အကြောင်းမူကား မိမိသာလျှင် မိမိအတွက် ပြုလုပ် ဖန်းတီးနိုင်သော ကြောင့်တည်း။

[နဂ်လ ကူသစ္ဂတရ ၀ဠ္ဌ]

## ပိုက်ကွန်ဟွင် က ငှက်များ

ငှက်မုဆိုးသည် ငှက်တို့ကို ပိုက်ကွန်အုပ်၍ ဖမ်းဆီးရာ၌ ပိုက်ကွန်မှ လွတ်သော ငှက်သည့် အနည်းငယ်မျှသာ ဖြစ်၏။ ပိုက်ကွန်တွင် ဖမ်းဆီး ရမိသော ငှက်များကား များပြားလှပေသည်။

ဤလောက၌ ဖြစ်ပျက် ခြင်းရှာ သင်္ခါရတရားအမှန်ကို ရှုမြင် သုံးသပ် နိုင်သူမှာ နည်းပါးလှချေ၏။ သင်္ခါရတရား အမှန်ကို ပညာ မျက်စိဖြင့် မရှုမြင် မသုံးသပ်တတ်သူ တို့သာ များပြားလေကုန်၏။

[ပေသကာ ရစိတာ ၀ဠ္ဌ]

## အနီး နှင့် အဝေး

ဟိမဝန္တာတောင်သည် အလွန်ဝေးစွာသော အရပ်၌ တည်ရှိသော်လည်း ထင်ထင်ရှားရှား ရှိလေ၏။

ပညာရှိ သူတော်ကောင်းတို့သည် ဝေးစွာသော အရပ် ဒေသများ၌ နေထိုင်သော်လည်း ထင်ပေါ် ကျော်စောလေ၏။

လူဖျင်း လူညံ့ တို့သည် အနီးအနား၌ ရှိနေကြသော်လည်း ထင်ပေါ် ကျော်စောခြင်း မရှိကြပေ။ ညဥ့်အခါ၌ ပစ်လွှတ် လိုက်သော မြှားတံ ကဲ့သို့တည်း။

[ဓမ္မပဒ ဂါထာ ၃၀၄]

# ရန်သူကို မြင်ရဲ့လား

ဤလောက၌ ရန်သူတို့ ဝိုင်းရံခြင်း ခံနေရသူသည် မည်သို့ ပြုလုပ်သင့်သနည်း။

ရန်သူတို့နှင့် ဝေးရာသို့ ရှောင်တိမ်း ထွက်ခွာသွားရန် လမ်းကို ရှာဖွေ၍ ထွက်မြောက် သွားသင့်သည်ပင် မဟုတ်လား၊

ရန်သူ ဟူသည် အဘယ်နည်း။

# ဗုဒ္ဓ၏ဥပမာတစ်ထောင်

ဓလေးမြိုင်

## ဗုဒ္ဓ၏ ဥပမာ တစ်ထောင်

**ဗုဒ္ဓမြတ်စွာသည်**

ပြောရေး ဆိုရေး၊ စည်းရုံးရေးနှင့် စီမံခန့်ခွဲရေး နည်းပညာ ဟူသမျှကို ကောင်းစွာသာလျှင် သိမြင်တော်မူ၍ လမ်းညွှန်ပေးတော်မူခဲ့ပါပေ၏။

**ဗုဒ္ဓမြတ်စွာသည်**

ခေါင်းဆောင်ကောင်းနှင့် လူကောင်း လူတော်တို့၏ အရည်အချင်းကို ကောင်းစွာ သိတော်မူ မြင်တော်မူ၍ လမ်းညွှန်ပေးတော်မူခဲ့ပါပေ၏။

**ဗုဒ္ဓမြတ်စွာသည်**

သံသရာ ဝဲဩဃကြီးထဲ၌ ပင်ပန်းကြီးစွာ နစ်မွန်းမျောပါ၍ နေသူတို့အား [redacted]၊ သုခ-ဒုက္ခကို သစ္စာဉာဏ်ဖြင့် သိမြင် ကူးမြောက်နိုင်စေရန် ဥပမာ အလင်္ကာ များစွာ ညွှန်းဖော် လမ်းပြပေးတော်မူခဲ့ပါပေ၏။

**ဗုဒ္ဓမြတ်စွာသည်**

လောက-ဓမ္မ-ရာဇ အကြောင်းသုံးပါးတို့နှင့် ဆက်နွယ် စပ်လျဉ်းလေသမျှ မျက်မှောက် - သံသရာ အရေးအရာတို့ကို လမ်းညွှန်ပြတော် မူခဲ့သော ဓမ္မပဒေသာ၊နီတိပဒေသာ၊လောကအလင်းရောင် **ဗုဒ္ဓ၏ဥပမာတစ်ထောင်။**